

စာပေဗိမာန်စာမူဆုရ

# ငါးရာ့ငါးဆယ်

## သိမှတ်ဖွယ်











ဦးဖေ့အေးချို
〈မဟာဝိဇ္ဇာ〉

၁၉၇၅ ခုနှစ် စာပေဗိမာန် စာမူဆု

သုတပဒေသာ (ဝိဇ္ဇာ) ပထမဆုရ

# ငါးရာ့ငါးဆယ် သိမှတ်ဖွယ်

ဦးအေးချို (မဟာဝိဇ္ဇာ)

အဖုံးပန်းချီ – မမိုးမိုး



စာပေဗိမာန်ထုတ် ပြည်သူ့လက်စွဲစာစဉ်

ပထမအကြိမ်၊ ၁၉၈၈၊ အုပ်ရေ ၂၀၅၀၀

အမှတ် ၅၂၉/၅၃၁ ကုန်သည်လမ်း၊ ရန်ကုန်မြို့၊
စာပေဗိမာန်အဖွဲ့၊ တွဲဖက်ညွှန်ကြားရေးမှူး ဦးမျိုးသန့်က
(မှတ်ပုံတင်အမှတ် ၀၂၈၁၉) ဖြင့် စာပေဗိမာန်ပုံနှိပ်တိုက်တွင်ရိုက်နှိပ်၍
(မှတ်ပုံတင်အမှတ် ၀၃၀၂၅) ဖြင့် ထုတ်ဝေသည်။

# ရည် ညွှန်း ချက်

ကောင်းမှုမြတ်နိုး၊
ကောင်းအောင်ကြိုးမြီး၊
ကောင်းကျိုးကိုယ်တွင်၊
တည်စေချင်၍၊
သွန်သင်ပေထ၊
ဆိုဆုံးမသော၊
မိဘနှစ်ပါး၊
နတ်ပြည်လားကို၊
ဝပ်တွားရိုကျိုး၊
ကျွန်ရှိခိုး၏။ ။
မြတ်နိုးကြင်နာ၊
သားမောင့်စာကို၊
နှစ်ဖြာမိဘ၊
မဖတ်ရလည်း၊
မိဘပေးအပ်၊
ခွန်အားမြတ်နှင့်၊
မပြတ်ကြိုးပမ်း၊
ဤစာတမ်းသည်၊
မှတ်တမ်းအဖြစ်၊
ဘဝသစ်မှ
ကြင်ချစ်နိုင်ပါစေသတည်း။

## ကျေးဇူးစကား

ဤစာအုပ်ကိုပြုစုရာတွင် အကြံဉာဏ်များပေးပြီး စာမူကြမ်းများကို သည်းခံဖတ်ရှု၍ ဝေဖန်ပေးကြသော ဆရာကြီး လင်းယုန်သစ်လွင်၊ သူငယ်ချင်းများဖြစ်သော ဦးစိန်လှိုင် (မဟာဝိဇ္ဇာ) ကဗျာဆရာ သူရဇော်၊ ဦးကျော်ဇံ (ဓမ္မာစရိယ–ဘီအေ) (ဝန်ထမ်းရေးရာ ဦးစီးဌာန)၊ စာအုပ်စာတမ်းများ ငှားရမ်းပေးသော ဆရာနန်းညွန့်ဆွေ၊ ဆရာဦးကျော့မောင်၊ ဦးလေးဦးသောင်း (တက္ကသိုလ်များ ဗဟိုစာကြည့်တိုက်) နှင့် စာမူကြမ်းများကို ဂရုတစိုက် ရိုက်ပေးသော ဦးရဲအောင် (ဆောက်လုပ်ရေး) တို့အား ကျေးဇူးအထူးတင်ရှိပါကြောင်း မှတ်တမ်းတင်အပ်ပါသည်။ ။

# မာတိကာ

အကြောင်းအရာ

စဉ် အကြောင်းအရာ စာမျက်နှာ

## နောက်ဆက်တွဲများ

# နိဒါန်း

မြန်မာနိုင်ငံသားအများစုသည် ဗုဒ္ဓဘာသာကို ယုံကြည်ကိုးကွယ်ကြကြောင်း အထူးပြောဖွယ်မလိုပေ။ ထို့ကြောင့် ဗုဒ္ဓ၏ အဆုံးအမ ပိဋကတ်စာပေများကို လေ့လာဖတ်ရှုကြသည်။ တစ်ချိန်က မြန်မာ့ပညာရေးစနစ် လက္ခဏာသည် ဗုဒ္ဓစာပေများပင် ဖြစ်သည်။ ဗုဒ္ဓစာပေများတွင် ဇာတက ဝတ္ထုများကို စာပေ တတ်ကျွမ်းသူ များသာမက တောင်သူလယ်သမား အလုပ်သမားများပါကျွမ်းဝင်နှစ်ခြိုက်ကြသည်။

ကျွန်တော်တို့ငယ်စဉ်က နွေရာသီ ဥတုပြင်းထန်သဖြင့် ရောဂါဘယများ ထူပြောလာချိန်တွင် ဖခင်က လက် ၁၀ ချောင်းရှိ လက်သည်းခွံများပေါ်၌ သံကညစ်ဖြင့် "တေ၊ ဇ၊ သု၊ နေ၊ မ၊ ဘူ၊ စံ၊ နာ၊ ဝိ၊ ဝေ" ဟူသော စာလုံးများ ရေးပေးတတ်သည်ကို မှတ်မိနေသည်။ ရောဂါဘယဖြစ်၍ ဘေးဆီးရန်ကာ ကိုးကွယ်ရာအဖြစ် ဇာတ်တော်များကို လက်ပေါ်တွင် ကမ္ပည်းတင်ပေးခြင်းဖြစ်သည်။ ဤသို့ရေးပေးခြင်းသည် ကမ္ဘာနာခေါ် ရောဂါဆိုးကြီးများ မကပ်ရောက်စေရန် ဖြစ်သည်ဟု ဖခင်ပြောပြ၍ ငယ်စဉ်က သိလာခဲ့သည်။ တေ၊ ဇ၊ သု၊ နေ၊ မ ၏ အကျယ်ကို အမေကပြောပြသည်။ ထိုဇာတ်တော်များကို ညအိပ်ရာဝင်ချိန်တွင် ပြောပြတတ်သည်။ ထို့ကြောင့် ဇာတ်ကြီး ဆယ်ဘွဲ့အကြောင်းကို ငယ်စဉ်ကပင် ရင်းနှီးလာသည်။ ဤဓလေ့ကို ကျေးလက်များတွင် ယနေ့တိုင် ကျင့်သုံး နေကြသေးကြောင်း သိရှိရပါသည်။ ကျေးလက်နေကလေးများလည်း ကျွန်တော်တို့ကဲ့သို့ ဇာတ်တော်များနှင့် ရင်းနှီးလာကြမည်မှာ မလွဲဖြစ်ပေသည်။

လူတစ်ယောက် ကိုယ့်လူသူ့ဘက်သားဖြစ်သွားလျှင် "ဒီကောင်က သူခိုး မားရှီးကမ်းတဲ့အကောင်" ဟု ခိုင်းနှိုင်းတတ်ကြသည်။ မြုံစိစိနေ

တတ်သူကို "တေမိလုပ်မနေနဲ့" အလှူအတန်းရဲရင့်သူကို "ဝေဿန္တရာ" စသည်ဖြင့် ဥပမာပြု၍ တင်စားပြောဆိုတတ်ကြသည်။ ခိုင်းနှိုင်းပုံထုတ်ကြသည်။

ငါးရာ့ငါးဆယ် ဇာတ်တော်များကို ဗုဒ္ဓ၏ နုစဉ်ဘဝများက ဖြစ်တော်ပေါင်းများအဖြစ် လက်ခံထားကြသည်။ ထို့ကြောင့် ဇာတ်တော်များကို ဖတ်ရှုရသောအခါ ဗုဒ္ဓဘာသာဝင်များသည် သာမန်ပုံဝတ္ထုများအဖြစ် မဖတ်ကြမူဘဲ ကြည်ညိုသဒ္ဓါတရားဖြင့် ဖတ်ရှုကြသည်။ ဇာတ်တော်လာအဆုံးအမများကို လိုက်နာကျင့်ကြံရန် တရားဓမ္မများအဖြစ် လေးစားယုံကြည်ကြလေသည်။

"ပဉ္စတန္တရ" "ဟိတောပဒေသ" မှ ပုံပြင်အချို့ကို ငါးရာ့ငါးဆယ် ဇာတ်ဝတ္ထုများတွင် တွေ့ရလေသည်။ ပဉ္စတန္တရ ဟိတောပဒေသ နှင့် ဇာတကဝတ္ထုများ၏ ရင်းမြစ်သည် အိန္ဒိယမှပင်ဖြစ်သည်။ မည်သည့်စာပေကစောသည်၊ မည်သည့်စာပေက နှောင်းသည်ဟူ၍ မည်သည့်ပညာရှင်ကမျှ အသေအချာ မပြောနိုင်သေးချေ။ စာပေသဘောတရားအရ တစ်ခုနှင့်တစ်ခု နီးနွယ်နေကြသည်မှာလည်း သဘာဝပင်ဖြစ်ရာ အထူးစဉ်းစားနေဖွယ်မရှိတော့ပြီ။

သို့ရာတွင် မြန်မာများအနေနှင့် ဟိတောပဒေသ၊ ပဉ္စတန္တရ တို့နှင့် ဇာတကဝတ္ထုများကို အလေးထားပုံချင်း မတူကြချေ၊ နေရာပေးပုံချင်းမတူကြချေ။ ဇာတကဝတ္ထုများကို ဗုဒ္ဓဟောကြားတော်မူသော ဒေသနာများအဖြစ် သင်္ဂါယနာတင်ကျမ်းများအဖြစ် ကြည်ညိုလေးစားစွာ ကြားနာဖတ်ရှုကြသည်။ တစ်နည်းဆိုရသော် ဇာတကဝတ္ထုများကို တရားရတနာအဖြစ် ကိုးကွယ်ဆည်းကပ်ရာ ကြည်ကြည်ညိုညို ရှိကြသည်။

မြန်မာများသည် ဇာတကဝတ္ထုများကို မည်မျှကြည်ညိုကြသနည်းဆိုသော် ဝတ္ထုဟူသော ဝေါဟာရကိုပင် တန်ဖိုးထားတတ်ကြသည်။ မြန်မာကာလပေါ် ဝတ္ထု ခေတ်ဦးက "မောင်စောဘေဝတ္ထု" "မစောမေဝတ္ထု" ဟု မောင်စောဘေ၊ မစောမေ အမည်များတွင် "ဝတ္ထု" ဟူသော ဝေါဟာရတပ်သဖြင့် အဂါရဝဖြစ်သည်ဆိုပြီး ပွက်လောရိုက်ခဲ့

သေးသည်။ ဗုဒ္ဓ၏ ဖြစ်တော်ပေါင်း ဒေသနာတရားအစုကိုသာ ဝတ္ထု ဟူသော ဝေါဟာရ သုံးသင့်ကြောင်း ဝေဖန်ကာကွယ် ခဲ့ကြသည်။ ဤမျှပင် ဇာတကဝတ္ထုများကို ကြည်ညိုကြသည်။

မြန်မာများက ဇာတက ဝတ္ထုများ၏ အနှစ်ချုပ် ဒေသနာတရား တော်တို့သည် နိဗ္ဗာန်ရောက်ကြောင်း တရားများ၊ ဗုဒ္ဓ၏ အဆုံးအမ များပင်ဖြစ်သည်ဟူ၍ ယုံကြည်ကြသည်။ မြန်မာ့ယုံကြည် ကိုးကွယ်မှု နှင့် လူမှုရေးယဉ်ကျေးမှုနယ်တွင် ဇာတကဝတ္ထုများ၏ အဆုံးအမ ဩဇာများသည် နက်နက်ရှိုင်းရှိုင်းရှိနေသည်။ ဇာတကဝတ္ထုများ၏ အဆုံးအမနှင့် မြန်မာ့ယဉ်ကျေးမှုကို ခွဲခြား၍ပင် မရနိုင်အောင် ရှိနေ ပေသည်။

ဇာတကဝတ္ထုများကို လေ့လာသောအခါ စိတ်ဝင်စားဖွယ်၊ မှတ် သားဖွယ်များ တွေ့လာရလေသည်။ ဇာတ်တော် အရေအတွက်ကပင် စိတ်ဝင်စားဖွယ် ဖြစ်နေသည်။ ဤ စိတ်ဝင်စားဖွယ်များကို တစ်စု တစ်စည်းတည်း တင်ပြရသော် "ဓမ္မသဝန၊ ဓမ္မဒေသနာ" ဟူသည့် ကောင်းမြတ်သော မင်္ဂလာတစ်ပါးဖြစ်သည်ဟု ယုံကြည်၍ ဤစာအုပ်ကို ပြုစုတင်ပြရခြင်းဖြစ်ပါသည်။

ငါးရာ့ငါးဆယ်ဇာတ်တော်များကို ဖတ်ရှုရသောအခါ ပေါ်ပေါက် လာသော သဒ္ဓါတရားအဟုန်ကြောင့်သာ ဤစာအုပ်ကို ပြုစုရခြင်း ဖြစ်ပေသည်။ ငါးရာ့ငါးဆယ်ဇာတ်တော်များ၏ ရင်းမြစ်တည်ရှိရာ ပါဠိစာပေ ဇာတက အဋ္ဌကထာများကို မှေ့နှောက်နိုင်စွမ်း မရှိပါ။ မြန်မာပြန်များကိုသာ အားကိုးရပါသည်။ သို့အတွက်အားနည်းမှုများ ရှိနိုင်ပါသည်။ ဤသို့သောအားနည်းမှုများတွေ့ပါက ခွင့်လွှတ်နိုင်ပါစေ ဟုသာ ဆုတောင်းရပါသည်။ ။

အခန်း ၁

# ငါးရာ့ငါးဆယ်၏ အစ

ငါးရာ့ငါးဆယ် ဇာတ်တော်များသည် ဗုဒ္ဓစာပေတွင် ထင်ရှားပြီး လူသိများသော ဇာတ်တော်များ ဖြစ်ကြပါသည်။ ပိဋကတ်တော်များကို ဝိနယပိဋက၊ သုတ္တပိဋက၊ အဘိဓမ္မပိဋကဟူ၍ သုံးပိုင်းခွဲခြားထားသည်။ ထိုသုံးပိုင်းကိုပင် ပိဋကသုံးပုံဟု ခေါ်ကြခြင်းဖြစ်သည်။ ငါးရာ့ငါးဆယ် ဇာတ်တော်များသည် သုတ္တပိဋကတွင် ပါဝင်သည်။

သုတ္တပိဋကကို နိကာယ်အားဖြင့် ငါးရပ်ခွဲထားသည်။

၁။ ဒီဃနိကာယ်၊
၂။ မဇ္ဈိမနိကာယ်၊
၃။ သံယုတ္တနိကာယ်၊
၄။ အင်္ဂုတ္တရနိကာယ်၊
၅။ ခုဒ္ဒကနိကာယ် တို့ ဖြစ်သည်။

ငါးရာ့ငါးဆယ်ဇာတ်တော်များမှာ ခုဒ္ဒကနိကာယ်အဝင် ပါဠိဇာတ်ပါဠိတော်တွင် ပါဝင်သည်။ ဗုဒ္ဓစာပေတွင် ထင်ရှားသော ဓမ္မပဒပါဠိတော်၊ ဝိမာနဝတ္ထု၊ ပေတဝတ္ထုနှင့် ထေရီထေရာဂါထာတို့သည်လည်း ခုဒ္ဒကနိကာယ်တွင် ပါဝင်ပါသည်။[၁]

ငါးရာ့ငါးဆယ် ဇာတ်တော်များကို မြန်မာများက ဇာတ်အရေအတွက်ကို အကြောင်းပြု၍ "ငါးရာ့ငါးဆယ်" ဟုပင် ခေါ်ဆိုကြသော်လည်း ပိဋကတ်စာပေ၌ "ဇာတကပါဠိတော်" ဟူ၍ သုံးပါ

သည်။ "ဇာတက" မှာ ပါဠိစကားဖြစ်ပြီး မြန်မာဘာသာအားဖြင့် "ဖြစ်ပျက်သော အကြောင်းအရာ" ဟူ၍ အဓိပ္ပာယ်ရသည်။

ပိဋကတ်ဝင် မူလ "ဇာတကကျမ်း" မှာ ဂါထာများချည်းသက်သက် ပါဝင်သောကြောင့် ဇာတ်လမ်းများနှင့်တကွ ဝေဝေဆာဆာ ရေးသားထားသော "ဇာတက အဋ္ဌကထာ" ကျမ်းကဲ့သို့ စိတ်ဝင်စားဖွယ် မကောင်းလှပါ။ ယခုကဲ့သို့ ဝေဝေဆာဆာ တွေ့ရခြင်းမှာ "ဇာတကတ္ထဝဏ္ဏနာကျမ်း" ကြောင့် ဖြစ်ပါသည်။ ဇာတကတ္ထ ဝဏ္ဏနာကျမ်းမှာ ပါဠိဂါထာများကို ဇာတ်ကြောင်းဆင်၍ ရေးသားထားခြင်း ဖြစ်ပါသည်။ ဇာတကတ္ထ ဝဏ္ဏနာကျမ်းကို အမည်မသိ သီဟိုဠ်ရဟန်းတော်တစ်ပါးက ပြုစုခဲ့ကြောင်း သိရှိရပါသည်။

ဦးကြင်လှိုင်က ဇာတက အဋ္ဌကထာကျမ်းနှင့် ပတ်သက်၍ ဤသို့ တင်ပြဖူးပါသည်။ ဦးကြင်လှိုင်၏ အဆိုမှာ ပိဋကတ်တော်ဝင် ဇာတကကျမ်းကို သီဟိုဠ်ရဟန်းတစ်ပါးက သီဟိုဠ်ဘာသာဖြင့် အဋ္ဌကထာဖွင့်ခဲ့သည်။ ယင်းကျမ်းသည် ဇာတကတ္ထ ဝဏ္ဏနာကျမ်း ဖြစ်သည်။ ဤကျမ်းကိုမှ ရှင်မဟာဗုဒ္ဓဃောသက သီဟိုဠ်ဘာသာမှ ပါဠိဘာသာသို့ ဘာသာပြန်ခြင်းဖြစ်သည်ဟူ၍ ဖြစ်ပါသည်။[၂]

ဒေါ်အုန်း၏အဆိုမှာ ဇာတကတ္ထ ဝဏ္ဏနာကျမ်းသည် ပါဠိဇာတက အဋ္ဌကထာကို မှီးထားသောကျမ်း ဖြစ်သည်။ ဤကျမ်း (ဇာတကတ္ထဝဏ္ဏနာ) ကို ရှင်မဟာဗုဒ္ဓဃောသက သီဟိုဠ်ဘာသာမှ ပါဠိဘာသာသို့ ဘာသာပြန်ဆိုခြင်းဖြစ်သည်ဟူ၍ ဖြစ်ပါသည်။[၃]

ဒေါ်အုန်း၏ အဆိုအရမူ ဇာတကတ္ထ ဝဏ္ဏနာကျမ်း အရင်က ပါဠိဘာသာဖြင့် ဇာတက အဋ္ဌကထာကျမ်းတစ်စောင် ရှိခဲ့ဖူးသည်ဟု နားလည်မိပါသည်။ ဦးကြင်လှိုင်က ဤသို့ မတင်ပြခဲ့ပါ။

ဇာတကဝတ္ထုများကို မည်သည့်ခုနှစ်က ရေးခဲ့ကြောင်းကို အတိအကျ မပြောနိုင်ကြသေးချေ။ ရှင်မဟာဗုဒ္ဓဃောသက ပါဠိအဋ္ဌကထာသို့ ပြန်ဆိုသည့်ကာလမှာ အေဒီ ၆ ရာစုခန့်ဟု ခန့်မှန်းကြပါသည်။ အိန္ဒိယပြည်တွင် ဘီစီ ၂ ရာစုခန့်က တည်ဆောက်ခဲ့သည်ဟုယူဆရသော

ဘာရဟုတ်[၆] စေတီတွင် ဇာတကအဋ္ဌကထာလာ ဇာတ်တော်များကို ကျောက်ဆစ်ရုပ်တု လုပ်ထားသည်ကို တွေ့ရပါသည်။

ဆရာနိုင်ပန်းလှက ငါးရာ့ငါးဆယ်ဇာတ်တော်များ၏အစကို ဤသို့ တင်ပြဖူးပါသည်။

"ရှေးအကျဆုံး ဇာတ် ၅၅၀ ဆိုင်ရာ မှတ်တမ်းများကို အိန္ဒိယပြည်စန်ချီ[၁] နှင့် ဘာရဟုတ်ဘုရားများတွင် ပန်းတမော့ ခေါ် ကျောက်ဆစ်ပန်းပုလက်ရာများဖြင့် ထုလုပ် သရုပ်ဖော် ထားခဲ့လေသည်။ ဘာရဟုတ် ဘုရားတွင် တွေ့ရှိသည့် ဗြဟ္မီ အက္ခရာတို့ဖြင့် ကမ္ပည်းထိုးထားသော ဇာတ်တော် ၅၅၀ အမည်နာမများသည် ရှေး အကျဆုံး ဖြစ်လေသည်ဟု ပါမောက္ခ အီးဘီကောင်ဝဲလ်၏ ဇာတ် ၅၅၀ စာအုပ်တွင် ဆိုထားလေသည်။ ထိုအက္ခရာ အရေးအသားများသည် အာသောက မင်းတရားကြီးလက်ထက်ဖြစ်သည့် ခရစ်မပေါ်မီ ဘီစီ ၂၅၀ လောက်က ရေးထိုးခဲ့ခြင်းဖြစ်လေသည်။ တစ်နည်း ဆိုသော် အရှင်ဂေါတမ မြတ်စွာဘုရား ပရိနိဗ္ဗာန်စံလွန်တော် မူပြီးနောက် တတိယ သင်္ဂါယနာတင်သည့် ဗုဒ္ဓဘာသာနှစ် ၂၃၆ ခုနှစ်လောက်တွင် ဇာတ် ၅၅၀ ဆိုင်ရာအမည်နာမများကို ကျောက်ထက် အက္ခရာများနှင့် ပထမအကြိမ် တွေ့ရှိရလေ သည်"[၆]

ဒေါ်အုန်းကလည်း ပါဠိစာပေသမိုင်းကျမ်းတွင် ဤသို့တင်ပြထား ပါသည်။

"ပန်းပုနှင့်ပန်းချီပညာ လက်စွမ်းပြထားသော ဇာတ်တော် များကို အောက်ပါဒေသများတွင် တွေ့နိုင်လေသည်။ ခရစ် မပေါ်မီ ဒုတိယ (ဝါ) တတိယရာစုနှစ်တွင် အိန္ဒိယပြည် ဘာရ ဟုတ်နှင့် သဉ္စီ (စန်ချီ) ပုထိုးတုရိုဏ်တိုင်များနှင့် ဗုဒ္ဓဂါယာ။ ခရစ်မပေါ်မီ ဒုတိယ ရာစုတွင် "အမရာဝတီ ကျောက်စာတိုင် များနှင့်အဇန္တာဂူများ"[၇]

မောင်မဲကလည်း သုဝဏ္ဏဘူမိတိုင်းကို စိစစ်တင်ပြရင်း ဇာတ်တော်များကို ဤသို့ သုံးသပ်ပြပါသည်။

"ခေတ်ပိုင်းခြားနိုင်ရန် မဟာဇနကဇာတကကို စိစစ်သောအခါ၊ ဘီစီနှစ်ရာစုကတည်ခဲ့သော ဘာရှုတ် (ဘာရဟုတ်) စေတီတွင် မဟာဇနကဇာတကကို ကျောက်ဆစ်ထုလုပ် သန္နိပ်ဖော်ထားသည်ကို တွေ့ရလေသည်။ ထို့ကြောင့် ဘီစီနှစ်ရာစုတွင် မဟာဇနကဇာတကသည် ရေးသားပြီးစီးပြီး ဖြစ်လေသည်။"[၈]

ဖော်ပြပါ တင်ပြချက်များအရ ဇာတကများကို ဘီစီ ၂ ရာစုတွင် ရေးသားပြီးစီးပြီဖြစ်ကြောင်းတွေ့ရပါသည်။ ၎င်းဇာတ်တော်များသည် ဇာတက အဋ္ဌကထာကျမ်းလာ ဇာတ်တော်များသာ ဖြစ်သည်။ ပါဠိပိဋကတ်တော်ဝင် ဇာတ်များမဟုတ်။ ထို့ပြင် ယခုလက်ရှိ ဇာတ်တော်များမှ မည်ရွေ့မည်မျှသည် ပါဠိပိဋကတ်တော်ဝင်ဇာတ်များဖြစ်သည်ဟု အတိအကျ မဆုံးဖြတ်နိုင်ချေဟူ၍ စိစစ်ဝေဖန် တင်ပြထားသည်များကိုလည်း တွေ့ရပါသည်။

ယနေ့လက်ခံထားကြသော ငါးရာ့ငါးဆယ် ဇာတ်တော်များသည် ၅၅၀ အပြည့်မရှိပေ။ ၅၄၇ ဇာတ်သာ ရှိသည်။ ဇာတ်တော်များကို ဇာတကအဋ္ဌကထာအတိုင်း နိပါတ် (နိပါတ) ခေါ် အခန်းကဏ္ဍများ ၂၂ ခု ခွဲခြားထားလေသည်။ ဂါထာအရေအတွက်ကိုလိုက်၍ ဧကနိပါတ်၊ ဒုကနိပါတ်ဟု ခွဲပေးထားလေသည်။ ဂါထာတစ်ခုတည်းဖြင့် ဟောကြားထားသော ဇာတ်တော်ကို ဧကနိပါတ်၊ နှစ်ခုဖြင့် ဟောကြားလျှင် ဒုကနိပါတ်စသည်ဖြင့် မှတ်ခေါ်ထားပါသည်။ ဇာတ်ကြီးဆယ်ဘွဲ့ဟု အများနားလည်ကြသော ဇာတ်တော်ကြီးများကိုမူ မဟာနိပါတတွင် ထည့်သွင်းထားပါသည်။ ဇာတ်တော်၏အရေအတွက်မှာ နိပါတ်အလိုက် အောက်ပါအတိုင်းရှိကြပါသည်။[၉]

| | | | |
|---|---|---|---|
| ၁။ | ဧကနိပါတ် | ဇာတ်တော် | ၁၅၀ |
| ၂။ | ဒုကနိပါတ် | ။ | ၁၀၀ |
| ၃။ | တိကနိပါတ် | ။ | ၅၀ |
| ၄။ | စတုက္ကနိပါတ် | ။ | ၅၀ |

| | | | |
|---|---|---|---|
| ၅။ | ပဉ္စကနိပါတ် | ဇာတ်တော် | ၂၅ |
| ၆။ | ဆက္ကနိပါတ် | ။ | ၂၀ |
| ၇။ | သတ္တကနိပါတ် | ။ | ၂၁ |
| ၈။ | အဋ္ဌကနိပါတ် | ။ | ၁၀ |
| ၉။ | နဝကနိပါတ် | ။ | ၁၂ |
| ၁၀။ | ဒသကနိပါတ် | ။ | ၁၆ |
| ၁၁။ | ကောဒသကနိပါတ် | ။ | ၉ |
| ၁၂။ | ဒွါဒသကနိပါတ် | ။ | ၁၀ |
| ၁၃။ | တေရသကနိပါတ် | ။ | ၁၀ |
| ၁၄။ | ပကိဏ္ဏကနိပါတ် | ။ | ၁၃ |
| ၁၅။ | ဝီသတိနိပါတ် | ။ | ၁၄ |
| ၁၆။ | တိံသနိပါတ် | ။ | ၁၀ |
| ၁၇။ | စတ္တာလီသနိပါတ် | ။ | ၅ |
| ၁၈။ | ပဏ္ဏာသနိပါတ် | ။ | ၃ |
| ၁၉။ | သဋ္ဌိနိပါတ် | ။ | ၂ |
| ၂၀။ | သတ္တတိနိပါတ် | ။ | ၂ |
| ၂၁။ | အသီတိနိပါတ် | ။ | ၅ |
| ၂၂။ | မဟာနိပါတ် | ။ | ၁၀ |
| | | ပေါင်း = | ၅၄၇ |

ဇာတကပါဠိတော်သည် ဂါထာများချည်းဖြစ်ပြီး ယင်းဂါထာများကို အဋ္ဌကထာဖွင့်၍ စေ့စေ့ဆာဆာပြုစုခဲ့ကြောင်း တင်ပြခဲ့ပြီး ဖြစ်ပါသည်။ သို့သော် ဇာတကအဋ္ဌကထာကျမ်း၌ပါရှိခဲ့သော ခက်ခဲသည့် ပုဒ်၊ ပါဌ်များကို အနက်အဓိပ္ပာယ်ဖွင့်သည့် ဋီကာကျမ်းများလည်း ပေါ်ခဲ့လေသည်။ ယင်း ဋီကာများမှာ သီဟိုဠ်ကျွန်း အနုရာဓမြို့ အနောက် ဗဒရတိတ္ထကျောင်းတိုက်နေ အရှင်ဓမ္မပါလမထေရ် ပါဠိဘာသာဖြင့် ရေးသားသည့် ဇာတ်ဋီကာ ဖြစ်ပါသည်။ "လိနတ္ထပကာသနီ

ဋီကာ" ဟု ခေါ်ပါသည်။ ၎င်းဋီကာကို မြန်မာနိုင်ငံတွင် "ဇာတ်ဋီကာ ဟောင်း" ဟု ခေါ်ပါသည်။ အကြောင်းမှာ "ဇာတ်ဋီကာ" တစ်စောင် ထပ်မံ၍ ရေးသားခဲ့သောကြောင့် ဖြစ်ပါသည်။ မြန်မာနိုင်ငံ၏ ဇာတ်ဋီကာအကြောင်းကို နောက်ပိုင်းတွင် ဆက်လက်တင်ပြပါမည်။

## (၁) မြန်မာနိုင်ငံမှ ငါးရာ့ငါးဆယ်

မြန်မာနိုင်ငံသား အများစုမှာ ထေရဝါဒ ဗုဒ္ဓဘာသာကို ကိုးကွယ်သူများဖြစ်ကြပါသည်။ ထေရဝါဒ ဗုဒ္ဓဘာသာ ပိဋကတ်တော်များလည်း အပြည့်အစုံရှိသော နိုင်ငံတစ်နိုင်ငံ ဖြစ်ပါသည်။ မြန်မာနိုင်ငံသို့ မည်သည့်ကာလမှ စတင်၍ ဇာတ်တော်များ ရောက်ရှိနေကြောင်း လေ့လာကြည့်ရာတွင် ဆရာပါရဂူက —

"မြန်မာနိုင်ငံတွင် ပိဋကစာပေ စတင် ရောက်ရှိလာသည့် ခေတ်ဖြစ်သော သာသနာနှစ် ၉၃၀ ကျော်တွင် ဇာတ်နိပါတ်သည် သထုံသို့ စတင်ရောက်ရှိလာသည်ဟု ဆိုရပေလိမ့်မည်။ သထုံမှတစ်ဆင့် သက္ကရာဇ် ၄၀၀ ကျော်လောက်တွင် ပုဂံသို့ ရောက်ရှိလာပြီး ဇာတ်နိပါတ်သည် မြန်မာနိုင်ငံတစ်ဝန်းလုံးတွင် ပြန့်ပွားသွားခဲ့လေသည်"၁၀

ဟူ၍ ရေးသားထားပါသည်။ ဆရာပါရဂူတင်ပြသော "သထုံ"သည် "သုဝဏ္ဏဘူမိ" ကို ဆိုလိုဟန်ရှိသည်။ သုဝဏ္ဏဘူမိနှင့်ပတ်သက်၍ အယူအဆ အမျိုးမျိုးရှိနေသေးသည်။ မန္တလေးတက္ကသိုလ်မှ အငြိမ်းစား သမိုင်းပါမောက္ခ ဒေါက်တာသန်းထွန်းက သူ၏ခေတ်ဟောင်း မြန်မာ ရာဇဝင်တွင် —

"သထုံကိုအောင်နိုင်သော အေဒီ ၁၀၅၇ တွင်မှ မြန်မာတို့ ဗုဒ္ဓဝါဒကို ကြားဖူးသိဖူးလေဟန် ရေးမှတ်ကြသည်က သာ၍ မှားလေသည်။ ပုဂံဖက်လိပ်ဘုရားနှစ်ဆူမှာ ရှေးဟောင်း သုတေ

သနဆရာတို့ အယူအားဖြင့် အနိရုဒ္ဓ (အနော်ရထာ) ခေတ်ထက် စောသည်ဟု ဆိုသဖြင့် အနိရုဒ္ဓက သထုံကို မသိမ်းယူမီကပင် မြန်မာတို့ ဗုဒ္ဓဘာသာဝင်များ ဖြစ်နေကြပြီဟု ယူဆကြရပါမည်''[၁၁]

ဟူ၍ ရေးသားခဲ့ဖူးလေသည်။ မောင်မဲကလည်း သုဝဏ္ဏဘူမိကို စိစစ်ရင်း –

"ပုဂံသာသနာဝင်သမိုင်းတွင် အနိရုဒ္ဓဒေဝ သထုံကို အောင်လေမှ ပုဂံတွင် ဗုဒ္ဓသာသနာ ရောက်ရှိသည်ဟူသော အဆိုကို ခေတ်သမိုင်းပညာရှင်တို့ ငြင်းပယ်ကြလေသည်" [၁၂] ဟူ၍ သုံးသပ်ထားပါသည်။

မောင်မဲက သမိုင်းပညာရှင်များ၏ တင်ပြချက်ကို စိစစ်တင်ပြပြီးနောက် –

"ပုဂံသာသနာသည် သထုံမတိုင်မီကပင် ရှိနှင့်နေသော သာသနာဖြစ်ကြောင်း တွေ့ရသည်''[၁၃]

ဟူ၍ မှတ်ချက်ချထားပါသည်။ ဤတင်ပြချက်များကို ထောက်၍ အထက်မြန်မာနိုင်ငံသို့ ရောက်ရှိနေသော ပါဠိတော်များသည် သထုံကို အောင်နိုင်ပြီးမှ ပြန့်ပွားလာသော ပါဠိတော်များမဟုတ်ကြောင်းသိရပါသည်။ ယင်းအချက်ကို ပုဂံခေတ်မတိုင်မီက ထင်ရှားခဲ့သော ပျူမြို့ဟောင်းများမှ တူးဖော်ရရှိသော ရွှေပေများက ထင်ရှားစေပါသည်။

၁၉၅၅ ခုနှစ်တွင် သရေခေတ္တရာမြို့ဟောင်းကို စစ်ပြီးကာလ ဒုတိယအကြိမ်မြောက် ဆက်လက်တူးဖော်ရာ "ရွှေတံခါးဝ" ခေါ် သရေခေတ္တရာ မြို့ရိုးဟောင်းတံခါးဝ မြို့ရိုး၏အဝင် လက်ဝဲဘက်၌ မြို့ရိုးနှင့်ကပ်လျက် ပျူကမ္ပည်းစာ အရေးအသားပါသော ကျောက်စာတိုင်ကို တွေ့ရပါသည်။ ဤကျောက်စာမှာစာကြောင်းရေ ၃၀ မျှပါဝင်ပါသည်။ စာများ ပျက်စီးပြွန်းတီးမှုများပြားသဖြင့် လက်ယာဘက်အောက်ခြေမှ စာလုံးအချို့ကိုသာ ဖတ်ရှု လေ့လာနိုင်ပါသည်။ ထင်ရှားစွာ ဖတ်ရှုရသမျှမှာ "ပထဝိပ္ပဘာသော" အစချီလျက် ဤသို့တွေ့ရပါသည်။

(၂၃) ............... ပထဝိပ္ပဘာသော တံတံနမ ...............
(၂၄) ............... အပေတယံ စက္ခုမြာဇ ...............
(၂၅) ............... ဝိမုတ္တိယာ ကွမံသော ...............[၁၄]

ဤဂါထာများကို လေ့လာကြည့်သောအခါ "မောရသုတ်တော်" တွင်လာသော ပါဠိဂါထာတော်များဖြစ်ကြောင်း သိရပါသည်။

ထိုကျောက်စာ၏ အက္ခရာအရေးအသားမှာ ပျူအက္ခရာပါဠိတော်များဖြစ်သည်ဟု သိရပါသည်။ ကျောက်စာ ရေးထိုးသည့် ကာလကို ရှေးဟောင်း သုတေသန ဌာနက ခရစ်နှစ် ၆ ရာစုနှင့် ၇ ရာစုအတွင်းဟု ခန့်မှန်းပါသည်။

ဤကျောက်စာကို ထောက်၍ ခရစ်နှစ် ၆ ရာစု ၇ ရာစုအတွင်း မောရသုတ်ကို ပျူနိုင်ငံတွင် ရွတ်ဆိုနေပြီဖြစ်ကြောင်း သိရသဖြင့် မောရဇာတ်တော်ကိုလည်း ပျူနိုင်ငံသားများ သိရှိနေကြပြီဟု ယူဆနိုင်ပါသည်။ ထို့ကြောင့် မြန်မာနိုင်ငံတွင် ဇာတ်တော်များရောက်ရှိလာသောကာလမှာ ခရစ်နှစ် ၆ ရာစုနှင့် ၇ ရာစုအတွင်းဖြစ်ကြောင်း သိရလေသည်။

ငါးရာ့ငါးဆယ် ဇာတ်တော်နှင့်ပတ်သက်၍ နိုင်ပန်းလှ၏ အဆို အမိန့်တစ်ခုကို တင်ပြရသော် –

"ခရစ်နှစ် ဆယ်ရာစုနှစ်နောက်ပိုင်းထိုးသည့် သသုံမနူဟာမင်းခေါ် မကုတမင်း၏ပဏ္ဏိတ်မွန်ကျောက်စာတွင် နှစ်ကျိပ်ရှစ်ဆူ ဘုရားစာရင်း ဗုဒ္ဓဝင်နှင့် ဇာတ်ကြီးဆယ်ဘွဲ့ဆိုင်ရာ အရေးအသားများကို ရှေးဦးစွာ တွေ့ရလေသည်။ ထိုခေတ်တွင်မှ တည်ဆောက်သည့် သထုံကလျာဏီသိမ်၏ မှတ်တိုင်များပေါ်တွင်လည်း ဇာတ်ကြီးဆယ်ဘွဲ့ကို ပန်းတမော့ခေါ် ကျောက်ဆစ် ပန်းပုလက်ရာများဖြင့် ထုလုပ်သရုပ်ဖော်ထားသည်ကို ရှေးဦးစွာ တွေ့ရပြန်သည်။ ထို့ပြင် သထုံရွှေစာရံဘုရားနှင့် ကလျာဏီသိမ်အကြားရှိ သိကြားဘုရား ပစ္စယာပေါ်တွင်တွေ့ရှိသည့်

စဋ္ဋချပ်များသည်လည်း ဇာတ်ကြီးဆယ်ဘွဲ့ကို သရုပ်ဖော်ထား ပြန်လေသည်။" ၁၅

ဆရာနိုင်ပန်းလှက ဤ ဇာတ်ကြီးဆယ်ဘွဲ့သည် ပုဂံမတိုင်မီက ဟု တင်ပြပြီးနောက် သထုံမှ ပုဂံနိုင်ငံသို့ သာသနာ ပြန့်ပွားပုံကို တင်ပြ ခဲ့ပါသည်။ ဤ အထောက်အထားများကိုကြည့်လျှင် မြန်မာနိုင်ငံ၏ ငါးရာ့ငါးဆယ် ဇာတ်တော်များ၏အစကို ပျူခေတ်တွင်ပင် ခြေရာ ကောက်၍ ရနိုင်လေသည်။ ပျူနိုင်ငံမှ "မောရသုတ်" ကျောက်စာ၏ အောက်တွင် ဆက်လက်ပြီး "မင်္ဂလသုတ်ပရိတ်တော်" ကိုလည်း ရေးထိုးခဲ့သဖြင့် မြို့တွင်း အန္တရာယ်ကင်းစေရန်အတွက် ပရိတ်တော် များကို ကျောက်စာ ရေးထိုးခဲ့ခြင်း ဖြစ်ကြောင်း ထင်ရှားပါသည်။ ဤသည်ကို ထောက်၍ ပရိတ်တော်ချည်း သက်သက်သာ ရောက်ရှိ သည်။ ဇာတ်တော်များ မရောက်သေးဟုလည်း စောဒကပြုဖွယ် ရှိ ပြန်သေးသည်။ သို့ရာတွင် သထုံ၌ ဇာတ်တော် အထောက်အထား များ တွေ့နေပြီဖြစ်ပါသည်။ ဤဇာတ်တော်များသည် မြန်မာနိုင်ငံ၏ ငါးရာ့ငါးဆယ်အစ၊ ပုဂံမတိုင်မီက ဇာတ်တော်များဟု ဆိုရမည် ဖြစ် ပါသည်။

## (၂) ပုဂံခေတ် ဇာတ်တော်များ

ပုဂံခေတ်တွင် ဗုဒ္ဓသာသနာ ပြန့်ပွားတိုးတက်လာသည်မှာ အထူး ပြောဖွယ် မလိုတော့ပေ။ ပုဂံသားတို့သည် ဗုဒ္ဓ၏အဆုံးအမကို များစွာ ယုံကြည်ကြပြီး သဒ္ဓါတရား ထက်သန်လွန်းသောကြောင့် စေတီ ပုထိုး တော်များ တည်ဆောက် ကိုးကွယ်ကြသည်။ ပုဂံခေတ်၏ သဒ္ဓါတရား သက်သေခံပုထိုးစေတီများကို ယနေ့တိုင် ပုဂံတွင် ထင်ရှားစွာတွေ့မြင်ရ လေသည်။ ပုဂံ ညောင်ဦးတစ်ဝိုက် အရပ်ချစ်မျက်နှာတွင်စေတီ ပုထိုး များ လက်ညှိုးထိုး မလွဲအောင် ရှိနေသည်။ ပျက်စီးယိုယွင်း၍ အုတ်ပုံ ဘဝ ရောက်နေသော သာသနိက အဆောက်အအုံများလည်း မနည်း လှချေ။

ပုဂံခေတ်က မင်း၊ မိဖုရား၊ မှူးမတ်နှင့် ပြည်သူများ၏ စေတနာကြောင့် ဘုရား၊ ပုထိုး၊ ဂူကျောင်းများ များစွာတည်ဆောက် ကိုးကွယ်လှူဒါန်းခဲ့ကြလေသည်။ ဤအလှူအတန်းများကြောင့် ပုဂံခေတ်တွင် ဗိသုကာပညာ၊ ပန်း ၁၀ မျိုး အတတ်ပညာ၊ စာပေပညာများ ဖွံ့ဖြိုးတိုးတက်လာခဲ့ရလေသည်။

"ပိဋကတ်သုံးပုံသော တျာအပုံလေ ဖ္လုအော်"၁၆

"ပိဋကတ်လေ သုံးဆူ ဖ္လုအော်"၁၇

ဟူသော ကျောက်စာမှတ်တမ်းများအရ ပိဋကတ်သုံးပုံကိုရေးသားလှူဒါန်းကြသည်။ ပိဋကတ်သုံးပုံဟူသောစကားကြောင့် ပိဋကတ်သုံးပုံအပြည့်အစုံဖြစ်သဖြင့် ဇာတ်တော်များ ပါရှိမည်မှာအထူး တင်ပြဖွယ်မလိုတော့ချေ။

ပုဂံခေတ်တွင် ဇာတ်တော်များကို ပန်းချီရေးခြင်း၊ စဉ့်ကွင်းရုပ်ကြွများထုလုပ်၍ ဘုရားပုထိုးများတွင် ထားရှိခြင်းများ ပြုလုပ်လာကြသည်။ ပုဂံခေတ်ကျောက်စာများတွင် –

"ဇာတ်ငါးရာလည်း အတင့်အတယ်ရေး၏" ၁၈

"...ဇာတ် ၅၅၀၊ ၁၂ ရက် တနလ်ာနေ့ ပြီး၏။ ၁၉

ဟူ၍လည်း တွေ့ရလေသည်။ ဤတွင် ပုဂံခေတ်၌ ဇာတ်တော်အရေအတွက်ကို ငါးရာဟူ၍လည်းကောင်း၊ငါးရာ့ငါးဆယ်ဟူ၍လည်းကောင်း တွေ့ရပါသည်။ ဇာတ်တော် အရေအတွက်နှင့် ပတ်သက်၍ နောက်ပိုင်းတွင် ရှင်းလင်း တင်ပြထားပါသည်။ ဤအခန်းတွင် တင်ပြလိုသည်မှာ ပုဂံခေတ်တွင် ဇာတ်တော်များကို ပန်းချီရေးခြင်းနှင့် စဉ့်ကွင်းများ ပြုလုပ်ခြင်းတို့ဖြင့်ပြန့်ပွားအောင်ပြုလုပ်လာကြသည်။ ဤသို့ဖြင့် ဇာတ်တော်များသည် ပိဋကတ်စာပေမှနေ၍ လူအများ အမြဲမပြတ် မြင်တွေ့နိုင်သည့် ဘုရားပုထိုးများသို့ ရောက်လာသည်။ စာပေနယ်မှ လူထုနယ်သို့ ရောက်လာသည်ဆိုသည့် အကြောင်းအချက်များဖြစ်ပါသည်။

ပုဂံခေတ် ဂူ၊ ဘုရား၊ ပုထိုးများမှ ဇာတ်တော်ဆိုင်ရာ မှတ်တမ်းများအနက် အစောဆုံးဟု ယူဆကြသော မှတ်တမ်းများမှာ ပုဂံ ဖက်လိပ်ဘုရားနှစ်ဆူအတွင်းမှ အုတ်ချပ်များ ဖြစ်ပါသည်။ ဤဖက်လိပ် ဘုရား

နှစ်ဆူတွင် တွေ့ရသော ရှေးဟောင်းပစ္စည်းများ၊ ရှေးဟောင်းအက္ခရာပုံ၊ ဗိသုကာလက်ရာ စသည်တို့ကို ထောက်၍ အနော်ရထာမင်းထက် နောက်မကျနိုင်ကြောင်း သုတေသီများက ခန့်မှန်းကြပါသည်။

အနောက်ဖက်လိပ် ဘုရား အရှေ့မျက်နှာစာတွင် မြေသား မီးဖုတ် ဇာတ်တော်ရုပ်ချပ်များ ကပ်ထားပါသည်။ စဥ့် သုတ်မထားပါ။ ဇာတ်လမ်းဖော် ရုပ်ပုံများ၊ ဇာတ်အမည်များ၊ ဇာတ်အမှတ်စဉ်များကို ထင်ထင်ရှားရှားမြင်တွေ့ရပါသည်။ ဤဖက်လိပ်ဘုရားတွင် ဇာတ်တော် ၅၅၀ အပြည့်ပါပါသည်။ ဝေလာမဇာတ် (၄၉၇)၊ မဟာဂေါဝိန္ဒဇာတ် (၄၉၈)၊ သုမေဓပဏ္ဍိတဇာတ် (၄၉၉) တို့ကိုဖြည့်စွက်ထားပါသည်။[၂၀] ဇာတ်ရုပ်ချပ်များ အကြား အင်္ဂတေ ပေါင်ပေါ်တွင် ဇာတ်တော်နှင့် ပတ်သက်သော အကြောင်းအရာကို ရှေးမွန်ဘာသာဖြင့် ကမ္ပည်းရေး ထိုးထားပါသည်။

ရွှေစည်းခုံ စေတီတော်ကြီး၏ ပစ္စယာများတွင်လည်း ဇာတက ရုပ်ချပ်များရှိရာ ဇာတ်အမည်မှာ ပါဠိဘာသာဖြင့် ပါရှိပါသည်။ စဥ့်စိမ်းလည်း သုတ်ထားသည်။ မူလက အကွက်ချ၍ ကပ်ထားခဲ့သော ငါးရာ့ငါးဆယ်ရုပ်ချပ်များမှာ ယခုအခါ မူလလက်ရာ အသင့်အတင့်မျှ ကျန်ရှိနေပါသည်။[၂၁]

ပုဂံခေတ် ငါးရာ့ငါးဆယ်ဇာတ်တော် စဥ့်ကွင်းများနှင့် ပတ်သက်၍ ထင်ရှားသောဘုရားမှာ အာနန္ဒာဂူဘုရား ဖြစ်သည်။ အာနန္ဒာဘုရား ကြီးကို သက္ကရာဇ် ၄၅၂ ခုတွင် ထီးလှိုင်ရှင် ကျန်စစ်သားမင်း တည်ခဲ့ သည်ဟု အဆိုရှိသည်။ အာနန္ဒာဘုရားသည် ဂူဘုရားဖြစ်သည်။ မတ်ရပ် တော်ကြီး လေးဆူကို အတွင်းပတ်လမ်း၊ အပြင်ပတ်လမ်း နှစ်ထပ်ထား ၍ တည်ထားသည်။ ဂူအပြင်ဘက် အောက်ခြေ ပတ်လည်တွင်လည်း ကောင်း၊ အထက်ပစ္စယာများတွင်လည်းကောင်း စဥ့်စိမ်းသုတ် မီးဖုတ် မြေချပ်များ ကပ်ထားသည်။ ထိုစဥ့်စိမ်းရုပ်ချပ်များမှာ မာရ်နတ် စစ်သည်၊ နတ်ပရိသတ်၊ ဇာတ်ကြီး ၁၀ ဇာတ်နှင့် အခြား ၅၃၇ ဇာတ် ဆိုင်ရာ ရုပ်ပုံများဖြစ်သည်။ ဇာတကဆိုင်ရာ ဇာတ်များကို တစ်ဇာတ် လျှင် မြေချပ် တစ်ချပ်ကျဖြင့်လည်းကောင်း၊ မဟာနိပါတ်ဇာတ်ကြီး

၁၀ ခုကို တစ်ဇာတ်လျှင် ရုပ်ချပ်ပေါင်းများစွာဖြင့်လည်းကောင်း ပြုလုပ်ကပ်ထားပါသည်။ ကမ္ပည်းစာများကိုမူ ပါဠိဘာသာ၊ ရေးမွန် ဘာသာတို့ဖြင့် ရေးထွင်းထားပါသည်။ ဤအာနန္ဒာ ဘုရားကြီး၏ ဇာတကစဉ့်ချပ်များ ထည့်ထားသည့် အစီအစဉ်ကို ဦးဗိုကေက "ဂူတော် ကြီး၏ တိုက်မအပေါ် ပထမအဆင့်အနောက်မျက်နှာ အနောက်တောင် ထောင့်မှသော စဉ့်သုတ်ရုပ်ချပ်များမှာ ဇာတ် ၅၃၇ ဇာတ်ဆိုင်ရာ ရုပ်ချပ်များဖြစ်၍ ဇာတ်တစ်ဇာတ်လျှင် စဉ့်တစ်ချပ်ကျရှိပြီး ဒုတိယ အဆင့် မြောက်မျက်နှာ အနောက်မြောက်ထောင့်မှစ၍ အရှေ့ဘက်သို့ ရေးရှုရေတွက်ပါက တစ်ဆယ့်တစ်ကွက်မြောက်တွင် သုတသောမဇာတ် ၅၃၇ သို့ ရောက်ရှိသည်" ဟု ဆိုသည်။

ထိုသုတသောမဇာတ်ကွက် ၅၃၇ ဆုံးရာမှ ရှေ့သို့ ဆက်လက်ပြီး တေမိဇာတ်မှစ၍ ဝေဿန္တရာဇာတ်တိုင်ဇာတ်ကြီး ၁၀ ဇာတ်ကို အခန်း ကျယ်များဖွဲ့၍ စဉ့်သုတ် ရုပ်ချပ်ပေါင်း သုံးရာခုနစ်ဆယ့်ငါးချပ်ဖြင့် အပေါ်ပဋ္ဌမအဆင့်အထိ ပြုလုပ်ထားသည်ဟု ဆိုသည်။[၂၂]

ဗဒုံမင်းခေါ် ဘိုးတော်ဘုရားလက်ထက်တွင် မင်းအမိန့်နှင့် အတွင်း ဝန်တို့က ပထမ မောင်းထောင်ဆရာတော်အား ပုဂံမြို့က ဆက်ရောက် သည့်ပုံများကိုပြ၍ ကြည့်ရှုတော်မူရန်နှင့် အမိန့် ရှိတော်မူပါမည့် အကြောင်း လျှောက်ထားမေးမြန်းခဲ့ဖူးပါသည်။ ဆရာတော်က အာ နန္ဒာစဉ့်ကွင်းများကို ကျမ်းဂန်နှင့်ညှိလျက် အရုပ် အရေအတွက်၊ အစီအစဉ်များကို ဇယားချပြဖူးပါသည်။[၂၃] အာနန္ဒာဘုရားရှိ စဉ့်ကွင်း ရုပ်များသည် ခေတ်အဆက်ဆက်ထင်ရှားခဲ့ပါသည်။ အာနန္ဒာဘုရားရှိ ငါးရာ့ငါးဆယ် ဇာတ်တော်များမှာ ဖက်လိပ်ဂူဘုရားမှာကဲ့သို့ ၅၅၀ အပြည့်မဟုတ်ဘဲ ၅၄၇ ဇာတ်သာဖြစ်လေသည်။ ထို့ကြောင့် သီဟိုဠ်မူ ဇာတက အဋ္ဌကထာနှင့် ညီလေသည်ဟူ၍ ပညာရှင်များ မိန့်ဆိုကြပါ သည်။[၂၄]

ငါးရာ့ငါးဆယ်ဇာတ်တော်များကို စေတီပုထိုးနံရံများတွင် ပန်းချီ ရေးဆွဲ၍ ပူဇော်ထားသည်များလည်း တွေ့ရပါသည်။

မြင်းပြေဂူဘုရား၏ ပတ်လမ်း အပြင်နံရံများတွင် ရှေးမွန်ဘာသာ ကမ္ပည်းစာများပါရှိသော ဇာတ်ကွက်ပန်းချီများ ရှိလေသည်။ နဂါးရုံ ဂူဘုရား၏ ဂူအတွင်းပတ်လမ်းနံရံများနှင့် ဂူအတွင်းနံရံများတွင်လည်း ဇာတ်တော်လာ အခန်းများ၊ ဗုဒ္ဓဝင်မှအခန်းများ၊ သုတ္တန်တရားဟော ဟန် အခန်းများ စသည်ဖြင့် ရှေးမွန်ဘာသာကမ္ပည်းစာရှည်၊ စာတို များဖြင့် ပန်းချီများစွာ ကျန်ရှိသေးသည်ကို တွေ့မြင်နိုင်လေသည်။ ထိုဘုရားပုထိုးများသည် ကျန်စစ်သားမင်းလက်ထက် ပတ်ဝန်းကျင်က ဖြစ်နိုင်ကြောင်း သုတေသီများက ခန့်မှန်းကြပါသည်။

ထို့ကြောင့် နိုင်ပန်းလုက ပုဂံခေတ်တွင် အေဒီ ၁၀၆၀ မှ ၁၁၅၀ ခုနှစ်အတွင်း ကမ္ပည်းထိုးခဲ့သော ၅၅၀ ဇာတ်များကို မွန်ဘာသာ ဖြင့်သာ တွေ့ရှိကြောင်းနှင့် မြန်မာဘာသာဖြင့် ရေးသားသော ဇာတ်တော် ၅၅၀ ကိုမူ ခရစ်နှစ် ၁၂၅၀ မှစ၍ မင်္ဂလာစေတီ၊ ဝက်ကြီး အင်း၊ ဂူပြောက်ကြီးနှင့် အခြားဂူများတွင် ကမ္ပည်းရေးထိုးထားသည် ကို တွေ့နိုင်ကြောင်း သုံးသပ်ထားပါသည်။[၂၅]

ပုဂံခေတ် အလယ်ပိုင်းတွင် တည်သည့် လောကထိပ်ပန် ဂူဘုရား အတွင်းနံရံများတွင်မူကား မွန်ဘာသာနှင့် မြန်မာဘာသာကို ဒွန်တွဲ လျက် ကမ္ပည်းထိုးခဲ့သည်။ လောကထိပ်ပန်ဘုရားသည် ၁၈၅၈ ခုနှစ် မကုန်မီထိ မထင်မရှား တည်ရှိခဲ့သည်။ ထိုအချိန်တွင် မြန်မာနိုင်ငံ သမိုင်းကော်မရှင်မှ ဂျီ–အိပ်ချ်–လုစ်နှင့် ဗိုလ်မှူး ဘရှင်တို့ ကွင်းဆင်း ကြရာ လောကထိပ်ပန်ဘုရားမှ နှစ်ကျိပ်ရှစ်ဆူ ရုပ်ပွားတော်များအပြင် နိပါတ်တော်ပန်းချီများကို တွေ့ရလေသည်။ ရှေးဟောင်း မွန်စာ၊ မြန်မာစာဖြင့် နံရံများတွင် ကမ္ပည်းတင်ခဲ့သည့် မင်စာများကိုလည်း တွေ့ရသည်။ ဗိုလ်မှူးဘရှင်သည် ၁၉၆၂ ခုနှစ်တွင် လောကထိပ်ပန် ဘုရားအကြောင်း စာအုပ်ထုတ်ဝေခဲ့သည်။[၂၆] အဆိုပါစာအုပ်တွင် ဇာတ်ကြီး ၁၀ ဘွဲ့ မင်စာများကို ထည့်သွင်းဖော်ပြထားလေသည်။

အချုပ်ဆိုရလျှင် ပုဂံခေတ်တွင် ငါးရာ့ငါးဆယ်ဇာတ်တော်များ သည် သီဟိုဠ်မှ ဇာတက အဋ္ဌကထာအတိုင်း ပြည့်ပြည့်စုံစုံ ရောက်ရှိ နေပြီဖြစ်ကြောင်း ထင်ရှားလေသည်။ ဇာတ်တော်များကို စဉ့်ကွင်း

ရုပ်များဖြင့် တွေ့ရသကဲ့သို့ ပန်းချီပညာဖြင့်လည်း ရေးဆွဲကြလေသည်။ ပုဂံခေတ်တွင်ပင် ပြည့်စုံနေပြီဖြစ်၍ နှောင်းခေတ်များတွင် အထူးပြောရန်မလိုတော့ချေ။ အင်းဝခေတ်လက်ရာဖြစ်သော စစ်ကိုင်းတောင်ရိုးရှိတိလောကဂုရုလိုဏ်ဂူတွင်လည်း ငါးရာ့ငါးဆယ်ဇာတ်တော်များရှိလေသည်။ သို့သော် ပုဂံခေတ်နှင့် မတူတော့ချေ။ ပန်းချီပညာအနေနှင့် ပုဂံခေတ်ထက် တိုးတက်လာသည်ကိုလည်း အထူး တင်ပြရန်မလိုတော့ချေ။အတင်အပြသရုပ်ဖော်ပုံလည်း ပုဂံခေတ်ထက် ထူးခြားလာသည်။ ပုဂံခေတ်တွင် တစ်ဇာတ်လျှင် တစ်ကွက်မျှသာ နေရာဖော်၍ရေးဆွဲသော်လည်း အင်းဝခေတ်တွင်မူ ဤကဲ့သို့ မဟုတ်တော့ချေ။ ဇာတ်တော်အစအဆုံး လေ့လာနိုင်ရန် ဇာတ်လမ်းပြည့်စုံအောင် ရေးခြယ်လေသည်။ ထို့ကြောင့် ဇာတ်ငါးရာ့ငါးဆယ်ကုန်အောင် မရေးဆွဲနိုင်ချေ။ သင့်လျော်ရာ သို့မဟုတ် နှစ်သက်ရာ ဇာတ်တော်များကိုသာ ရွေးချယ်၍ အသေးစိတ် ရေးဆွဲလာကြသည်။ ဇာတ်တော်များအနက် စမ္မေယျနဂါးမင်းဇာတ်၊ ဥမ္မာဒန္တီဇာတ်၊မဟာကပိမျောက်မင်းဇာတ်၊ ဘလ္လာတိယဇာတ် စသည်တို့ကို မပျက်မစီးတွေ့နိုင်သေးသည်။ နှောင်းခေတ်တွင် ငါးရာ့ငါးဆယ် ဇာတ်တော်များသည် အနုပညာအရည်အသွေး အဆင့်အတန်းအရရော တင်ပြမှု အတတ်ပညာအရပါ မြင့်မားလာကြလေသည်။

အခန်း ၂

# ငါးရာ့ငါးဆယ် မြန်မာပြန်များ

"မြန်မာနိုင်ငံသားအများစုသည် ထေရဝါဒ ဗုဒ္ဓဘာသာဝင်များ ဖြစ်ကြသည့်အလျောက် ငါးရာ့ငါးဆယ်ဇာတ်တော်များကို တန်ဖိုးထား၍ လေ့လာဖတ်ရှုလေသည်။ ထို့ကြောင့် စာရေးဆရာပါရဂူက

"မြန်မာ့စာပေတွင် ရှေးဟောင်းမြန်မာစာပေသည် ဇာတကဝတ္ထု၊ ဇာတကဝတ္ထုသည် ရှေးဟောင်းမြန်မာစာပေဟု ဆိုရလောက်အောင်ပင် ဇာတကဝတ္ထု အခန်းကဏ္ဍသည် ကြီးမားကျယ်ပြန့်လာလေသည်"[၁] ဟု သုံးသပ်ပါသည်။

ငါးရာ့ငါးဆယ်ဇာတ်တော်များသည် မြတ်စွာဘုရား၏ နူစဥ်ဘဝ ဇာတ်တော်များဟု ယုံကြည်ကြသဖြင့်လည်း လေးစားကြည်ညိုမှု သဒ္ဓါတရားအရင်းခံဖြင့် နှစ်ခြိုက်ကြခြင်းဖြစ်ပေသည်။ ပုဂံခေတ်ကတည်းက ငါးရာ့ငါးဆယ်ဇာတ်တော်အပြည့်အစုံ ရောက်နေပြီဖြစ်ကြောင်းတင်ပြခဲ့ပြီး ဖြစ်ပါသည်။ ပုဂံခေတ် နံရံဆေးရေးပန်းချီများတွင် ဇာတ်တော်အကြောင်းအရာများကို မွန်၊ မြန်မာအက္ခရာများဖြင့် ရေးသားထား၍ ဇာတ်တော်မြန်မာပြန် စကားပြေသည် ပုဂံခေတ်ကပင် ရှိခဲ့သည်ဟု ဆိုရပေမည်။ ဇာတ်တော် ၅၅၀ မှ ၅၃၇ ဇာတ်ကို တစ်ဇာတ်လျှင် တစ်ကွက်သာ ရေးဆွဲထားသဖြင့် အပြည့်အစုံ မြန်မာပြန်များဟု မဆိုနိုင်သေးချေ။ သို့ရာတွင် မဟာနိပါတ် ဇာတ်တော်များကို အကွက် များများနှင့် ဇာတ်လမ်းများပေါ်အောင် ပန်းချီဆွဲခြင်း၊

ကမ္ဗည်းထိုးခြင်းများပြုခဲ့သဖြင့် ငါးရာ့ငါးဆယ် မြန်မာပြန်များ ဟု ဆိုရမည် ဖြစ်ပေသည်။

လောကထိပ်ပန်ဘုရားမှ ဇာတ်ကြီးဆယ်ဘွဲ့၊ ပန်းချီ၊ ကမ္ဗည်းစာများမှာ အထင်ရှားဆုံးသော သာဓကပင် ဖြစ်ပေသည်။ လောကထိပ်ပန်ဘုရား မင်စာများတွင် ဇာတ်ကြီးဆယ်ဘွဲ့ကို အပြည့်အစုံတွေ့ရပါသည်။ ရေးသားသောမင်စာများမှာ ဇာတ်တော်၏ အဓိကအခန်းများကို တိကျကျစ်လျစ်သောစကားပြေဖြင့် ရေးသားထား၍ ဇာတ်တော်အနှစ်ချုပ် မြန်မာပြန်များဟုပင် ဆိုရပါမည်။

လောကထိပ်ပန် မင်စာမှ မဟာဇနကဇာတ်တော်ကို လေ့လာလျှင် ထင်ရှားပါသည်။

## မဟာဇနကဇာတ်

၊၊၊ ယခင်ရှာဝ် မိထိလာပြည် နိုက္ကာမဟာဇနက် မည်သော မင်မူအော်။
ထိုဝ်မင် သာ နှစ်ယောက် ဟိအော်။
သာဂြိကာဃုမ်ရှိယ်မင် မှောက်အော်။ သာထုယ်ကျာ စစ်သုဂြိ မှောက်အော်။ မဟာဇနက် မည်သော မင် မင် သီခရကာ အလောမ္ဗာ လှေ့ာတင်ကာ မင်ကောအ်ကြိယ္ဗာ်ဘိအော်။
မင်သာဂြိကာ ဃုမ်ရှိယ္ဗာ်မင်မုသော အရိဋ္ဌဇနက်တေး ၂၄ လူတစ်ကာ မင်ဂြိ မှောက်တုံယ္ဗာ်။ ညီကာ ဃုမ်ရှိယ္ဗာ်မင် မူအော်။
ဃုမ်ရှိယ္ဗာ်မင် စီယ်သော သူတစ်ယောက် တေး မင်ဂြိအာပုန်အံ ဟူသော ကြာပိယျေအ် ညီအာ သံခြိချောင် နှောင်ထာအော်။ တွန်တံမူ ဩုယျေအ် သံ ခြိချောင်မှာ ခလာတ်ခရကာ ရွာတစ်ပါ နိယ်ရှယျေအ်။
စစ်ခြိ ဆည်အော် ဆည်ပြိရကာ။ အစ်ကိုဝ် ဖျောက်လှုံသော လာယျေအ်။
ဖျောက်ရကာ အစ်ကိုဝ်ကာ မသြင်ညီယ်ကာ သြင်အော်။ မယာတေး ပုတ်ာအလောင် ဝမ်ဟိယ္ဗာ်လေက် ဋ္ဌီ ခါယျေအ်။

ပုဟိဘလောင်မိအ် ဥတ်စဘတောင် ယူရှုယျေအ် ဧရပ်တွာင်နိုယျေအ်။
ပုံနာတစ်ယောက် နှမမူရုယ် ဣမ်သျှ လိယျေအ်။

**ပုဟာလောင်**မိဿ ပုံနား ဘက္ခအ် တစ်ခွက်တွာင် ဓာကြဲယျေအ်။ ပု
ဟာလောင် ဖွာပြိရ (ကာ)။ အဖ သိလို္တ သောကြောင်
အမိနို္တ စိုအီရုအ် ရုမိယျေအ်။ဝ။

**။ဝ။** စာလေး သင်အော် ။ဝ။အမိယ် ပါန်ရုဿအော် ။ဝ။

**။ဝ။** သင်ဖေါဝ်ကောလိယ်အော်

။ဝ။ သင်ဖေါဝ် ကွယ်ရကာ ။ဝ။ မနိမေခလာနှင် စက္ကာ **ဆိုဝ်အော်၊**
မနိမေခလာ ပုဟိာလောင်ကိုဝ် ဆာယ်ရုယ် ပံျလီအာ ပုဟိာ
လောင်ကိုဝ် ဥယဉ်တွာင် ဗ္ဗောက်ထက် ထာယျေအ်။

**မင်သမိ** သိဝိလိ တေး အမတျာ နှစ်ဿိအ် စိလိုဝ်ရကာ **ခြိယ်ဆုပ်**
**အော်**။ ရှာထာရှင် လျှောတ်ရုယ်ပုဟိာလောင် ဟိရာ လာ
**ယျေအ်** ပုံနာတစ်ယောက် ခြိယ်လက္ခနာ ရှုရကာ ပုရှာလောက်
**တေး** မင်မူအပ် ဟူရုယျေအ် ဆောင်လိယျေအ်။

**ဗ္ဗမ်ဒါဝ်** ဧရာက်ရကာ ပြသဒါ အထက် တက်အံသော တေး ပင်
သမိ သိဝိလိ လက္ကံ ပိယျေအ်။ လက္ကံ ပြိရကာ ပြသဒါ အ
ထက် တက်လိယျေအ်။ ပုဟိာလောင် မင်ဂြိမှောက်ပြိရကာ
လက်ဆောင် လက်နက်လေး ရောက်အော် အလှူလေပိယျေအ်

**ဥယဉ်ကစံ္တ** သော ထွက်ရကာ အသိဟိဿသော အသိမာဿသော
သိချက် လျှောင် ဆပဟိာမူရုယျေအ်ကိုဝ် အနိစ္စကာ မြင်အော်။

**ပြသဒါ အထက်** နိုယ်ရုဿ သင်္ဂါန် ဆောင်စိရုယျေအ် ရဟာန်မူအော်
မူပြိရကာ ထွက်လိယ် သောတေ မယာ သိဝိလိ ပစ္စေကဗုဒ္ဓါ
ထွက်သောရှဝ်ရကာ နောက္ခိဝ် ၔ။

**ဗ္ဗမ်ဆိုဝ်လေ** ဖုတ္တအ် သူတစ်ကာလေ ခတ်မျှောကြာယျေအ် ထိုဝ်သိ္တ
မူမုလေ ပုဟာလောင် မနစ်နာရဒ မည်သော ရသိ နှလေ် စစ်
ကာ ဆိုဝ်ကြာယျေအ် မိဝ်ချုတ် ရကာ သစ်ရိုပ် နိယျေအ်
နံနက်ရကာ ခုယ်ခိသော သာတစ် ကောက်ရုဿ စာယ်အော်

**သာတိုသာ မိမလ္လိပုံ ကလူ သောနှင် မှ္တာသသမာ မှ္တာ ဆင်သော**

နှင် စစ်ကာဆိုဝ် ပြီရကာ ခရိယ်ခ်ယျေအ် (သော) ပိတ် အရှက် ဖြတ်ရှယျေ အဆုံအဖြတ်မိန်အော်။

**မယာ** သီပြတ် ရကာ သူတစ်ကာ ရိယ်သွန် ရှယျေအ် ထမ္လောက် အော်၊ ပုဟိာလောင်နှင် ခရီအစန် စစ်ကာ ဆိုရရာ ပုထိုဝ် ရှ ယျေအ် ပုဇာဝ် အော်။

**ပုဟိာလောင်** ဟိမဝန္တာ အတွင် နိယျေ မယာလေ ဥယန် (တွင်) ရ့သိယ်မူ (၉)အ် သာ မင်မ္လောက် ရှယျေ ပြည်ဝင် စိယျေအ် လူတစ်ကာလေ ပုဟိာအလောင် အစာ ဆုမှ ပုဟိာအလောင် နှင့် မယာတေ သိခရကာ ပြမှာ ဖ္လစ်အော်။ဝ။

ဤဇနက ဇာတ်တော်ကို ကြည့်ခြင်းအားဖြင့် လောကထိပ်ပန် မင်စာသည် ဇာတ်တော်တစ်ခုလုံးကို အနှစ်ချုပ်နိုင်သော စွမ်းရည် အပြည့်ရှိကြောင်း တွေ့ရပါသည်။ လောကထိပ်ပန်မင်စာရှိ ဇာတ်တော် စကားပြေသည် ရေးဆွဲထားသော ပန်းချီပုံများအတွက်ကိုသာ ရည် ညွှန်းထားသော စာများဖြစ်သည်ကို မမေ့သင့်ချေ။ ထို့ကြောင့် ပန်း ချီပုံ မရှိသော အကြောင်းအရာများအတွက် ပုံညွှန်းစာ မပါနိုင် ကြောင်းကိုလည်း သတိပြုရပေမည်။

မည်သို့ဆိုစေ လောကထိပ်ပန် မင်စာများသည် မဟာနိပါတ်အဋ္ဌ ကထာ အကြောင်းအရာများကို မြန်မာစကားပြေ ပြန်ဆိုရေးသား ရန် လမ်းဖွင့်ပေးသည့်နှယ် ရှိပါသည်။ တစ်နည်းဆိုလျှင် ပုဂံခေတ်၏ မဟာနိပါတ် အဋ္ဌကထာ မြန်မာပြန်အသီးအပွင့်များ ဖြစ်သည်ဟု ဆိုရမည် ဖြစ်ပါသည်။

## (၁) ဇာတ်တော်ဋီကာနှင့် ကဏ္ဍိကျမ်းများ

ယနေ့တွေ့နေရသော ငါးရာငါးဆယ်ဇာတ်တော်များမှာ ဇာတက အဋ္ဌကထာမှ ပေါက်ပွားခဲ့ခြင်းဖြစ်၍ ထိုအဋ္ဌကထာကျမ်းများကို အဓိပ္ပာယ်ဖွင့်ဆိုသည့် ဋီကာကျမ်းများလည်း ရှိခဲ့သေးသည်။ ဇာတ် ဋီကာကျမ်း နှစ်စောင်ရှိသည်ဟု သိရပါသည်။

ပထမဋီကာကျမ်းမှာ သီဟိုဠ်ကျွန်း၊ အနုရာဓမြို့အနောက် "ဗဒရတိတ္ထ" ကျောင်းတိုက်နေ "အရှင်ဓမ္မပါလမထေရ်" ပါဠိဘာသာဖြင့် ရေးသားသော ဋီကာကျမ်းဖြစ်သည်။ လီနတ္ထပကာသနီဋီကာခေါ် ဋီကာဟောင်းဖြစ်သည်။ ဒုတိယဋီကာကျမ်းမှာ မင်းတုန်းမင်းကြီးလက်ထက် မန္တလေးမြို့၊ အရှေ့ပြင် မင်္ဂလာရာမကျောင်းတိုက်နေ အရှင်ပညာသာမိမထေရ် ဘွဲ့အမည်ရှိ ဒုတိယ မောင်းထောင်ဆရာတော် ပါဠိဘာသာဖြင့်ရေးသားသည့် ဋီကာဖြစ်သည်။ အသမ္မောဟဝိလာသိနီဟု ခေါ်သည်။ သက္ကရာဇ် ၁၂၃၀ ခုတွင် ရေးသားသည်။[၂] ယင်းကို ဋီကာသစ်ဟူ၍လည်းခေါ်သည်။ ဇာတကအဋ္ဌကထာကို ဖွင့်ဆိုသည့် ဋီကာများဖြစ်၍ မြန်မာနိုင်ငံ ပါဠိစာပေလောကတွင် ပထမရေးသော ဋီကာကို "ဋီကာဟောင်း" နောက်မှရေးသော ဋီကာကို "ဋီကာသစ်" ဟုခေါ်ခြင်း ဖြစ်သည်။ မြန်မာနိုင်ငံအတွင်း ပြုစုသော ဋီကာမှာ အရှင်ပညာသာမိမထေရ် ပြုစုသည့် အသမ္မောဟဝိလာသိနီ သည်သာလျှင် တစ်စောင်တည်းသော ဋီကာဖြစ်သည်။

သက္ကရာဇ် ၈၀၄ ခုတွင် အင်းဝနန်းတက်သည့် နရပတိမင်း လက်ထက် အရှင်အရိယဝံသ မဟာသေနာပတိမထေရ်သည် ဇာတ်ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာကျမ်းများပါ ခက်ခဲသည့်အဓိပ္ပာယ်တို့ကို ထပ်မံရှင်းလင်းသော "ဇာတ်ဂဏ္ဌိကျမ်း" တစ်စောင်ကိုလည်း ပါဠိ–မြန်မာ ရောပြွမ်း၍ ရေးသားခဲ့လေသည်။ ယင်းကျမ်းကို"ဇာတကဝိသောဓနီ" ဟုလည်းကောင်း "အရိယဝံသဇာတကဂဏ္ဌိ" ဟူ၍ လည်းကောင်း ခေါ်ဆိုကြလေသည်။[၃]

## (၂) ဇာတကပါဠိတော် နိဿယကျမ်းများ

မြန်မာနိုင်ငံတွင် ပါဠိနှင့်မြန်မာတွဲ၍ ဖော်ပြသောနိဿယကျမ်းများ အထူး ထင်ရှား ပြန့်ပွား ခဲ့သည်။ ပါဠိ–မြန်မာ နိဿယဘာသာပြန်၏ သဘောကို ပုဂံခေတ် ကျောက်စာများတွင် စတင်တွေ့ရှိရပါသည်။

နိသျ ကျမ်းများသည် ပါဠိစာပေနှင့် မြန်မာစာပေ ဆက်သွယ်မှုတွင် ထူးခြားသည့်အသွင်ကိုဆောင်နေပါသည်။

ပါဠိစာပေ ပဋိကတ်တော်များကို နိဿယများ ပြန်ဆိုကြရာတွင် ဇာတ်ပါဠိတော်လည်း ပါဝင်သည်။ ဇာတ်ပါဠိတော်နိဿယနှစ်စောင်ရှိသည်။ တစ်စောင်မှာ သက္ကရာဇ် ၁၁၉၉–၁၂၀၀ ခုနှစ်တွင် နန်းတက်သည့် သာယာဝတီမင်းလက်ထက်၌ ထင်ရှားသော သာသနဝံသသီရိဓဇမဟာဓမ္မရာဇာဓိရာဇ ဂုရုဘွဲ့ရ ကြံခင်းဆရာတော်၏ ဇာတ်ပါဠိတော်နိဿယဖြစ်ပါသည်။ ယင်းကို နိဿယဟောင်းဟု ခေါ်ကြပါသည်။ ကျန်တစ်စောင်မှာ မင်းတုန်းမင်းတရားကြီးလက်ထက်တွင် ထင်ရှားခဲ့သောမေဓာဝီဘိဝံသ သီရိသဒ္ဓမ္မဓဇ မဟာဓမ္မရာဇာဓိရာဇ ဂုရုဘွဲ့ရ ပြည်ဆရာတော်၏ နိဿယဖြစ်ပါသည်။ ယင်းနိဿယကို နိဿယသစ်ဟု ခေါ်ကြပါသည်။[၄]

## (၃) ဇာတကအဋ္ဌကထာ နိဿယကျမ်းများ

ဇာတ် အဋ္ဌကထာ ကျမ်းများကိုလည်း နိဿယများ ပြန်ဆိုခဲ့လေသည်။ ကုန်းဘောင်ခေတ်တွင် ဘိုးတော်ဘုရားသည် စာပေလုပ်ငန်းများကို အတော်ပင် စိတ်ဝင်စားသောမင်းဟု ဆိုရပါမည်။ ထိုမင်းလက်ထက် မြန်မာနိုင်ငံအရပ်ရပ်မှ ကျောက်စာများကို ပြန်လည်ကူးယူပြီး တစ်နေရာတည်း စုဆောင်းထားရှိသည်။ ကျမ်းများကို နိုင်ငံခြားဘာသာမှ မြန်မာဘာသာသို့ ပြန်ဆိုသော လုပ်ငန်းများလည်းလုပ်ကိုင်ခဲ့သည်။ ထိုနည်းတူ ဇာတက အဋ္ဌကထာများကိုလည်း ဆရာတော်များကို လျှောက်ထားပြီး နိဿယပြန်ဆိုစေပါသည်။ ဘိုးတော်ဘုရားသည် သံဃာတော်များကို အဖွဲ့အနေနှင့်ပြန်ဆိုစေခြင်း ဖြစ်ဟန်ရှိလေသည်။ ဇာတကအဋ္ဌကထာများကို ဧကနိပါတ်မှ အသီတိနိပါတ်အထိ အောက်ပါစာရင်းအတိုင်း ဆရာတော်များက နိဿယပြန်ဆိုကြပါသည်။[၅]

| နိပါတ်တော်အမည် | မြန်ဆိုသူဆရာတော်အမည် |
|---|---|
| ဧကနိပါတ် | တောင်တွင်းဆရာတော် |
| ဒုကနိပါတ် | ပလိုင်းဆရာတော် |
| တိကနိပါတ် | မဲထီးဆရာတော် |
| စတုက္ကနိပါတ်<br>ပဉ္စကနိပါတ် | ရွှေတောင်ဆရာတော် |
| ဆက္ကနိပါတ်<br>သတ္တနိပါတ် | တောင်လေးလုံးဆရာတော် |
| အဋ္ဌနိပါတ်<br>နဝနိပါတ် | ကတိုးဆရာတော် |
| ဒသနိပါတ်<br>ဧကာဒသနိပါတ် | ဗားကရာဆရာတော် |
| ဒွါဒသနိပါတ်<br>တေရသနိပါတ် | ဆုံထားဆရာတော် |
| ပကိဏ္ဏကနိပါတ် | ပထမမောင်းထောင်<br>သာသနာပိုင်ဆရာတော် |
| ဝီသတိနိပါတ်<br>တိံသနိပါတ် | မုန့်တောဆရာတော် |
| စတ္တာလီသနိပါတ်<br>ပဏ္ဏာသနိပါတ် | ညောင်ကန်ဆရာတော် |

သဋ္ဌိနိပါတ် } မင်းရွာဆရာတော်
သတ္တတိနိပါတ် }
အသီတိနိပါတ် ဆင်တဲဆရာတော်

ဘိုးတော်ဘုရားလက်ထက်တွင်ပင် ဝက်ခုတ်ဆရာတော်သည် ဧကနိပါတ်မှ အသီတိနိပါတ်ထိအပြင် ဇာတ်ကြီးဆယ်ဘွဲ့ခေါ် မဟာနိပါတ်ဇာတ်အဋ္ဌကထာတို့ကိုလည်း တစ်ပါတည်း နိဿယပြန်ဆိုခဲ့ပါသည်။

၍မဟာနိပါတ်ခေါ် ဇာတ်ကြီးဆယ်ဘွဲ့ ဇာတ်အဋ္ဌကထာကို ဆင်ဖြူရှင်လက်ထက်တွင် ဒန့်တိုင်ဆရာတော် ရှင်ဂုဏာလင်္ကာရမထေရ်က နိဿယပြန်ဆိုခဲ့သေးကြောင်း သိရပါသည်။

ဟင်္သာတမြို့ မြစ်ကွေ့ဆရာတော် ဦးပညာဝံသ၏ ပိဋကတ်သမိုင်းသစ်တွင် ရမည်းသင်း မင်းရဲကျော်ထင်လက်ထက် အရှင်အနောမဒဿီမထေရ်သည် ဧကနိပါတ်ဇာတ်အဋ္ဌကထာနိဿယကို လည်းကောင်း၊ ဆုံထားဆရာတော်သည် နဝနိပါတ် ဇာတ်အဋ္ဌကထာ နိဿယကို လည်းကောင်း၊ ပင်းယမဟာဥပါလိထေရ် ဆရာတော်သည် ဇာတ်ကြီးဆယ်ဘွဲ့နိဿယကို လည်းကောင်း ရေးသားခဲ့ကြောင်း ဖော်ပြထားပါသည်။

## (၄) မြန်မာစကားပြေ ဇာတ်ဝတ္ထုများ

ယနေ့ဖတ်ရှုနေရသော ငါးရာ့ငါးဆယ် ဇာတ်ဝတ္ထုများမှာ ဇာတက အဋ္ဌကထာကို မြန်မာပြန်ထားသော ဝတ္ထုများ ဖြစ်ပါသည်။ မဟာနိပါတ်ခေါ် ဇာတ်ကြီးဆယ်ဘွဲ့မပါသော ဧကနိပါတ်မှ အသီတိနိပါတ်ထိ ဇာတ်တော်များ မြန်မာပြန်နှစ်စောင်ရှိလေသည်။ ပထမတစ်စောင်မှာ မုံတိုင်ပင်ဆရာတော်၏ ဇာတ်ဝတ္ထု စကားပြေ ဖြစ်ကြောင်း ပိဋက သမိုင်းအရ သိရပါသည်။ ဒုတိယ တစ်စောင်မှာ

ဘိုးတော်ဘုရားလက်ထက် ဒုတိယ ညောင်ကန်ဆရာတော် အရှင်ကဝိန္ဒာဘိဝံသ စီရင်ရေးသားသည့်ဇာတ်နိပါတ်တော် မြန်မာပြန်ကျမ်းဖြစ်ပါသည်။ ယနေ့ဖတ်ရှုနေရသော မြန်မာပြန်ဇာတ်ဝတ္ထုများမှာ ညောင်ကန်ဆရာတော်၏ လက်ရာများဖြစ်ပါသည်။[၆]

မဟာနိပါတ်ခေါ် ဇာတ်ကြီးဆယ်ဘွဲ့ကို တစ်ဦးတည်းက မြန်မာပြန်သည့် မြန်မာစကားပြေ ဇာတ်တော်များဟူ၍ကား မတွေ့ရသေးချေ။ မင်းဘူးဆရာတော် ဦးဩဘာသ၊ ရှင်ပညာတိက္ခနှင့် ရှင်နန္ဒမေဓာတို့က မြန်မာစကားပြေပြန်ဆို ရေးသားခဲ့ကြသည်။ မင်းဘူးဆရာတော်က ဇာတ်တော် ရှစ်စောင် ပြန်ဆိုရေးသားပြီး ကျန်ဆရာတော် နှစ်ပါးက တစ်စောင်စီ ရေးသားကြပါသည်။ ဆရာတော်များစကားပြေပြန် ရေးသားခဲ့သည့် ခုနှစ်များကို ဇာတ်တော်စဉ်အတိုင်း စာမျက်နှာ ၃၈ တွင်ဖော်ပြအပ်ပါသည်။

မုံရွေးဆရာတော်သည် ကျည်းကန်ရှင်ကြီးထံသို့ "တတ်စိမ့်ထွေလာ၊ သမိုက်ဖြာပိမ့်" ချီ ရတုပိုဒ်စုံဖြင့် ငါးဆယ့်ငါးပါးသော အမေးပုစ္ဆာများ မေးခဲ့ရာ ကျည်းကန်ရှင်ကြီးက "တွေလာတတ်ဖွယ်၊ သမိုက်သွယ်လျက်"ချီရတုဖြင့် ဖြေဆိုခဲ့ပါသည်။ အမေးတွင်"ရင့်ဆယ်စောင်ခေါ်၊ ဇာတ်တော်တို့တွင် ဘယ်သည်လျှင်မူ၊ အရင်ပထမ၊ ဖြစ်လာသနည်း" ဟု မေးထားရာ ကျည်းကန်ရှင်ကြီးက "ရင့်ဆယ်စောင်မှတ်၊ မိန့်တော်မြတ်မူ၊ ဇာတ်တွင်အစ၊ နာရဒတည့်"ဟု ဖြေဆိုခဲ့ပါသည်။[၇] ထို့ကြောင့် ဖြစ်လေမည်လား မသိ။ မင်းဘူး ဆရာတော် ဦးဩဘာသသည် ဇာတ်ကြီးဆယ်ဘွဲ့ကို မြန်မာပြန်ရာတွင် နာရဒဇာတ်တော်ကို အစဆုံးပြန်ထားကြောင်း တွေ့ရပေသည်။

## (၅) ဇာတ်တော် အကျဉ်းချုပ်များ

ငါးရာ့ငါးဆယ် ဇာတ်တော်များကို မြန်မာပြန်ထားသည်များ ရှိသော်လည်း ကျယ်ဝန်းလှသဖြင့် အကျဉ်းချုပ်ရေးသားရန် လိုအပ်လာပါသည်။ ထို့ကြောင့် ငါးရာ့ငါးဆယ် ကောက်နုတ်ချက်များကို

| စဉ် | ဇာတ်တော်အမည် | ပြုစုသည့် ဆရာတော် | ကျမ်းပြီးသက္ကရာဇ် |
|---|---|---|---|
| ၁။ | တေမိ ဇာတ်တော် | ဦးဩဘာသ | ၁၁၄၈၊ တပို့တွဲလ |
| ၂။ | ဇနက ဇာတ်တော် | ” | ၁၁၄၇၊ နယုန်လ |
| ၃။ | သုဝဏ္ဏသာမ ဇာတ်တော် | ရှင်ပညာတိက္ခ | ၁၁၈၈၊ ဝါဆိုလ |
| ၄။ | နေမိ ဇာတ်တော် | ဦးဩဘာသ | ၁၁၄၈၊ ဝါဆိုလ |
| ၅။ | မဟောသဓ ဇာတ်တော် | ” | ၁၁၄၆၊ တန်ဆောင်မုန်း |
| ၆။ | ဘူရိဒတ် ဇာတ်တော် | ရှင်နန္ဒမေဓာ | ၁၁၄၈၊ နတ်တော်လ |
| ၇။ | စန္ဒကုမာရ ဇာတ်တော် | ဦးဩဘာသ | ၁၁၄၄၊ ပြာသိုလ |
| ၈။ | နာရဒ ဇာတ်တော် | ” | ၁၁၄၄၊ တန်ခူးလ |
| ၉။ | ဝိဓူရ ဇာတ်တော် | ” | ၁၁၄၅၊ ဝါခေါင်လ |
| ၁၀။ | ဝေဿန္တရာ ဇာတ်တော် | ” | ၁၁၄၅၊ တပေါင်းလ |

ရေးသားလာကြပါသည်။ ငါးရာ့ငါးဆယ် ကောက်နုတ်ချက်ကို ရေးသားသူများအနက် အစောဆုံး ရေးသားသော သူမှာ ဆီးဘန်နီဆရာတော်ဖြစ်ပါသည်။ ဆရာတော်သည် "ကဝိမဏ္ဍန မေဒနီကျမ်း"၏ တွင် စကားပြေခန်း၌ ဇာတကကဏ္ဍဟူ၍ ကဏ္ဍတစ်ခုဖွင့်၍ ဇာတ်တော် ၆၄ ဇာတ်ကို တိုတိုကျဉ်းကျဉ်း လိုရင်းမျှသာ ရေးသားထားကြောင်း တွေ့ရသည်။ ဆရာတော်ရေးသားခဲ့သော ဇာတ်တော်အရေအတွက်မှာ —

| | |
|---|---|
| ပကိဏ္ဏက နိပါတ်မှ | ၁၃ ဇာတ် |
| ဝီသတိ နိပါတ်မှ | ၁၄ ဇာတ် |
| တိံသ နိပါတ်မှ | ၁၀ ဇာတ် |
| စတ္တာလီသ နိပါတ်မှ | ၅ ဇာတ် |
| ပဏ္ဏာသ နိပါတ်မှ | ၃ ဇာတ် |
| သဋ္ဌိ နိပါတ်မှ | ၂ ဇာတ် |
| သတ္တတိ နိပါတ်မှ | ၂ ဇာတ် |
| အသီတိ နိပါတ်မှ | ၅ ဇာတ် |
| မဟာ နိပါတ်မှ | ၁၀ ဇာတ် |
| ပေါင်း | ၆၄ ဇာတ် |

ငါးရာ့ငါးဆယ် ဇာတ်တော်များ အကျဉ်းချုပ်တစ်စောင်ကိုလည်း ပုံနှိပ်ထုတ်ဝေခဲ့ဖူးသေးသည်။ အဆိုပါစာအုပ်ကို မည်သည့် ပုဂ္ဂိုလ်ပြုစု၍ မည်သည့်ပုံနှိပ်တိုက်က ရိုက်နှိပ်ပြီး၊ မည်သည့်ခုနှစ်တွင် ထုတ်ဝေခဲ့ကြောင်း မသိရသေးချေ။ ဇာတ်တော် ၅၄၇ ဇာတ်လုံးကို အကျဉ်းချုပ်အဖြစ် လေးငါးကြောင်းမျှသာ ရေးသားထားပါသည်။ ဤစာအုပ်၏ထူးခြားချက်မှာ ငါးရာ့ငါးဆယ်ဖြစ်တော်မူသည့် ကမ္ဘာ၊ ပြည်နိုင်ငံတို့ကို ဇယားပြုစု၍ ရေးသားတင်ပြထားပါသည်။ စာအုပ်၏အမည်မှာ "ငါးရာ့ငါးဆယ် နိပါတ်ဇာတ်ဝတ္ထု အကျဉ်းချုပ်" ဖြစ်ပါသည်။

အမျိုးသားပညာဝန် ဦးဖိုးကျားက ငါးရာ့ငါးဆယ်ကောက်နုတ်

ချက်များကို ၁၉၂၉ ခုနှစ်က ရေးသား၍ ပုံနှိပ်ထုတ်ဝေခဲ့သည်။ အတွဲသုံးတွဲရှိပြီး စာမျက်နှာ ၇၆၀ ရှိလေသည်။ မဟာနိပါတ်မပါ ၅၃၇ ဇာတ်ထဲမှ ကောင်းနိုးရာရာ ဇာတ်ဝတ္ထုပေါင်း ၂၄၉ ဇာတ်ကို ထုတ်၍ အကျဉ်းချုပ် ရေးသားထားခြင်း ဖြစ်သည်။ မူရင်းဇာတ်နိပါတ်ကျမ်းလာ ဧကနိပါတ်မှ အသီတိနိပါတ်အထိ နိပါတ်ပေါင်း ၂၁ ခုအနက် သဋ္ဌိနိပတ်ကို ချန်လှပ်ထား၍ ကျန်နိပါတ် ၂၀ ထဲမှ အောက်ပါအတိုင်း ကောက်နုတ်ရေးသားထားပါသည်။

| | |
|---|---|
| ဧက နိပါတ်မှ | ၉၀ |
| ဒုက နိပါတ်မှ | ၃၈ |
| တိက နိပါတ်မှ | ၃၈ |
| စတုက္က နိပါတ်မှ | ၂၁ |
| ပဉ္စက နိပါတ်မှ | ၈ |
| ဆက္က နိပါတ်မှ | ၇ |
| သတ္တက နိပါတ်မှ | ၇ |
| အဋ္ဌက နိပါတ်မှ | ၉ |
| နဝက နိပါတ်မှ | ၄ |
| ဒသက နိပါတ်မှ | ၈ |
| ဧကာဒသက နိပါတ်မှ | ၃ |
| ဒွါဒသက နိပါတ်မှ | ၃ |
| တေရသက နိပါတ်မှ | ၄ |
| ပကိဏ္ဏက နိပါတ်မှ | ၇ |
| ဝီသတိ နိပါတ်မှ | ၇ |
| တိံသ နိပါတ်မှ | ၈ |
| စတ္တာလီသ နိပါတ်မှ | ၁ |
| ပဏ္ဏာသ နိပါတ်မှ | ၁ |
| သတ္တတိ နိပါတ်မှ | ၂ |
| အသီတိ နိပါတ်မှ | ၂ |
| ပေါင်း = | ၂၄၉ ဇာတ် |

ပထမကျော် ဦးကြီးဖေကလည်း "ငါးရာ့ငါးဆယ် နိပါတ်တော် စကားပြေ"ဟူ၍ ဇာတ်တော် ၅၃၇ ဇာတ်လုံးကို အကျဉ်းချုံး ရေးသားခဲ့လေသည်။ အတွဲကိုးတွဲရှိပြီး စာမျက်နှာ ၃၅၀၀ ပါဝင်သည်။ ၁၉၄၇ ခုနှစ်က ရေးသားခဲ့ပြီး ၁၉၅၆ မှ ၁၉၅၈ အတွင်း ဟံသာဝတီ ပိဋကတိုက်မှ ကိုးတွဲလုံး ပုံနှိပ်ခဲ့သည်။[၁၁] နောင်တွင် ဦးမြင့်ဆွေ မဟာဝိဇ္ဇာ (လန်ဒန်)၏ ငါးရာ့ငါးဆယ်အနှစ်ချုပ် စကားပြေကျမ်း ထွက်ခဲ့ပါသည်။ ကေနိပါတ်မှ မဟာနိပါတ်အထိ ဇာတ်တော် ၅၄၇ ဇာတ်လုံး ရေးသားထားပါသည်။ မာဏဝကလည်း ငါးရာ့ငါးဆယ် စကားပြေကျမ်းတစ်စောင် ရေးသားခဲ့ပါသည်။ ၎င်းကျမ်းသည်လည်း ကေနိပါတ်မှ မဟာနိပါတ်အထိ ၅၄၇ ဇာတ်လုံး ပါဝင်ပါသည်။

ဆရာ ဒဂုန် ဦးထွန်းမြင့်သည် ဇာတ်ကြီးဆယ်ဘွဲ့သက်သက်ကို "ဇာတ်ကြီးဆယ်ဘွဲ့" အမည်ဖြင့် ရေးခဲ့သည်။ စာမျက်နှာပေါင်း ၁၄၂၂ ခန့်ရှိသည့် မူရင်းဇာတ်တော်များကို စာမျက်နှာ ၃၆၆ ဖြင့် အပြီး အကျဉ်းချုံးရေးသားခဲ့လေသည်။

## အခန်း (၃)

# ဇာတ်တော်မည်မျှ လောင်းဗုဒ္ဓ

ပုဂံခေတ် ကျောက်စာများအရ ဇာတ်တော်များကို ပန်းချီရေးကြသောအခါ "ဇာတ်ငါးရာ အတင့်အတယ်ရေး၏" ဟူသောအသုံး၊ "ဇာတ် ၅၅၀" ဟူသောအသုံးများ တွေ့ရကြောင်း တင်ပြပြီး ဖြစ်ပါသည်။ ပုဂံခေတ် စဥ့်ကွင်းများ၊ ပန်းချီများကို လေ့လာကြည့်သောအခါ ပုဂံဖက်လိပ်ဘုရားများရှိ စဥ့်ကွင်းများတွင် ဇာတ်တော် ၅၅၀ အပြည့် ရှိနေသည်။ ဝေလာမဇာတ် (၄၉၇)၊ မဟာဂေါဝိန္ဒဇာတ် (၄၉၈)၊ သုမေဓပဏ္ဍိတဇာတ် (၄၉၉) တို့ကို ဖြည့်စွက်ထားလေသည်။

သို့သော် ကျန်စစ်မင်းကြီးလက်ထက် အာနန္ဒာဂူတော်တွင် ပြုလုပ်ထားသော ဇာတ်တော်များမှာ ၅၄၇ ဇာတ်သာ ရှိနေပြီး ၎င်းဇာတ်သုံးဇာတ် မပါဝင်ချေ။ အာနန္ဒာဘုရားရှိဇာတ်တော်များမှာ ဇာတကအဋ္ဌကထာနှင့်အညီ ဖြစ်သည်ဟု ပညာရှင်များက မိန့်ကြားကြပါသည်။

ဖက်လိပ်ဘုရားများသည် အာနန္ဒာဂူဘုရားထက် စောသောဘုရားများ ဖြစ်သည်ဟူ၍လည်း သုတေသီများ တင်ပြထားသည်ကို တွေ့ရပါသည်။

အင်းဝခေတ် ကောင်းမှုတော်ကြီး ကျောက်စာတွင် –

"အပဏ္ဏကဇာတ်အစ၊ ဝေဿန္တရာဇာတ်အဆုံးရှိသော အခွဲနှင့်တကွ ခြောက်ရာသော ဇာတ်တော်တို့ကို ကျမ်းဂန်နှင့်အညီ ရေးစေ၍" ဟု ရေးထားပါသည်။

ဓမ္မာစရိယ ဦးဓွေးလှိုင်က "အခွဲနှင့်တကွခြောက်ရာ ဟူသောအသုံးမှာ ပါဠိသုံးဖြစ်သည်။ ငါးရာ့ငါးဆယ်ကို ဆိုလို၍" ဟု တင်ပြထားပါသည်။ ယနေ့ ၅၄၇ ဇာတ်သာရှိရာ သုံးဇာတ် လိုနေသေးသည်။ ဤသုံးဇာတ် လိုသော်လည်း မောင်းထောင်သာသနာပိုင် ရေးသော သီလက္ခန်ဓ ဋီကာသစ်တွင် ဆရာတော်က "၅၄၇ ဇာတ်ရှိနေသော လက်ရှိမှုကိုပင် အနည်းငယ် အပိုအလိုကို ပမာန မပြုရ" ဟူသောဆိုထုံး (ပရိဘာသာ) ဖြင့် အတည်ပြုခဲ့လေသည်။

ငါးရာ့ငါးဆယ်ကျမ်းများကို စကားပြေဝတ္ထု ရေးသားခဲ့ဖူးသော မုန်တိုင်ပင် ဆရာတော်ကလည်း ၅၄၇ ဇာတ်သာရှိကြောင်း မှတ်သားဖွယ်ရာ ဤသို့ လင်္ကာရေးခဲ့သည်။

"ငါးရာ့လေးဆယ်၊ ခုနစ်ကယ်၊ ယူဖွယ်ဇာတ်၌သာ။
သုံးဇာတ်ကိုပယ်၊ လျော့ရာဝယ်၊ သုံးသွယ်နည်း၌သာ။
ဦး နှ၊ သမ၊ အဓိက၊ ယူထသုံးသချာ။
ဇာတ်တော် ပါဠိ၊ ဤမျှရှိ၊ သိလေ ညာဏ်၌သာ။
ဤမှတပါး၊ ဇာတ်တော်အား၊ အများရှိသင့်စွာ။
အဋ္ဌုပ္ပတ္တိ၊ ရှိတုံသော်မှ၊ ဇာတ်ထိုမျှ၊ ဟောာထ ဒေသနာ။"[၁]

ဆရာဦးဓွေးလှိုင်က "ကောင်းမှုတော်ကျောက်စာကို ထောက်ဆ၍ အင်းဝခေတ်အထိ ဇာတ်တော် ၅၅၀ အတိအကျ ရှိနိုင်သေးကြောင်း။ သီလက္ခန်ဓ ဋီကာသစ်ကို ထောက်ဆ၍ ဘိုးတော်ခေတ်တွင် သုံးဇာတ် ပျောက်နေပြီဖြစ်ကြောင်း သိမှတ်ရပေတော့သည်"[၂] ဟု ဝေဖန်ပါသည်။

ပျောက်နေသော ဇာတ်သုံးဇာတ်သည် ဖက်လိပ်ဘုရားတွင် ပါဝင်သော ဇာတ်သုံးဇာတ် ဖြစ်သည်ဟု ဆိုကြပါသည်။

အာနန္ဒာဘုရားတွင်ရှိသော စဉ့်ကွင်းများမှာ ၅၄၇ ဇာတ်သာရှိနေပြီး ဇာတကအဋ္ဌကထာကျမ်းများနှင့်လည်း ညီညွတ်သည်ဟု ပညာရှင်များက မိန့်ကြားကြသဖြင့် ဇာတ်တော် ၅၄၇ ဇာတ်ဖြစ်နေသည်မှာ ပုဂံခေတ်ကပင် ဖြစ်နေကြောင်း တွေ့ရလေသည်။

ဦးဗိုကေ၏ ပုဂံသုတေသနလမ်းညွှန်တွင် —

"သီရိပစ္စယာရွာသွား ခြေလမ်းအတိုင်း လိုက်ပါက ယခု အခါသံဃာရာဇာအစုဟု ခေါ်ရလွယ်ကူစေရန်အမည်ပေးသော ရှေးဟောင်း အဆောက်အအုံစု ရှိလေသည်။ ဤအဆောက် အအုံစုတွင် ဂူအမှတ် ၁၀၅၀/၄၃၆ အတွင်း ဇာတ်ကွက်ပန်းချီ အပြည့်အစုံကို တွေ့မြင်ရပေလိမ့်မည်။ အပဏ္ဏက အစရှိသော ဇာတ်မှ ဝေဿန္တရာတိုင် ၅၄၇ ဇာတ်ကို အကွက်ချ၍ နံရံများ တွင် ရေးဆွဲထားရာ အပြည့်အစုံနီးပါး ရှိသေးသည်။ ဤကဲ့သို့ ကမ္ပည်းစာနှင့်တကွ ဇာတ်ကွက်များမှာ ပုဂံဒေသတဝိုက်တွင် ဂူဘုရားကြီးငယ်တို့တွင် အများရှိပါသော်လည်း ပြည့်ပြည့်စုံစုံ ကျန်ရှိသည်မှာ နည်းလေသည်။ ထို့ကြောင့် ဤဂူဘုရားသည် လည်း ၅၄၇ ဇာတ်ကွက်များကို လေ့လာလိုသူတို့အတွက် အရေးကြီးသော အဆောက်အအုံ ဖြစ်လေသည်" ဟူ၍

တွေ့ရလေရာ အင်းဝခေတ်နှင့် ဘိုးတော်မင်းတရားခေတ် ကြားကာလ အတွင်း သုံးဇာတ်ပျောက်သွားသည်ဟူသော တင်ပြချက်မှာ စဉ်းစား ဖွယ်ရှိပါသည်။ ပုဂံခေတ်ကတည်းကပင် ဇာတ်တော် ၅၄၇ ဇာတ်ကို သာ ဖော်ပြသည့် အထောက်အထားများလည်း တွေ့ရကြောင်း သိရ လေသည်။

မုံရွေးဇေတဝန် ဆရာတော်ဘုရားကြီးသည် ဂမ္ဘီရ ဝိနစ္ဆယကြေးမုံ မည်သော ပါရမီခန်းပျို့ အဖြေဋီကာတွင် ငါးရာ့ငါးဆယ် ဇာတ်တော် တွင် မပါသော ဘုရားအလောင်းတော်၏ ဖြစ်စဉ်ဘဝများကို ဤသို့ ရေးသားမိန့်ကြားဖူးပါသည်။

"ထိုအတူ ဇာတ်ကျမ်း၌ မလာသော ဇာတ်တို့သည်လည်း အများပင်ရှိ၏။ ဝိသုဒ္ဓိမဂ် မဟာသမ္မတမင်းဘုရားအလောင်း။ မဟာ သီလက္ခန် အဋ္ဌကထာ ကပိလရသေ့ ဘုရားအလောင်း။ ပါထိက အဋ္ဌကထာ ဝါ အဋ္ဌကထာ ဂေါဝိန္ဒ ဘုရားအလောင်း။ ပါထိက အဋ္ဌကထာ ရှဉ်မင်း။ မဇ္ဈိမ အဋ္ဌကထာ ဇောတိပါလလုလင်။ အပါဒါန်

အဋ္ဌကထာ ဝိပါက်တော် ၁၂ ပါး၊ ဇာတ် ၁၂။ အင်္ဂုတ္တိုရ်တိက ဗာရာဏသီသ စေတနမင်း၏ ရထကာရ ဘုရားလောင်း။ အင်္ဂုတ္တိုရ် နဝနိပါတ် သုတ္တသင်္ဂဟ ဝေလာမပုဏ္ဏား ဘုရားလောင်း။ ဓမ္မပဒ ကိံဃရွှေသိပါဠ်ကိုသင်သည့် ဘုရားလောင်းဆရာ။ ဗုဒ္ဓဝင် ဗျာဒိတ်ခံစဉ် ၂၄ ဇာတ် ဘုရားအလောင်း။ စရိယာပိဋက ပဋ္ဌတိံသ စရိယာ ဘုရားလောင်း"၄ ဟူ၍ဖြစ်ပါသည်။

ဆရာတော်၏ ဖော်ပြချက်အရ ကျမ်းများနှင့် ဘုရားလောင်း၏ ဘဝ အမည်နာမများကို တွေ့ရသဖြင့် ဆက်လက် ဖော်ထုတ်နိုင်ရန် အခွင့်သာသွားပါသည်။

ဤတွင်ဝိပါက်တော် ၁၂ ပါးလာ ဇာတ်တော် ၁၂ ဇာတ်နှင့်ဗျာဒိတ်တော်ခံဘဝ ၂၄ ဇာတ်ကို တင်ပြသင့်သည်ဟု ယူဆပါသဖြင့် တင်ပြပါမည်။ ပဋ္ဌတိံသစရိယာ ဘုရားလောင်းမှာ စရိယာ ပိဋကတော်လာ ဇာတ်တော် ၃၅ ဇာတ် ဖြစ်ပါသည်။ မြန်မာနိုင်ငံ ဗုဒ္ဓသာသနအဖွဲ့ (ယခု သာသနာရေးဦးစီးဌာန) က ထုတ်ဝေသည့် ထေရာပဒါန် ပါဠိတော် မြန်မာပြန် ဒုတိယတွဲ၏ ကျမ်းဦးမှတ်ဖွယ်တွင် စရိယာ ပိဋက နှင့် ပတ်သက်၍ ဤသို့ရေးခဲ့ပါသည်။

> "ဤစရိယာ ပိဋက ပါဠိတော်၌ ပါဝင်သော ဇာတ်တော် ၃၅ ဇာတ်မှာ ဇာတ်ပါဠိတော် (၅၅၀ ခေါ်သောဇာတ်များ)၌ ပါဝင်သော ဇာတ်တော်များ ဖြစ်ပေ၏"၅

ဤမှတ်ချက်အရ စရိယာပိဋကဝင် ဘုရားအလောင်း၏ ၃၅ ဇာတ်မှာ ဇာတ်တော် ငါးရာ့ငါးဆယ်တွင်ပါဝင်ပြီးဖြစ်ကြောင်းသိရပါသည်။

## ( ၁ ) ဝိပါက်တော် ၁၂ ပါးလာ ဇာတ်တော်များ

ဘုရားသခင်သည် သဗ္ဗညုတဉာဏ်တော်ရပြီး အသစ်တစ်ဖန်သော ဘဝကို မရနိုင်တော့သော်လည်း ဝိပါက်တော်များ ခံရသေးကြောင်း လုံးတော်ဆရာတော်က –

"ဘုရားပစ္စေကဗုဒ္ဓါတို့ကား ဝါသနာကိုသာ ပယ်နိုင်၏။ ဝိပါက်တော်ကို ပယ်တော်မမူနိုင်ချေ။ အဂ္ဂသာဝက၊ မဟာသာဝကတို့ကား ဝါသနာ၊ ဝိပါက် နှစ်ပါးလုံးကိုပင် မပယ်နိုင်ချေ။ ဤသို့သော စကားအထူးကိုလည်း မှတ်ရာ၏။ ဝါသနာကား ကုသိုလ်၊ အကုသိုလ်တို့၏ အကျိုးတည်း။ ဝိပါက်ကား အကုသိုလ်၏ အကျိုးဆက်သာတည်း။ ဤသို့လျှင် ထူး၏ဟု မှတ်"[၆] ဟူ၍ မိန့်တော်မူဖူးပါသည်။

ထို့ကြောင့် ဗုဒ္ဓရှင်တော်မြတ်ဘုရားသည် လွန်ခဲ့သော ဘဝများက အကုသိုလ်၏ အကျိုးဆက်ဖြစ်သော ဝိပါက်တော် ၁၂ ပါးကို ခံရဖူးလေသည်။ ဤဘဝများကို ဇာတက အဋ္ဌကထာတွင် မတွေ့ရသဖြင့် ဇာတ်တော်စာရင်းတွင်လည်း မပါဝင်ချေ။ ဤဝိပါက်တော် ၁၂ ပါးသည် အပဒါန် အဋ္ဌကထာ၌သာ လာသည်။

စွယ်စုံကျော်ထင်ကျမ်းတွင် ကျည်းကန်ရှင်ကြီးက –

"ခြေမတော်တဲ့၊ ကျွဲပြန်ခဲ့၊ ဘဲ့ဝိပါက်တော်ပါသနည်း"

ဟု မေးခဲ့ရာ ကျီးသဲဆရာတော်က ဤအမေးကိုသာမက ဝိပါက်တော် ၁၂ ပါးစလုံးကိုပါ ပြန်လည်ဖြေဆိုထားသည်။[၇] ဆရာတော်၏ အဖြေအကျဉ်းချုပ် ဝိပါက်တော် ၁၂ ပါးကို တင်ပြရသော် –

(၁) ခြောက်နှစ်ပတ်လုံး ဒုက္ကရစရိယာ ကျင့်တော်မူရခြင်း။

ကဿပဘုရား ပွင့်တော်မူသောအခါ ဂေါတမဘုရား အလောင်းတော်သည် ဗြဟ္မဝဏ္ဏနာမြို့၌ ဇောတိပါလမည်သော ပုဏ္ဏားလုလင်ဖြစ်တော်မူ၏။ ဇောတိပါလသည် ဇာတိမာန် ကြီးသဖြင့် မြတ်စွာဘုရားကို မသဒ္ဓါ။ မကြည်ညို။ မိမိကိုယ်ကိုသာ ချီးပလေ၏။ တစ်ပါးသောသူတို့က "ငါတို့ဘုရားသည် ဒုက္ကရစရိယာ ခြောက်ရက်ကျင့်သဖြင့် သဗ္ဗညုတအဖြစ်သို့ ရောက်တော်မူသည်"ဟု ချီးမွမ်းပြောဆိုကြသည်ကို ကြားလျှင် "သင်တို့ဘုရားသည် ခြောက်ရက်မျှ ကျင့်သဖြင့် ဘုရား

မဖြစ်နိုင်ရာ။ သင်တို့ မလိမ္မာ၍သာ ယုံလေသည်။ ဤဦးပြည်းကား အဘယ်မှာ သဗ္ဗညုတဉာဏ် ရှိအံ့နည်း။ ငါမူကား ဘုရားဖြစ်မည်မှန်လျှင် ခြောက်နှစ်ပင် ဒုက္ကရစရိယာ ကျင့်သေး၏" ဟု ရှုတ်ချ၍ဆို၏။ ထိုနောက်မှ သတိသံဝေဂရ၍ သာသနာ့ဘောင် ဝင်လေ၏။ ဤဝိပါက်တော်ကြောင့် ဒုက္ကရစရိယာ ခြောက်နှစ် ကျင့်တော်မူရလေသည်။

( ၂ ) စိဉ္စမာဏဝိကာ၏ အစွပ်စွဲကို ခံရခြင်း။

ဘုရားအလောင်းသည် ဗာရာဏသီပြည်ဝယ် သူဆင်းရဲမျိုး၌ဖြစ်၍ "မုနာဠိ" အမည်ရှိသော သေသောက်ကြူးဖြစ်၏။ တစ်နေ့သောအခါ "သုရဘိ" မည်သော ပစ္စေကဗုဒ္ဓါ ဆွမ်းခံဝင်လာသည်ကို မြင်လျှင် "ဤအရှင်ဦးပြည်းတို့ကား သူတစ်ပါးတို့ကဲ့သို့ လုပ်ခြင်း၊ ကြံခြင်းကို မပြု။ အမှုမဲ့နေပြီးလျှင် သူ့အိမ်တွင် ကျက်ပြီးသားအစာကို အသင့်သာလျှင် တောင်းစားလေ့ပြု၏။ ဤအရှင်တို့ကား အဘယ်မှာ မြတ်သော ကိုယ်ကျင့်တရား ရှိအံ့နည်း" ဟု ကဲ့ရဲ့ စွပ်စွဲ ဆဲရေးပြောဆို၏။ ဤမကောင်းမှုကြောင့် စုတေသောအခါ အပါယ်လေးဘုံ၌ များစွာသော ဒုက္ခကို ခံခဲ့ပြီးမှ မြတ်စွာဘုရားဖြစ်တော်မူသောအခါလည်း ပရိသတ်အလယ်၌ စိဉ္စမာဏဝိကာ၏ အစွပ်စွဲကို ခံတော်မူရလေသည်။

( ၃ ) သုန္ဒရီပရိဗိုဇ်မ၏ စွပ်စွဲခံရခြင်း။

ဘုရားအလောင်းတော်သည် မုနာဠိ သေသောက်ကြူး ဖြစ်သောအခါ သုရဘိမည်သော ပစ္စေကဗုဒ္ဓါအား တစ်ကြိမ်သာ စွပ်စွဲဖူးသည် မဟုတ်။ ခင်ပွန်းယုတ်နှင့်ပေါင်းမိ၍ ခရီးလမ်းကြောင်း၏အနီး၌ နေပြီးလျှင် "ငါ့ရှင်ဒုဿီလ၊ ကာမချမ်းသာကို ဆိတ်ကွယ်ရာတောအုပ်၌ ခံစားပြီးလျှင် သူတော်စင်ယောင်ဆောင်၍ လူဘောင်သို့ဝင်သလော" ဟူ၍ ဆဲရေးဖူး၏။ ဤမကောင်းမှုကြောင့် စုတေသောအခါ အပါယ်လေးပါး၌ များစွာသောဒုက္ခကို ခံခဲ့ပြီးမှ မြတ်စွာဘုရားဖြစ်သောအခါ သုန္ဒရီ ပရိဗိုဇ်မ၏ အစွပ်စွဲကို ခံရလေသည်။

(၄) သုန္ဒရီပရိဗိုဇ်မ သေသောကြောင့် မင်းနှင့်တကွ ပြည်သူတို့ ယုံမှားခံရခြင်း။

တိတ္ထိတို့သည် မြတ်စွာဘုရားကြောင့် မိမိတို့ကို ကြည်ညိုသူများ မရှိသဖြင့် မြတ်စွာဘုရားကို ပြည်သူများ မကြည်ညိုစေရန် အမျိုးမျိုး ကြံစည်ကြ၏။ တိတ္ထိတို့၏ ကြံစည်မှုတစ်ခုမှာ သေသောက်ကြူးတို့အား သုန္ဒရီ ပရိဗိုဇ်မကို သတ်စေပြီး ဘုရားကျောင်းအနီး ပန်းချုံကြား၌ ထားစေ၏။ နံနက်ရောက်သော် သုန္ဒရီအလောင်းကို ရှာဖွေသောအခါ ဘုရားကျောင်းတော်အနီး၌ တွေ့သဖြင့် ဘုရားနှင့် သံဃာတော်တို့သည် သုန္ဒရီအား ပြစ်မှားပြီး လူများမသိစေရန် သတ်လေသလောဟု တိတ္ထိတို့က စွပ်စွဲလေ၏။ ထိုအခါ မင်းနှင့်တကွ ပြည်သူတို့ ယုံမှားတွေးတောရှိကြကုန်၏။

ဤစွပ်စွဲခံရသည့် ဝိပါက်မှာ အလောင်းတော်သည် ရှေးအခါက ပညာ ဥစ္စာ များစွာသော ပုဏ္ဏားအမျိုးဖြစ်၍ ပြည်သူတို့ ပူဇော်ချီးမြှောက်ခြင်း ခံရလျက်နေ၏။ တစ်ရံသောအခါ သံဝေဂရပြီး ရသေ့ရဟန်းပြု၏။ တောသို့ဝင်ပြီး ဈာန်အဘိညာဉ်တရားကို အားထုတ်ပါသော်လည်း မရသောကြောင့် မြို့သို့ပြန်လာပြီး လူတို့ကို သင်ကြားပြသကာနေ၏။ ထိုအခါ ဟိမဝန္တာမှ ဈာန်သမာပတ်ရသော ရသေ့တစ်ဦးကို ထိုမြို့မှ ပြည်သူ ပြည်သားတို့က ပူဇော်ကြကုန်သော် အလောင်းတော်ရသေ့သည် ငြူစူသဖြင့် မိန်းမတစ်ဦးကို ထိုရသေ့နှင့် အရောဝင်စေပြီးလျှင် ကာမဂုဏ် ယှက်တင်ကြောင်း၊ သီလမစင်ကြယ်ကြောင်းဖြင့် မကောင်းသော သတင်းသံကို ဖြစ်စေ၍ မိမိ၏တပည့်တို့ကိုလည်း ရသေ့အား များစွာ ရှုတ်ချ ဆဲရေးစေ၏။ ဤမကောင်းမှုကြောင့် စုတေသောအခါ အပါယ်လေးဘုံ၌ များစွာသော ဆင်းရဲခံရပြီးမှ ဘုရားဖြစ်သောအခါလည်း သုန္ဒရီ ပရိဗိုဇ်မ သေခြင်းကို အကြောင်းပြု၍ တိတ္ထိတို့ စွပ်စွဲခြင်းကို ခံတော်မူရလေသည်။

(၅) ဒေဝဒတ် ကျောက်ဖြင့်လှိမ့်ချသည်ကို ခံရခြင်း။

လွန်လေပြီးသောအခါ ဘုရား အလောင်းတော်သည် သူကြွယ် အမျိုး၌ဖြစ်၍ တစ်ဖသားချင်းဖြစ်သော ညီအငယ်နှင့် စည်းစိမ်ဥစ္စာ ကြောင့် ခိုက်ရန်ဖြစ်ကြရာ ညီအငယ်ကို လှည့်ပတ်ကာခေါ်၍ တောင် ချောက်၌ ကျောက်ဖြင့်ထု၍ သတ်ဖူးလေသော မကောင်းမှုကံကြောင့် အပါယ်ငရဲ၌ ခံရပြီးသော် မြတ်စွာဘုရား ဖြစ်တော်မူသောအခါလည်း ဝေဘာရ တောင်ခြေရင်း၌ သီတင်းသုံးတော်မူနေစဉ် ဒေဝဒတ်က သတ်လိုသောကြောင့် တောင်ထိပ်မှ ကျောက်လှိမ့်ချခြင်း ခံရ၏။ ဒေဝဒတ် လှိမ့်ချသောကျောက်သည် ဘုရားဘုန်းတော်ကြောင့် တောင် ခုလတ်တွင် ကျောက်တစ်လုံးကဆီး၍ခံသဖြင့်ထိုကျောက်ကိုတိုက်မိကာ ကျောက်လွှာတစ်ခု စင်ထွက်လေပြီး ခြေမတော်ကို ထိခိုက်မိတော် မူခြင်း ခံရလေသည်။

(၆) ကျောက်ချပ်ထိ၍ ခြေမတော်၌ သွေးစိမ်းတည်ခြင်း။

ဘုရားအလောင်းသည် မထင်ရှားသော အမျိုး၌ဖြစ်၍ ငယ်သော ကာလ ကစားနေစဉ် အရှင်ပစ္စေကဗုဒ္ဓါ ဆွမ်းခံဝင်လာသည်ကို မြင် သောအခါ ရှင်မြူးလိုသောစိတ်ဖြင့် ကျောက်ဖြင့်ပစ်လေ၏။ ပစ္စေက ဗုဒ္ဓါ၏ ခြေတော်ကို ကျောက်ထိရကား အရှင်သည် နာကျင်စွာခံစား ရ၏။ ထိုမကောင်းမှုကံကြောင့် ငရဲ၌ ခံရပြီးမှ မြတ်စွာဘုရားဘဝ တွင်လည်း ခြေမတော်တွင် သွေးစိမ်းတည်ရလေသည်။

(၇) သွေးစိမ်းတည်၍ ခြေမတော်ကို ဆရာဇီဝက ဓားဖြင့်ခွဲ ခြင်း။

ဘုရားအလောင်းသည် ပဒေသရာဇ်မင်းဖြစ်သောအခါ ယုတ်မာ သောသူနှင့် ပေါင်းမိသဖြင့် သေအရက်ကို ယစ်မူးစွာ သောက်စားပြီး ယစ်သောအခါ အပြစ်မရှိသောသူအား ဓားဖြင့် မွန်းခဲ့ဖူး၏။ ထို

မကောင်းမှုကြောင့် အပါယ်၌ ခံရပြီး မြတ်စွာဘုရား ဘဝတွင်လည်း ခြေမတော်တွင် သေွးစိမ်းတည်သဖြင့် ဆရာဇီဝက၏ ဓားဖြင့်ခွဲ၍ ကုသခြင်းကို ခံရသည်။

(၈) နာဠာဂီရိဆင်ဖြင့် တိုက်သည်ကို ခံရခြင်း။

ဘုရားအလောင်းတော်သည် ဗာရာဏသီမင်း၏ ဆင်ထိန်းအမျိုး၌ ဖြစ်၍ ဆင်စီးကာလှည့်ရာတွင် ပစ္စေကဗုဒ္ဓါကိုမြင်သောအခါ "အရှင်ဘုရား ရှောင်လော့ရှောင်လော့"ဟုဆို၏။ ပစ္စေကဗုဒ္ဓါလည်း ဆွမ်းခံ စိုက်ဖြစ်၍ ဖြည်းဖြည်းသာသာသွားသည်ကို "မလေးမစား ပြုရာသလော"ဟု ဒေါသစိတ်ဖြစ်၍ ချွန်းဖွင့်ကာ ဆင်ဖြင့်လိုက်၏။ ပစ္စေကဗုဒ္ဓါလည်း ကောင်းကင်သို့လျှင်စွာ ပျံလေ၏။ ထိုမကောင်းမှုကြောင့် စုတေသောအခါ အပါယ်ဘုံသို့ကျပြီး ဘုရားဖြစ်သောအခါလည်း နာဠာဂီရိဆင်ဖြင့် အတိုက်ခံရသည်။

(၉) ရံဖန်ရံခါ ခေါင်းခဲတော်မူရခြင်း။

ဘုရားအလောင်းတော်သည် တံငါရွာ၌ ဆင်းရဲစွာသော အမျိုးသား တစ်ဦးဖြစ်၍ တံငါများလုပ်ကိုင်ရာသို့ သွားပြီးလျှင် "ငါးမိ၍ ရိုက်သတ်သောအခါ ဦးခေါင်းကိုရိုက်မှ သေလွယ်သည်"ဟု နည်းပေး၍ ဝမ်းမြောက်ဝမ်းသာ ရှိခဲ့ဖူး၏။ ဤမကောင်းမှုကြောင့် မြတ်စွာဘုရားအဖြစ်သို့ ရောက်သော်လည်း ရံဖန်ရံခါခေါင်းခဲရလေသည်။

(၁၀) မုယောဆွမ်းသာ ဘုဉ်းပေးတော်မူရခြင်း။

ဘုရားအလောင်းသည် ဖုဿဘုရား ပွင့်တော်မူသောအခါ မသဒ္ဓါသောသူတို့၏ အမျိုး၌ဖြစ်၍ ဘုရားသခင်နှင့်တကွသော သံဃာတော်တို့အား ပြည်သူတို့ ကြည်ဖြူကြသည်ကိုမြင်လျှင် ငြူစူသောစိတ်ရှိ၍ "ငါ့ရှင်တို့ကား အလုပ်မရှိသော လူပျင်းတို့တည်း။ မုယောထမင်းနှင့်

သာလျော်၏”ဟု ပြောဆို၏။ ဤမကောင်းမှုကြောင့် ဝေရဉ္စတိုင်းတွင် ဝါကပ်တော်မူသောအခါ အလွန်ရှားပါးလှ၍ မုယောဆွမ်းကိုသာ ဘုဉ်းပေးရသည်။

(၁၁) ကျောက်ကုန်းတော် နာရခြင်း။

ဘုရားအလောင်းတော်သည် ဗာရာဏသီပြည်တွင် “ဝါမန” အမည်ရှိသော သူကြွယ်ဖြစ်၏။ ကိုယ်အစွမ်း အားကြီး၏။ တစ်နေ့သော အခါ မင်းကြီး၏လက်ပမ်းသည် “မလ္လ”နှင့်ယှဉ်ပြိုင်ပြီးမလ္လ၏ကြောရိုး ဆက်များကို ပြုတ်စေကုန်ပြီး မသေရုံသာကြွင်းစေ၏။ ဤမကောင်းမှုကြောင့် သံသရာ၌လည်း ကိုယ်လုံးနာရခြင်းတို့ဖြစ်၏။ မြတ်စွာဘုရား ဖြစ်သောအခါလည်း ကျောက်ကုန်းတော် နာရလေသည်။

(၁၂) ဝမ်းတော်လားရခြင်း။

ဘုရားအလောင်းသည် သူကြွယ်မျိုး၌ဖြစ်၍ အရွယ်ရောက်သော အခါ ဆေးအတတ်ကိုသင်၍ အသက်မွေး၏။ တစ်ဦးသောသူဌေးသား ၏ ရောဂါကိုကုရာ ပျောက်သော်လည်း သူဌေးသားက ဆေးခပေးရ မည်ကို ကြောက်သောကြောင့် “ရောဂါမချမ်းသာ” ဟု ဆို၏။ ဆေး သမားလည်း ဒေါသရှိသဖြင့် ဝမ်းလားသောဆေးပေး၏။ ထို့ကြောင့် သူဌေးသား ဝမ်းလား၍ သေရလေသည်။ ဤမကောင်းမှုကြောင့် ငရဲခံစားရပြီး မြတ်စွာဘုရားဘဝတွင်လည်း ဝမ်းတော်လားခြင်း ခံရ လေသည်။

မုံရွေးဆရာတော်က ဤ ၁၂ ဇာတ်သည် ဇာတကအဋ္ဌကထာတွင် မပါဟုဆိုပါသည်။ ဒုတိယဝိပါက်နှင့် တတိယဝိပါက်တို့ကို ကျီးသဲ လေးထပ်ဆရာတော်နှင့် လုံးတော်ဆရာတော်တို့၏ အယူအဆများမတူ ညီကြချေ။

ဤတွင်မြတ်စွာဘုရား၏ ဝိပါက်တော်များနှင့်ပတ်သက်၍ အလျဉ်း သင့်သဖြင့် တင်ပြရန်တစ်ခုရှိပါသည်။ ဝိပါက်တော်များကို အပါဒါန် အဋ္ဌကထာအရ ဖော်ပြခဲ့ပြီး ၁၂ ပါးသာ တွေ့ရပါသည်။

မြန်မာများအနေနှင့် ပြောရိုးတစ်ခုရှိပါသည်။ မြတ်စွာဘုရားသည် ပရိနိဗ္ဗာန်စံခါနီးအချိန် ကုသိနာရုံသို့ကြွရာခရီး ပါဝါမြစ်အနီးတွင် ရေငတ်မွတ်တော်မူရာ လှည်းငါးရာတို့ မြစ်ကူးထားသဖြင့် ရေနောက်များကိုသာ သုံးတော်မူရလေသည်။ ဤဝိပါက်သည် အလောင်းတော် နွားငယ်ဖြစ်စဉ်ကာလက မိခင်နွားမကြီး ရေသောက်နေစဉ် မြစ်ညာမှ ကစားမြူးတူးမိသဖြင့် မိခင်နွားမကြီးမှာ ရေနောက်များကို သောက်ရသည်။ ဤဝိပါက်ကြောင့် ဖြစ်သည်ဟု ပြောလေ့ရှိကြသည်။

ဤအကြောင်းမှန်မမှန်ကို မုံရွေး ဇေတဝန်ဆရာတော် ဘုရားအား သီရိမာလာက လျှောက်ထားမေးမြန်းဖူးလေသည်။ မုံရွေးဆရာတော်က ပြန်လည်ဖြေဆိုရာတွင် ဖော်ပြခဲ့ပြီးသော ဝိပါက်တော် ၁၂ ပါးကို ဖော်ပြလျက် –

> "ပါဠိတော်တွင်လည်း ကျေနစတ္တာလီသဝဂ်တွင် ဤတဆဲ့နှစ်ပါးကိုသာ ဂါထာအသီးသီးနှင့် အနဝတတ်အိုင်နားတွင် ဟောတော်မူကြောင်းကိုလာသည်။ ရေငတ်တော်မူကြောင်းကို ပါကောင်းပါလျက် မပါချေသော် နွားငယ်ဖြစ်သောကာလ အကုသိုလ်ကြောင့် ဆိုသောစကားသည် မခိုင်လွန်းသကဲ့သို့ ထင်သည်။
>
> × × × ×
>
> လာဘ၊ အလာဘစသော လောကဓံတရားတို့သည် ကံကိုစွဲ၍ ဖြစ်သည်ဟူ၍ ဆိုသည်ကိုထောက်သော် ကံတော်နှင့်မကင်းဟူ၍သော်ကား ရှိ၏။ အထူးကိုမူကား မဆိုမဖွင့်လေပြီ မှတ်သင့်သည်။"[၈]

ဟူ၍ ဖြေဆိုတော်မူဖူးလေသည်။ မုံရွေးဆရာတော်က "မခိုင်လွန်းသကဲ့သို့ထင်သည်" ဟု ဖြေဆိုထားသော်လည်း စွဲမြဲနေကြသေးသည်။

ဆရာဦးပုံးချို၏ မဟာဂီတပေါင်းချုပ်တွင် "ပင်ဗောဓိအဇပါ သုဇာတာလှူဒါန်း"၌ ဗုဒ္ဓဝင်ဘုရားဖြစ်ခန်း သိင်္ဂါသံတစ်ပုဒ်ပါဝင်ပါသည်။ နောက်ဆရာများရေးသည်ဟူ၍ မှတ်တမ်းတင်ထားပါသည်။ ထိုသိင်္ဂါသံ သီချင်းတွင်–

"ဝမ်းသွေးတော် စိန္တေယျမှာ၊ ရှေးကဝဋ္ဋ်ကြမ္မာဖန်၊ ဘေးမလွတ် ခမျာကာ၊ ညီမင်းနန္ဒာ ရေရှာလို့ကပ်ပါအုံး၊ စောမုနိန်း၊ ကကုဓာရေရှာ ခု ညီတော်သွား၊ ချောင်း မြစ်ဝနားမှာ၊ များစွာလှည်းသားငါးရာ၊ မောင်းလို့နောက်ထပ်၊ ခပ်ထည့်ပါသော်၊ အကြည်မရနိုင်လို့၊ နောက်လှသည့်ရေကိုသာ၊ မြတ်ညီလှနန္ဒာ ကပ်သောခါ၊ ငါဘုရား၊ နွားဘဝဖြစ်စဉ်ခါက၊ ပါလေတဲ့ဝဋ္ဋ်ဝိပါ"၉ ဟူ၍တွေ့ရပါသည်။

ဆရာတော် ဦးဝိစိတ္တသာရာဘိဝံသ၏ မဟာဗုဒ္ဓဝင်ကျမ်း ပဥ္စမ တွဲတွင် —

"မြတ်စွာဘုရား။ ကကုဓာမြစ်သည် မဝေးလှတော့ပါ။ ထိုမြစ်သည် ကြည်လင်သောရေရှိပါ၏။ ချိုမြိန်သောရေ၊ အေးမြသောရေ၊ ညှနက်ကင်းသောရေ ရှိပါ၏။ ဆိပ်ကမ်းလည်း သာယာ မွေ့လျော်ဖွယ်ရာလည်း ရှိပါ၏။ ဤကကုဓာမြစ်၌ မြတ်စွာဘုရားသည် ရေကိုလည်းသောက်တော်မူရပါလိမ့်မည်။ ကိုယ်တော်ကိုလည်း အေးမြအောင် ပြုတော်မူရပါလိမ့်မည်"၁၀ ဟုတွေ့ရပါသည်။ ထို့ကြောင့် ဤသီချင်းပါ အချက်အလက်များသည် အားမကိုးသာကြောင်း တွေ့ရပါသည်။

## (၂) ဗျာဒိတ်တော်လာ ၂၄ ဘဝ

ဗျာဒိတ်တော်လာ ၂၄ ဘဝတို့သည်လည်း ဇာတကအဋ္ဌကထာများတွင် မပါဟု ဆိုပါသည်။ ဗျာဒိတ်တော်လာဘဝများဆိုသည်မှာ ဒီပင်္ကရာမြတ်စွာဘုရားလက်ထက်မှ ကဿပမြတ်စွာဘုရားတိုင် ဘုရားရှင်အဆက်ဆက်တွင် ဂေါတမ မြတ်စွာဘုရား အလောင်းတော်သည် ဗျာဒိတ်တော်များ ခံယူခဲ့ဖူးလေသည်။ ထိုဘဝများမှာ အောက်ပါအတိုင်းဖြစ်ပါသည်။ အကျယ်ကို ဗုဒ္ဓဝင်ကျမ်းများတွင် ကြည့်နိုင်ပါသည်။

| ဘုရားရှင် | ဂေါတမမြတ်စွာဘုရားလောင်း ဘဝ။ |
|---|---|
| ၁။ ဒီပင်္ကရာ | သုမေဓာရှင်ရသေ့ |
| ၂။ ကောဏ္ဍည | ဝိဇိတာဝီစကြာမင်း(စန္ဒဝတီပြည်) |
| ၃။ မင်္ဂလ | သုရုစိပုဏ္ဏား |
| ၄။ သုမန | အတုလနဂါးမင်း |
| ၅။ ရေဝတ | အတိဒေဝပုဏ္ဏား |
| ၆။ သောဘိတ | သုဇာတပုဏ္ဏား |
| ၇။ အနောမဒဿီ | ဘီလူးစစ်ဗိုလ်ကြီး |
| ၈။ ပဒုမ | ခြင်္သေ့မင်း |
| ၉။ နာရဒ | သူတော်ကောင်းရသေ့ |
| ၁၀။ ပဒုမုတ္တရ | ဇဋိလသူဌေးကြီး |
| ၁၁။ သုမေဓာ | ဥတ္တရလုလင် |
| ၁၂။ သုဇာတ | စကြာမင်း |
| ၁၃။ ပိယဒဿီ | ကဿပပုဏ္ဏား |
| ၁၄။ အတ္ထဒဿီ | သုသိမရသေ့ |
| ၁၅။ ဓမ္မဒဿီ | သိကြားမင်း |
| ၁၆။ သိဒ္ဓတ္ထ | မင်္ဂလရသေ့ |
| ၁၇။ တိဿ | သုဇာတရသေ့ |
| ၁၈။ ဖုဿ | ဝိဇိတာဝီမင်း (အရိန္ဒမပြည်) |
| ၁၉။ ဝိပဿီ | အတုလနဂါး |
| ၂၀။ သိခီ | အရိန္ဒမမင်း |
| ၂၁။ ဝေဿဘူ | သုဒဿနမင်း |
| ၂၂။ ကကုသန္ဓ | ခေမမင်း |
| ၂၃။ ကောဏာဂမန | ပဗ္ဗတမင်း |
| ၂၄။ ကဿပ | ဇောတိပါလလုလင်[၁၁] |

ဗျာဒိတ်တော်ဘဝများတွင် ရသေ့အဖြစ်ငါး ဘဝ၊ ရဟန်းအဖြစ်ကိုး ဘဝ၊ လူအဖြစ် ငါးဘဝ၊ နဂါးအဖြစ် နှစ်ဘဝ၊ သိကြားအဖြစ်

တစ် ဘဝ၊ ဘီလူးအဖြစ်တစ်ဘဝနှင့် ခြင်္သေ့မင်းအဖြစ် တစ်ဘဝတို့ ဖြစ်ပါသည်။ အလွယ်မှတ်ရန် ဆရာတော် ဦးဝိစိတ္တသာရာဘိဝံသက –

"ရသေ့ပဥ္စ၊ နဝဘိက္ခု၊ လူအဖြစ်ငါး၊ နှစ်နဂါးတည့်၊ သိကြားယက္ခ၊ သီဟရာဇာ၊ တစ်စီသာ၊ သင်္ချာဇောဝီသ"[၁၂]
ဟုရေးစပ်ပါသည်။

ထိုဗျာဒိတ်တော်ခံဘဝများကို မန်လည် ဆရာတော်ဘုရားကြီးက ဗုဒ္ဓဝင် ဘုရားရှိခိုးဟု ရေးဖွဲ့ခဲ့ဖူးပါသည်။ (နောက်ဆက်တွဲ ၈ တွင် ကြည့်ပါ)။ ထိုဗျာဒိတ်တော်ခံဘဝများကို ဓမ္မရာသီပျို့ အပိုဒ် ၇၊ ၈၊ ၉ တို့တွင်လည်း တွေ့ရှိနိုင်ပါသည်။ ထို ၂၄ ဘဝတွင် ရဟန်းဖြစ်ရာ ကိုးဘဝ ကို မင်းကွန်းတောရ ဆရာတော် ဦးပဏ္ဍိဝံသ မေးသဖြင့် မန်လည် ဆရာတော်က ဖြေဆိုထားသည်ကို အောက်ပါအတိုင်း တွေ့ရပါသည်။

၃၂။ ဗာတ္တိံသတိမ ပုစ္ဆာ။ ။လေးသင်္ချေလွန်ဘိ၊ သိန်းကပ်ရှိခေတ်တွင်။ ။အဖန်ဖန်ကျင်လည်ရှောင်း လောင်းတို့သခင်။ ။သာသနာဝင်၊ ဖြစ်သည်လျှင် ရဟန်း။ ။ကိုးကြိမ်မျှ တွက်ရေတယ်၊ ဘယ်စိန္တေ ရှင်တော်ပွဲမှာ၊ နွဲ့ခဲ့လေမှန်း။

ဗာတ္တိံသတိမ ဝိသဇ္ဇနာ။ ။လေးသင်္ချေလွန်ဘိ၊ သိန်းကပ်ရှိခေတ်တွင်။ ။ ကောဏ္ဍညာ သုမင်္ဂလနှင့်၊ သုမေဓာ၊ သုဇာတ၊ ဖုဿ ဝေဿ ဘူက၊ ကကူသန် ကောဏာဂ၊ ကဿပရှင်။ ။ကိုးပါးတွင် သည်ပင်သာပါတဲ့။ ။တို့လောင်းတော်မြတ်စွာ၏၊ သာသနာကိုးကြိမ်ထမ်းကို ကျမ်းကမှာခဲ့။[၁၃]

ဤဖြစ်တော်ဘဝများကို လေ့လာကြည့်သောအခါ ဝိပါက်တော် ၁၂ ပါးမှ ပထမဝိပါက်တော်သည် ကဿပ ဘုရားရှင်တော်လက်ထက် ဇောတိပါလ လုလင်ဘဝ မောက်ကြွားစွာ ပြောဆိုဆက်ဆံမှုကြောင့် ခြောက်နှစ်တိုင် ဒုက္ကရစရိယာ ကျင့်ရသည်ဟု တွေ့ရပါသည်။ ဗျာဒိတ်တော်ခံ ၂၄ ဘဝတွင် ပါဝင်သည့် ကဿပဘုရားရှင်လက်ထက်၌ ဗျာဒိတ်တော်ရသည့် ဇောတိပါလနှင့် တစ်ဘဝတည်းဖြစ်ကြောင်း တွေ့ရပါသည်။

အချုပ်ကိုတင်ပြရသော် ဗုဒ္ဓဝင် ဖြစ်တော်စဉ်ဘဝများကို ပုဂံခေတ်တွင် အချိုး ၅၅၀ အပြည့်တွေ့ရပြီး၊ အချိုး ၅၄၇ ဇာတ်သာ တွေ့ရပါသည်။ အစောပိုင်း ဇာတ်တော်များမှာ ၅၅၀ ပြည့်ပြီး၊ နှောင်းပိုင်းဇာတ်များမှာ ၅၄၇ ဇာတ်သာ တွေ့ရပါသည်။ ဇာတက အဋ္ဌကထာ ကျမ်းများနှင့် ညီညွတ်သည်ဟုလည်း ပညာရှင်များက သုံးသပ်ကြပါသည်။ ဇာတ်တော်သုံးဇာတ် ပျောက်ဆုံးနေသည်ဟု တင်ပြသော ဦးဌေးလှိုင်က –

"ကမ္ဘာပေါ်ရှိ ပိဋကမူများအားလုံးမှာပင် ပျောက်နေသည်မှာ ထူးခြားလှ၏။ မြန်မာမှပင် ကူးယူထားကြရသောကြောင့်လောမသိ။ စာစ်ဖန် ပါဠိတော်မှာရော အဋ္ဌကထာမှာပါ စုံပျောက်သွားခြင်းမှာလည်း ဖြစ်တောင့်ဖြစ်ခဲမျှ"[၁၄] ဟု သုံးသပ်ထားပါသည်။

ဗုဒ္ဓ၏ ဖြစ်တော်ဘဝများကို လေ့လာရခြင်းသည် နှိုက်နှဲကျယ်ဝန်းလှပါသည်။ ဇာတကအဋ္ဌကထာ၊ ကေနိပါတ်၊ သာကေတ ဇာတ်တော်တွင် မြတ်စွာဘုရား၏ ခြေကို ဖက်၍ ငိုသည့် ပုဏ္ဏေးမကြီးကို အကြောင်းပြု၍ မြတ်စွာဘုရားက ဤသို့မိန့်ကြားခဲ့ပါသည်။

"ရဟန်းတို့ လွန်လေပြီးသောအခါ၊ ဤပုဏ္ဏားသည်၊မပြတ်လျှင် ဘဝငါးရာတို့ပတ်လုံး ငါ၏အဘဖြစ်ဖူးပြီ၊ ဘဝငါးရာတို့ပတ်လုံး ငါ၏ဘထွေးဖြစ်ဖူးပြီ၊ ဘဝ ငါးရာတို့ပတ်လုံး ငါ၏ဘကြီးဖြစ်ဖူးပြီ၊ ထိုပုဏ္ဏေးမသည်လည်း မပြတ်လျှင် ဘဝငါးရာတို့ ပတ်လုံး ငါ၏ အမိဖြစ်ဖူးပြီ။ ဘဝငါးရာတို့ပတ်လုံး ငါ၏မိထွေးဖြစ်ဖူးပြီ၊ ဘဝငါးရာတို့ပတ်လုံး ငါ၏မိကြီး ဖြစ်ဖူးပြီ။ ဤသို့လျှင် ငါဘုရားသည် ဘဝတစ်ထောင့်ငါးရာတို့ပတ်လုံး ပုဏ္ဏား၏ လက်၌ ကြီး၏။ ဘဝ တစ်ထောင့်ငါးရာတို့ပတ်လုံး ပုဏ္ဏေးမ၏လက်၌ ကြီး၏ ဟု ဘဝသုံးထောင်တို့ကို ဟောတော်မူ၍"[၁၅] ဟု တွေ့ရပါသည်။ ဤသာကေတဇာတ်အရပင် ဘဝသုံးထောင် တွေ့နေရပေသည်။ လေးသင်္ချေနှင့် ကမ္ဘာတစ်သိန်းတိုင်

ပါရမီတော်များ ဖြည့်ဆည်းခဲ့လေရာ ဘဝပေါင်းများစွာ ကျင်လည်ခဲ့ရပေမည်။

ဆရာတော် ဦးဝိစိတ္တသာရာဘိဝံသက ဘုရားအလောင်း၏ ပါရမီဖြည့်ရာဘဝများကို –

"မြတ်စွာဘုရားသည် ပစ္စုပ္ပန်အဖြစ်အပျက် အကြောင်းအဋ္ဌုပ္ပတ်နှင့် တိုက်ဆိုင်သော အဖြစ်တော်ဇာတ်တော်စုကိုသာ အဆင်သင့်ရာကောက်နုတ်၍ ဟောပြတော်မူသည်။ မဟောပြဘဲ ကြွင်းကျန်နေသောဘဝဇာတ်တို့ကသာ များလှပေသည်"[၁၆]

ဟု မိန့်ကြား ရေးသားခဲ့သည်ကို ထောက်၍ ဗုဒ္ဓလောင်းလျာသည် "နှမ္မာငါးရာ၊ ရင့်မှာတစ်ကျိပ်" ဟူသော စကားစဉ် ဘဝများထက်များစွာသော ဘဝများတွင် ပါရမီဖြည့်ခဲ့ရသည်ဟူ၍သာ မှတ်ယူရန်ရှိပါသည်။

ဤအကြောင်းကိုပင် မင်းလက်ဝဲနော်ရထာက တောင်တွင်းဆရာတော်ထံသို့ သက္ကရာဇ် ၁၁၂၂ ခု၊ တပေါင်းလတွင် ပါရမီ ဖြည့်တော်မူသည့်ကာလကို သိချင်ပါသည်ဟု မေးလျှောက်ဖူးရာ ဆရာတော်က–

"ပါရမီတို့ကို ဖြည့်တော်မူသော ကိုယ်တော်အဖြစ်တို့၏ နှိုင်းရှည့်နိုင်ခြင်းမည်သည် မရှိ" ဟူ၍ ပါရမီဖြည့်တော်မူသည့် ဘဝများစွာကိုနှိုင်းယှဉ်၍မရနိုင်ကြောင်း အဋ္ဌသာလိနီ၊ စရိယာပိဋ္ဌကအဋ္ဌကထာတို့၏ အဆိုအမိန့်များကို ထည့်သွင်းပြီး အောက်ပါအတိုင်း ဖြေကြားတော်မူခဲ့သည်။

"အဘယ်ကြောင့် ထိုငါးရာ့ငါးဆယ်သော ဇာတ်တို့ကိုသာ ဒေသနာပါဠိတင်၍ ဟောလေသနည်း။ တစ်ပါးသောဇာတ်တို့ကိုကား အဘယ်ကြောင့် မဟောလေသနည်း ဟူမူကား ငါးရာ့ငါးဆယ်ဇာတ်တို့မှာ စကားစပ်ဝတ္ထုဖြစ်သောကြောင့် ဟောလေသည်။ တစ်ပါးသောဇာတ်တို့မှာ စကားစပ်ဝတ္ထုမဖြစ်သောကြောင့် မဟောလေသည်။

သို့ဖြစ်၍ ငါးရာ့ငါးဆယ်ဇာတ်ဆိုသည်မှာ စကားစပ် အဌုပ္ပတ္တိဖြစ်၍ ဟောလိုက်သည်။ လက်သည်းခွံတွင်ပါသော မြူကဲ့သို့ အနည်းငယ်သာ။ စကားစပ်အဌုပ္ပတ္တိမရှိ၍ မဟော သော ပါရမီကို ဖြည့်တော်မူသော ဇာတ်တော် သည်ကား တောတောင်မြူမှုန်ကဲ့သို့ မရေမတွက်နိုင်ရှိသည်"၁၇

ထိုသဘောအတိုင်းပင် မုံရွာ သီရိမာလာကလည်း သက္ကရာဇ် ၁၁၇၁ ခု၊ သီတင်းကျွတ်လဆန်း ၁ ရက် စနေနေ့တွင် မုံရွေး ဇေတဝန် ဆရာတော်ဘုရားထံ မေးမြန်းဖူးပါသည်။

မုံရွေးဇေတဝန်ဆရာတော်က —

"ငါးရာ့ငါးဆယ်ဇာတ် ဆိုသည်မှာလည်း ပါရမီဖြည့်တော် မူလေသမျှ ဘဝအကုန်ဖော်ပြ၍ ဟောတော်မူသည် မဟုတ် ချေသေး။ စကားအလျဉ်းသင့်၍ ဟောခွင့်ကြုံကိုက်သော ကာလ အခိုက်တွင် ဟောတော်မူလိုက်သမျှသာ ဖြစ်ချေသေးသည်။

× × × ×

"ပါရမီတို့ကို ဖြည့်တော်မူသော ကိုယ်တော်၏ အဖြစ်တို့၏ နှိုင်းရှည့်ခြင်းမည်သည် မရှိပြီဟူ၍ စရိယပိဋကအဋ္ဌကထာ၊ ဇိနာလင်္ကာရဋီကာ စသည်တို့၌ဆိုသည်"၁၈ ဟူ၍ ဖြေဆိုတော် မူဖူးလေသည်။ ဤဖြေဆိုချက်များကို ထောက်၍ ပါရမီတော် ဖြည့်ခဲ့ရသော ဘုရားအလောင်းတော်၏ ဘဝများသည် မရေတွက်နိုင် အောင်ပင် များပြားခဲ့သည်ဟူ၍သာ မှတ်သားရပါသည်။

## (၃) ဇာတ်တော်တူများ

အလွယ်ခေါ်ကြသော ငါးရာ့ငါးဆယ်သည် ဇာတကအဋ္ဌကထာ ကျမ်းအရ ၅၄၇ ဇာတ်ရှိကြောင်း တင်ပြခဲ့ပြီးဖြစ်ပါသည်။ ၅၄၇ ဇာတ် ဟုဆိုရသော်လည်း တူညီသောဇာတ်တော်များကို ဖယ်လိုက်လျှင် ၅၄၇ ဇာတ်ပင် မပြည့်တော့ချေ၊ တူညီသောဇာတ်တော်များကို လေ့

လာသောအခါ အချို့ဇာတ်တော်သည် ဇာတ်တော်ကြီးတစ်ခုထဲမှ ထုတ်နုတ်ပြထားခြင်းများကို တွေ့ရသည်။ အချို့သည် ပစ္စုပ္ပန်ဇာတ် မတူဘဲ အတိတ်ဇာတ် တူညီနေသည်။ အချို့ဇာတ်တော်သည် အတိတ်ဇာတ်ကြောင်းအရ တူညီနေပြီး အမည်များသာ ကွဲလွဲနေသည်တို့ကို တွေ့ရလေသည်။

## (က) ဇာတ်တော်ကြီးတစ်ခုတည်းမှ ထုတ်နုတ်သော ဇာတ်တော်များ

အောက်ပါဇာတ်တော်များသည် ဇာတ်တော်ကြီး တစ်ခုတည်းမှ ထုတ်နုတ်ထားသော ဇာတ်တော်များအဖြစ်တွေ့ရပါသည်။

| နိပါတ် | ဇာတ်တော်အမည် | ထုတ်နုတ်ရာဇာတ်တော် |
|---|---|---|
| ဧကနိပါတ် | သဗ္ဗသံဟာရကပဉ္စဇာတ် | မဟာဥမင်ဇာတ် |
| ။ | ဂဒြဘပဉ္စဇာတ် | (မဟောသဓ) |
| ။ | အမရာဒေဝီပဉ္စဇာတ် | ။ |
| ဒုကနိပါတ် | ကကဏ္ဍကဇာတ် | ။ |
| ။ | သိရိကာဠကဏ္ဏိဇာတ် | ။ |
| စတုက္ကနိပါတ် | ဒေဝတာပဉ္စဇာတ် | ။ |
| ပဥ္စကနိပါတ် | ခဇ္ဇောပနကဇာတ် | ။ |
| ဒသကနိပါတ် | ဘူရိပဉ္စဇာတ် | ။ |
| ဒွါဒသကနိပါတ် | မေဏ္ဍကပဉ္စဇာတ် | ။ |
| ဝီသတိနိပါတ် | သိရိမန္တဇာတ် | ။ |
| ။ | ပဉ္စပဏ္ဍိတဇာတ် | ။ |
| တိံသနိပါတ် | ဒကရက္ခသဇာတ် | ။ |
| ဒသကနိပါတ် | စတုပေါသကထိကဇာတ် | ဝိဓူရဇာတ် |

ဤဇာတ်တော်များကို ညောင်ကန်ဆရာတော်၏ ငါးရာ့ငါးဆယ် မြန်မာပြန်ကျမ်းများတွင်လည်း အကျယ်မပြထားပေ။ ဂါထာများကို

သာ မြန်မာ ပြန်ပြထား ပါသည်။ "အမေးတော်အဖြေ" ကျမ်းတွင် ပထမ မောင်းထောင်ဆရာတော်သည် ပုဂံမြို့ အာနန္ဒာစင်္ကြံကွင်းဘုရား များကို ဇာတ်တော်နှင့်ညှိ၍ စာရင်းပြုလုပ်ပြထားရာတွင် ဤသို့တွေ့ ရပါသည်။

| ဇာတ်စဉ် | ဇာတ်အမည် | အရုပ်အရေအတွက် |
|---|---|---|
| ၁၁၀ | သဗ္ဗသာဟာရ | ဘုရား လောင်း မဟောသဓ တရားစီရင်ဟန် ၁။ အဆုံးအဖြတ်ခံဟန် မိန်းမကြီး ၁။ မိန်းမငယ်လည်ရှဲကိုင်လျက် ၁။ |
| ၁၁၁ | ဂဒြဘဇာတ် | နန်းဆောင်နှင့် ဝိဒေဟရာဇ်မင်း ၁။ လျှောက်ဟန် သုခမိန် ၁၊ မဟောသဓ အဖသူဌေး ၁။ ဘုရားလောင်းမဟောသဓသုခမိန်၁။မင်းအားပြဟန်မြည်း ၁။ |
| ၁၁၂ | အမရာဒေဝီဇာတ် | ဘုရားလောင်းမဟောသဓရီးသွားဟန် ၁။ အမရာဒေဝီ ယာဂုအိုးရွက်လျက် တူရူဆိုင်မိဟန် ၁။ [၁၆] |

စသည်ဖြင့် တွေ့ရ၍ ၎င်းဇာတ်တော်များသည် ဇာတ်တော်ကြီး တစ်ခုမှ ထုတ်နုတ်ပြထားကြောင်း သိနိုင်သည်။

## (ခ) တစ်ဇာတ်တော်တည်းဟုပြောနိုင်သောဇာတ်တော်များ

အချို့ဇာတ်တော်များ၏ အတိတ်ဇာတ်ဝတ္ထုများသည် တစ်ဇာတ်တော်တည် ဖြစ်သည်ဟု ပြောနိုင်လေသည်။

ဧကနိပါတ်တော်လာ မိတ္တဝိန္ဒကဇာတ်၊ ပဉ္စက နိပါတ်တော်လာ မိတ္တဝိန္ဒကဇာတ်နှင့် ဒသနိပါတ်တော်လာ မဟာမိတ္တဝိန္ဒကဇာတ် တို့သည်လည်းကောင်း။

ကေနိပါတ်တော်လာ ပရောသဟဿဇာတ်နှင့် ပရောသတဇာတ်တို့သည်လည်းကောင်း ဇာတ်တော်တူများဖြစ်သည်ဟု ဆိုနိုင်ပါသည်။ ပရောသဟဿဇာတ်၊ ပရောသတဇာတ်တို့နှင့် ကေနိပါတ်လာ ဈာနသောဓနဇာတ် နှင့် စန္ဒာဘဇာတ်တို့သည်လည်း ဇာတ်တော်အတူဟု ဆိုနိုင်ပါသည်။ ထိုလေးဇာတ်၏ ဇာတ်လမ်းအချုပ်မှာ ဤသို့ဖြစ်ပါသည်။

ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မင်းပြုသည်ရှိသော် ဘုရားအလောင်းတော်သည် ဥဒိစ္စပုဏ္ဏားမျိုးဖြစ်၍ ကာမဂုဏ်တို့ကိုပယ်၍ ရသေ့ရဟန်းပြု၏။ အခြံအရံ ရသေ့ ၅၀၀ ဖြစ်ကုန်၏။ တစ်နေ့တွင် တပည့်ကြီးသည် ချဉ်ဆားအလို့ငှာ ထက်ဝက်သောရသေ့အပေါင်းကိုယူ၍ လူ့ပြည်သို့သွား၏။ ဘုရားအလောင်းစုတေခါနီးသောအခါ အနီးနေတပည့်များက ဆရာရသေ့အား ဘယ်တရားကိုရပါသနည်းဟု မေး၏။ ဆရာရသေ့က ရခဲ့သောတရားကို ဖြေဆိုခဲ့ရာ ဇာတ်တော်လေးဇာတ်တွင် အဖြေသုံးမျိုးတွေ့ရပါသည်။

ပရောသဟဿဇာတ်နှင့် ပရောသတဇာတ်တွင် စုတေကာနီး ဆရာဖြေခဲ့သောအဖြေမှာ "နတ္ထိကိဉ္စိ" ဟု တွေ့ရပါသည်။ ဈာနသောဓနဇာတ်တွင် ဆရာက "နေဝသညီ နာသညီ" ဟုဖြေခဲ့ပြီး၊ စန္ဒာဘဇာတ်တွင် "စန္ဒာဘံသူရိယာဘံ" ဟုဖြေခဲ့ကြောင်း တွေ့ရလေသည်။ ဆရာသည် ယင်းသို့ဖြေပြီး အာဘဿရဘုံ၌ ဗြဟ္မာဖြစ်ကြောင်း လေးဇာတ်လုံးတွင် တွေ့ရပါသည်။

ဆရာ၏အဖြေသာကွဲလွဲ၍ အခြားအကြောင်းများတူညီသဖြင့် တစ်ဇာတ်တော်တည်းဟုပင် ပြောနိုင်လေသည်။ အမေးတော် အဖြေကြမ်းလာ ပုဂံ အာနန္ဒာစဥ္စကြင်းရုပ် စာရင်းတွင်လည်း ဤလေးဇာတ်လုံးကို

"ဘုရားလောင်းရသေ့ စုတေ၍ ဗြဟ္မာဖြစ်လျှင် တော၌ တပည့်တို့အား ပြောဟောလှာဟန် မျက်နှာ လေးခုနှင့် တပည့်ရသေ့ ၂။

(ဗြဟ္မာဟုသိသာအောင် လောကီအလိုမျက်နှာ လေးခုနှင့် ရေးပုံထွင်ရေးသည်)[၂၀] ဟုရုပ်ပုံကိုဖော်ပြ ထားပါသည်။

## (ဂ) ပစ္စုပ္ပန်ဝတ္ထုမတူဘဲ အတိတ်ဝတ္ထုတူသော ဇာတ်တော်များ။

အချို့ဇာတ်တော်များသည် ပစ္စုပ္ပန်အကြောင်းပြု ဇာတ်တော် မတူဘဲ အတိတ်ဇာတ်ဝတ္ထုများ တူညီနေကြောင်းကိုလည်း တွေ့ရပါသည်။

တိကနိပါတ်တော်လာ "မဟာပနာဒဇာတ်"နှင့် ပကိဏ္ဏက နိပါတ်တော်လာ "သုရုစိဇာတ်"တို့သည် ပစ္စုပ္ပန်ဝတ္ထုမတူဘဲ အတိတ်ဝတ္ထုတူကြလေသည်။ "မဟာပနာဒဇာတ်" ကို ဘဒ္ဒိယမြို့နေ ဘဒ္ဒိယသူဌေး၏သားဖြစ်သော ဘဒ္ဒဇိသတို့သား (အရှင်ဘဒ္ဒဇိမထေရ်) ကို အကြောင်းပြု၍ ဟောကြားတော်မူခြင်းဖြစ်၏။ ဘဒ္ဒဇိမထေရ် ၏ မဟာပနာဒမင်းလက်ထက်က ခံစားခဲ့ဖူးသောစည်းစိမ်ကို ရဟန်းတော်တို့က မေးလျှောက်သောကြောင့် ဟောကြားတော်မူရခြင်း ဖြစ်၏။ "သုရုစိဇာတ်သည်" ဝိသာခါကို အကြောင်းပြု၍ ဟောကြားရခြင်း ဖြစ်သည်။ ဝိသာခါသည် မြတ်စွာဘုရားထံမှ ဆုရှစ်ပါးကိုရ၏။ ထိုဆုရှစ်ပါးကို အကြောင်းပြု၍ ရဟန်းတို့သည် စည်းဝေးသဘင်၌ ဝိသာခါ၏ ဆုရှစ်ပါးရကြောင်းကို စကားဖြစ်ကြ၏။ မြတ်စွာဘုရားက ဝိသာခါသည် ယခုမှ ဆုရှစ်ပါးကို ရသည်မဟုတ်။ ယခင်ကလည်း ရဖူးပြီဟု အတိတ်ဆောင်လျက် သုရုစိဇာတ်ကို ဟောလေ၏။ သုရုစိ ဇာတ်သည် မဟာပနာဒဇာတ်ထက် ကျယ်၏။ ညောင်ကန်ဆရာတော်က မဟာပနာဒဇာတ်တွင် —

"ဤဇာတ်၌ အလုံးစုံသော အတိတ်ဝတ္ထုသည် ပကိဏ္ဏကနိပါတ် ခြောက်ခုမြောက် သုရုစိဇာတ်၌ ထင်စွာဖြစ်လတ္တံ့"၂၁ ဟုလည်း ဖော်ပြထားပြီး၊ ဂါထာ သုံးပုဒ်ကိုသာ နိဿယပြန်ထားပါသည်။

ဧကနိပါတ်တော်လာ "တေလပတ္တဇာတ်" နှင့် "ဘိရုကဇာတ်" တို့သည်လည်း ပစ္စုပ္ပန် ဝတ္ထုမတူဘဲ အတိတ်ဝတ္ထုတူသော ဇာတ်တော်တို့ ဖြစ်လေသည်။ တေလပတ္တဇာတ်မှာ ဇနပဒကလျာဏီသုတ်ကို အကြောင်းပြု၍ ဟောကြားခဲ့ခြင်းဖြစ်လေသည်။ ဇနပဒကလျာဏီ၏

လှကြောင်း၊ ချောကြောင်း ထင်ရှားသဖြင့် ဇနပဒကလျာဏီဟူ၍ လူအပေါင်းတို့စည်းဝေးကြကုန်၏။ ဆီခွက်အနာ:ရစ်ပြည့်မျှ ကိုင်ဆောင်ထားသော ယောကျ်ားသည် သူသတ်မိုးထားသော ဓားကြောင့် ဇနပဒကလျာဏီကို မကြည့်ဘဲ သတိမလွတ်သကဲ့သို့ ရှေးပညာရှိတို့သည်လည်း သတိမမေ့မလျော့သဖြင့် သတိကိုမလွတ်မူ၍ ဣန္ဒြေကို ဖျက်၍မကြည့်သောကြောင့် မင်းအဖြစ်သို့ရောက်ဖူးပြီဟူ၍ အတိတ်ဇာတ်ကို ဟောကြားခဲ့လေသည်။

ဇာတ်တော်မှာ သတိလက်မလွတ်သောမင်းသားသည် ဘီလူးမ ဖျားယောင်းသော်လည်း ဖျားယောင်းရာသို့မပါ၊ တက္ကသိုလ်ပြည် မင်းမြတ်သည်သာ ဘီလူးမကို မိဖုရားအရာထားမိ၍ နန်းတော်တစ်ခုလုံး ဘီလူးစားခံရသည်။ သတိလက်မလွတ်သော မင်းသားမှာ တက္ကသိုလ်ပြည်တွင် မင်းဖြစ်သော ဇာတ်ဖြစ်ပါသည်။

ဘိရုကဇာတ်မှာ မြတ်စွာဘုရားအား မာရ်မင်းသမီးတို့ ဖျားယောင်းသော်လည်း မျက်စိတော်ကိုပင် ဖွင့်မကြည့်သဖြင့် ရဟန်းတော်တို့က "မြတ်စွာဘုရားတို့၏ အစွမ်းတော်မည်သည် အံ့ဖွယ်ရှိစွ" ဟူ၍ ချီးမွမ်းကြကုန်၏။ ထိုအခါ မြတ်စွာဘုရားက ဤဇာတ်ကို ဟောတော်မူ၏။

နဝကနိပါတ်တော်လာ မဟာသုဝဏ္ဏဇာနှင့် စူဠသုဝဏ္ဏဇာဇာတ်တို့သည် ပစ္စုပ္ပန်ဇာတ်ဝတ္ထုမတူဘဲ အတိတ် ဇာတ်ဝတ္ထုတို့ တူညီသော ဇာတ်တော်များ ဖြစ်ကြပါသည်။ မဟာသုဝဏ္ဏဇာဇာတ်သည် ကောသလဇနပုဒ်၌ မထင်ရှားသော ပစ္စန္တရွာကို အမှီပြု၍နေသော ရဟန်းတစ်ပါးကိုအကြောင်းပြု၍ ဟောတော်မူပါသည်။ ထိုရဟန်းသည် လျောက်ပတ်သောကျောင်းကို ရသော်လည်း ဆွမ်းဖြင့် ပင်ပန်းနေသဖြင့် မဂ်ကိုလည်းကောင်း၊ ဖိုလ်ကိုလည်းကောင်း မရနိုင်သောကြောင့် မြတ်စွာဘုရားက ရောင့်ရဲလွယ်စေရန် ဆုံးမတော်မူပြီး ဤဇာတ်တော်ကို ဟောတော်မူပါသည်။

ဇာတ်တော်မှာ မိုးခေါင်သဖြင့် ရေသဖန်းပင်သေသော်လည်း ရေ

သဖန်းပင်မှမခွာဘဲ အခေါက်အမှုန့်တို့ကိုစား၍ မိမိနေရာရေသဖန်းပင်ကို မစွန့်သော ကျေးမင်းဇာတ်ဖြစ်ပါသည်။

"စူဠသုဝရာဇ" ဇာတ်မှာ မြတ်စွာဘုရားသည် ဝေရဉ္ဇာ၌ ဝါဆိုတော်မူသောအခါ ဝေရဉ္ဇာပုဏ္ဏားသည် ဆွမ်းဖိတ်ထားသော်လည်း မေ့နေသဖြင့် ဆွမ်းမရချေ။ ထိုအခါ မြတ်စွာဘုရားသည် မုယောဆွမ်းဖြင့် မျှတတော်မူရလေ၏။ မြတ်စွာဘုရား၏ ရောင့်ရဲလွယ်မှုကို ရဟန်းတော်တို့က ချီးမွမ်းအံ့သြကြသောအခါ မြတ်စွာဘုရားက ဤဇာတ်တော်ကို ဟောတော်မူလေ၏။

## (ဃ) အတိတ်ဇာတ်ကြောင်းတူသော ဇာတ်တော်များ

အချို့ဇာတ်တော်များသည် အတိတ်ဇာတ်ကြောင်းများ အတူတူပင် ဖြစ်နေကြောင်း တွေ့ရပါသည်။ အမည်မျှသာ အနည်းငယ်ကွဲလွဲပါသည်။ သို့သော် ဇာတ်တော်အနေနှင့် တစ်ဇာတ်တော်တည်းမဟုတ်ဘဲ နှစ်ဇာတ်ဖြစ်နေပါသည်။ ဧကနိပါတ်တော်လာ "စူဠဇနကဇာတ်" မဟာနိပါတ်တော်လာ "မဟာဇနကဇာတ်" တို့သည် ဇာတ်ကြောင်းအားဖြင့် အတူတူဖြစ်ပါသည်။ ညောင်ကန်ဆရာတော်က –

> "ထိုစူဠဇနကဇာတ်၌ အကြင်စကားကိုဆိုအပ်၏။ အလုံးစုံသော ထိုစကားသည် မဟာဇနကဇာတ်၌ ထင်စွာဖြစ်လတ္တံ့"

ဟု ရေးဖွဲ့ပါသည်။[၂၂] ဇာတ်တော်ပေါင်းသောအခါမှသာ စူဠဇနကဇာတ်တွင် ဘုရားအလောင်းသည် စူဠဇနကမင်းဖြစ်ပြီး မဟာဇနကဇာတ်တွင် ဘုရားအလောင်းသည် မဟာဇနကမင်းအဖြစ် ဇာတ်တော်ပေါင်းပါသည်။

ဧကနိပါတ်တော်လာ "နန္ဒိဝိလာသဇာတ်" နှင့် "သာရမ္ဘဇာတ်" တို့သည်လည်း ဇာတ်ကြောင်းအတူတူပင် ဖြစ်ပါသည်။ ဂန္ဓာရတိုင်း တက္ကသိုလ်ပြည်၌ ဘုရားအလောင်းတော်သည် နွားဖြစ်တော်မူသောအခါ တစ်ယောက်သောပုဏ္ဏားက ယူမွေးထား၏။ နန္ဒိဝိလာသဇာတ်

တွင် "နန္ဒိဝိလာသ"ဟုအမည်တွင်ပြီး သာရမ္ဘဇာတ်တွင် "သာရမ္ဘ" ဟုအမည်တွင်လေ၏။ ဝန်နှင့်တကွသော လှည်းတစ်ရာကို တစ်ပြိုင် တည်းဆွဲသော နွားအကြောင်းကိုပြသော ဇာတ်ဖြစ်ပါသည်။

ဧကနိပါတ်တော်လာ "ကိံဖလဇာတ်" နှင့် "ကိံပက္ကဇာတ်" တို့ လည်း ဇာတ်ကြောင်းအတူတူပင် ဖြစ်ပါသည်။ "ကိံဖလ"ဇာတ်တွင် သစ်ပင်အမည်မှာ "ကိံဖလ"ဟုတွင်ပြီး "ကိံပက္ကဇာတ်"တွင်"ကိံပက္က" ဟုတွင်ပါသည်။ သရက်သီးနှင့်တူသော အဆိပ်သီး သီးသည့် သစ်ပင် ဖြစ်ပါသည်။

တိကနိပါတ်တော်လာ "ဝဍ္ဍကီသူကရဇာတ်"နှင့် ပကိဏ္ဏကနိပါတ် တော်လာ "တစ္ဆကသူကရဇာတ်" သည်လည်း ဇာတ်ကြောင်းတူပါ သည်။

"ဝဍ္ဍကီသူကရဇာတ်"နှင့် "တစ္ဆကသူကရဇာတ်"တို့မှာ ဝက်မင်း ၏အမည်များဖြစ်ပါသည်။ ရသေ့စဉ်းလဲကို ရေသဖန်းပင်ထက်မှ တွန်း လှဲ၍သတ်သော ဇာတ်ဖြစ်ပါသည်။ ဇာတ်ကြောင်းရင်း တူကြသည်။

ဧကနိပါတ်လာ "ရာဓဇာတ်"နှင့် ဒုကနိပါတ်လာ "ရာဓဇာတ်" တို့ သည် ဇာတ်ကြောင်းရင်းအားဖြင့် တူ၏။ ဇာတ်ကြောင်းမှာ ပုဏ္ဏား တစ်ယောက်သည် ကျေးညီနောင်ကိုမွေးထားပြီး ကုန်သွယ်သွားခါနီး သောအခါ ပုဏ္ဏေးမဖောက်ပြန်လျှင် တားမြစ်ကြကုန်လော့ဟု မှာပြီး ကုန်သွယ်သွား၏။ ပုဏ္ဏားကုန်သွယ်သွားသောအခါ ပုဏ္ဏေးမသည် ဖောက်ပြန်၏။ ဘုရားအလောင်းကျေးသားသည် အန္တရာယ်ကြောင့် မတားမြစ်ဘဲနေ၏။ ပုဏ္ဏားပြန်လာသောအခါ အကြောင်းစုံပြော ကြားပြီး တောသို့ပျံ၍သွားလေ၏။

ဤနှစ်ဇာတ်မတူသည်မှာ ဧကနိပါတ်လာ ရာဓဇာတ်ရှိ ဘုရား လောင်းကျေးသား၏ အမည်မှာ "ပေါဋ္ဌပါဒ"ဟုတွင်ပြီး ညီတော် ကျေးသားမှာ "ရာဓ"ဟု တွင်၏။ ဒုကနိပါတ်လာ ဘုရားလောင်း ကျေးသား၏အမည်မှာ "ရာဓ"ဖြစ်ပြီး ညီတော်ကျေးသား၏အမည်မှာ "ပေါဋ္ဌပါဒ"ဖြစ်လေသည်။ ဧကနိပါတ်လာဇာတ်တွင် ညီနောင်ကျေး သားနှစ်ဦးလုံး တောသို့ပျံသွားနိုင်လေပြီး ဒုကနိပါတ်လာဇာတ်တွင်

ညီတော် "ပေါဠပါဒ"က ပုဏ္ဏေးမအား တားမြစ်မိသဖြင့် ပုဏ္ဏေးမ သတ်၍ သေရလေသည်။ ဘုရားလောင်း "ရာဓ" တစ်ဦးတည်းသာ လွတ်မြောက်ရခြင်း ဖြစ်လေသည်။

အတိတ်ဝတ္ထု အတူတူပင်ဖြစ်သည်ဟု ပြောနိုင်သော ဇာတ်တော်များသည် တင်ပြခဲ့ပြီးသမျှ အကုန်အစင် မဟုတ်သေးပါ။ ကျန်ရှိပါသေးသည်။ သိသာရန်မျှသာ တင်ပြခြင်းဖြစ်ပါသည်။ ထို့ကြောင့် ဇာတ်တော် ၅၄၇ ဇာတ်တွင် ဘုရားအလောင်း၏ ဖြစ်တော်ပေါင်း ဘဝများသည် ၅၄၇ ဘဝဟုပင် အတိအကျ မပြောနိုင်တော့ပေ။ ဖြစ်တော်ပေါင်းစာရင်းအရ ၅၄၇ ဘဝကို တင်ပြထားခြင်းမှာ ပညာရှင်များ စိစစ်ရေးသားထားသည်များကို ရှာဖွေတင်ပြခြင်း ဖြစ်ပါသည်။ ပညာရှင်ကြီးများသည် ၅၄၇ ဘဝ ရအောင် စာရင်းပြုစု၍ တင်ပြထားသည်ကို တွေ့ရပါသည်။ ဇာတ်တော်တူဘဝများကို နုတ်ပယ်လျှင် ၅၄၇ ဇာတ်မရှိတော့ပါ။ မဟာဥမင်ဇာတ်မှ ထုတ်နုတ်ပြထားသော ဇာတ် ၁၂ ဇာတ်နှင့် ဝိဓူရဇာတ်မှ ထုတ်နုတ်ပြထားသော ဇာတ်တစ်ဇာတ်၊ ပေါင်း ၁၃ ဇာတ်တို့သည် သိသိသာသာ နုတ်ပယ်နိုင်သော ဇာတ်များဖြစ်၍ ၅၄၇ ဇာတ်ထက် လျော့နည်းသွားနိုင်ကြောင်း ထင်ရှားပါသည်။ ။

အခန်း (၄)

# ငါးရာ့ငါးဆယ် ဇာတ်ဝတ္ထုများ ဖွဲ့စည်းပုံ

ငါးရာ့ငါးဆယ်ဇာတ်တော်များရေးဖွဲ့ပုံ လေ့လာသောအခါ ဂါထာ အရေအတွက်ကိုလိုက်၍ နိပါတ်များခွဲထားကြောင်း တင်ပြပြီးဖြစ်ပါ သည်။ နိပါတ်ထဲတွင် ဇာတ်ဝတ္ထုများကို အများအားဖြင့် ၁၀ ဇာတ် ကို ဝဂ်တစ်ခုစီဖြင့် ခွဲ၍စုထားသည်ကို တွေ့ရပါသည်။

ဥပမာပြရသော် ဧကနိပါတ်တော်တွင်

၁။ အပဏ္ဏကဝဂ်

၂။ သီလဝဂ်

၃။ ကုရုင်္ဂဝဂ်

၄။ ကုလာဝကဝဂ်

၅။ အတ္ထကာမဝဂ် စသည်ဖြင့် ဇာတ်တော် ၁၅၀ ကို ဝဂ်ပေါင်း ၁၅ ဝဂ်ဖြင့် ခွဲခြားထားပါသည်။ ဇာတ်တော် ၂၅ ဇာတ်ပါဝင်သော ပဉ္စကနိပါတ်တွင် —

၁။ မဏိကုဏ္ဍလဝဂ်တွင် ၁၀ ဇာတ်၊

၂။ ဝဏ္ဏာရောဟဝဂ်တွင် ၁၀ ဇာတ်၊

၃။ အဍ္ဍဝဂ်တွင် ၅ ဇာတ်ဟူ၍ ခွဲခြားထားပြီး ဇာတ်တော် ၂၁ ဇာတ်ရှိသော သတ္တကနိပါတ်တွင် —

၁။ ကုက္ကုဝဂ်တွင် ၁၀ ဇာတ်၊

၂။ ဂန္ဓာရဝဂ်တွင် ၁၁ ဇာတ် ခွဲခြားသည်ကိုလည်း တွေ့ရပါ သည်။ ဇာတ်တော် ၁၀ ဇာတ် မရှိသော စတ္တာလီသနိပါတ်၊ ပဏ္ဏာသ

နိပါတ်၊ သင္ဂဟနိပါတ်၊ သတ္တတိနိပါတ် စသည်တို့တွင်ကား ဝဂ်မခွဲတော့ချေ။

ဇာတ်ဝတ္ထုများကို ရေးဖွဲ့ရာတွင် အပိုင်းလေးပိုင်းခွဲ၍ ရေးကြောင်း တွေ့ရပါသည်။ ယင်းလေးပိုင်းမှာ –

(က) နိဒါန်းဝတ္ထု (ဝါ) ပစ္စုပ္ပန်ဝတ္ထု၊
(ခ) အတိတ်ဝတ္ထု၊
(ဂ) ဝေယျာကရဏ (ဝါ) အတိုကောက်အဖွင့် (ဂါထာ)၊
(ဃ) သမောဓာန (ဝါ) ဇာတ်ပေါင်း ဟူ၍ဖြစ်ပါသည်။ ၁

(က) နိဒါန်းဝတ္ထုမှာ အတိတ်ဝတ္ထု၏ အချီးနိဒါန်း ဖြစ်သည်။ ပစ္စုပ္ပန်ဝတ္ထုဟု ဇာတ်တော်မြန်မာပြန်များတွင် တွေ့ရပါသည်။ ဗုဒ္ဓလက်ထက်တော်တွင် ဖြစ်ပျက်သော အကြောင်းများ ဖြစ်ပါသည်။ အတိတ်ဇာတ် ဝတ္ထုဟောခြင်း၏ အကြောင်းရင်းကိုပြောသော နိဒါန်းဝတ္ထုများ ဖြစ်သည်။

ငါးရာ့ငါးဆယ် ဇာတ်တော်များ၏ အစဖြစ်သော ဧကနိပါတ် အပဏ္ဏကဇာတ်၏ နိဒါန်းဝတ္ထုကို တင်ပြလိုပါသည်။ အနာထပိဏ်သူဌေး၏ အဆွေခင်ပွန်း ဖြစ်ကုန်သော ငါးရာသော တိတ္ထိတို့ကို အကြောင်းပြု၍ ဤဇာတ်တော်ကို ဟောကြားရခြင်းဖြစ်သည်။ တိတ္ထိတို့သည် အနာထပိဏ်သူဌေးနှင့် အတူလာ၍ မြတ်စွာဘုရားအားပူဇော်သောအခါ မြတ်စွာဘုရား၏အဆုံးအမကြောင့် တိတ္ထိအယူများကိုစွန့်၍ သရဏဂုံကို ယူကြကုန်၏။ မြတ်စွာဘုရား ပြန်ကြွသွားသောအခါ သရဏဂုံကိုဖျက်၍ တိတ္ထိအယူကိုသာ ယူကြပြန်ကုန်၏။ ဤသို့ တိတ္ထိတို့သည် မြတ်စွာဘုရား သာဝတ္ထိပြည် ပြန်ကြွလာလျှင် သရဏဂုံယူကြပြီး ရာဇဂြိုဟ်သို့ ပြန်ကြွသောအခါ သရဏဂုံဖျက်၍ မူလအယူ ပြန်ယူကြကြောင်း မြတ်စွာဘုရားထံ လျှောက်သောအခါ မြတ်စွာဘုရားက တိတ္ထိတို့အား ဟုတ်မဟုတ် မေးမြန်းလေသည်။ တိတ္ထိတို့က ဟုတ်မှန်ကြောင်း လျှောက်ထားသောအခါ သရဏဂုံ၏ အကျိုးတရားများ၊ ဗုဒ္ဓါနုဿတိ ကမ္မဋ္ဌာန်း၏ အကျိုးတရားများကို ဟောကြားတော်မူပြီး

"ရှေးအခါကလည်း လူတို့သည် ကိုးကွယ်ရာမဟုတ်သည်ကို ကိုးကွယ်ရာဟုတ်၏ဟုကြံ၍ ကိုးကွယ်မိသဖြင့် ကန္တာရအလယ်တွင် ဘီလူးစာဖြစ်ရဖူးလေပြီ"ဟု အမြွက်စကားမိန့်ကြားတော်မူ၏။ ထိုအခါ အနာထပိဏ်သူဌေးက —

"ဘုန်းတော် ကြီးသော အရှင်ဘုရား၊ ကျွန်ုပ်တို့သည် တောင်းပန်ပါကုန်၏။ အကျွန်ုပ်တို့အား တိမ်မြူ စင်သော ကောင်းကင်ပြင်၌ လပြည့်ဝန်းကို ထင်စေဘိသကဲ့သို့ ဤအကြောင်းကို ဘုန်းတော်ကြီးသော အရှင်ဘုရားသည် ထင်စွာ ပြုတော်မူပါလော့" ဟု လျှောက်၏။[၂]

ဤသို့ လျှောက်ထားတော်မူသဖြင့် အပဏ္ဏက ဇာတ်တော်ကို ဟောကြားရလေသည်။

ပစ္စုပ္ပန်ဝတ္ထုများမှာ ဤသဘောအတိုင်း ဖြစ်လေသည်။ တစ်စုံတစ်ဦးသော ပုဂ္ဂိုလ်များကို အကြောင်းပြု ဟောကြားသော ဝတ္ထုများလည်း ရှိပါသည်။ မြတ်စွာဘုရား၏ နိက္ခမပါရမီကို ရဟန်းများက ချီးမွမ်းခြင်းကို အကြောင်းပြု၍ ဟောကြားတော်မူသော မြတ်စွာဘုရား၏ ဘဝအဖြစ်တော်တို့ကိုလည်း တွေ့ရပါသည်။

(ခ) အတိတ်ဝတ္ထုမှာ ငါးရာ့ငါးဆယ်ဇာတ်တော်များဟု သိကြသော ဇာတ်တော်များဖြစ်ပါသည်။ မြတ်စွာဘုရားအလောင်း၏ နုစဉ်ဘဝများအကြောင်း ဖြစ်ပါသည်။

(ဂ) ဝေယျာကရဏ အတိုကောက်အဖွင့်ကို ဂါထာပိုင်းဟုလည်း အချို့ပညာရှင်များက တင်ပြကြပါသည်။ ကြွက်သေတစ်ခုအရင်းပြုပြီး ကြွယ်ဝချမ်းသာလာသည့် စူဠသေဋ္ဌိဇာတ်၏ နိဂုံးဂါထာမှာ —

"အပ္ပကေနပိ မေဓာဝီ၊ ပါဘတေနဝိစက္ခဏော။ သမုဋ္ဌာပေတိ အတ္တာနံ၊ အဏုံ အံဂ္ဂိံဝ သန္ဓမံ" ဟူ၍ဖြစ်သည်။

မြန်မာပြန်မှာ "ပညာရှိသည် အနည်းငယ်သောမီးကို နှုတ်သီးလေဖြင့်မှုတ်လျက် ကြီးစွာသောမီးပုံကြီးကို ပြုသကဲ့သို့ ကုန်သွယ်ခြင်း၌ လိမ္မာသော ပညာရှိသည် အနည်းငယ်လည်းဖြစ်သော ဥစ္စာအရင်းဖြင့် များစွာသော ဥစ္စာကိုလည်းကောင်း၊ အခြံအရံကိုလည်းကောင်း ဖြစ်

စေ၍ ထိုများစွာသောဉစ္စာအခြံအရံ၌ မိမိကိုယ်ကို တည်စေ၏’’ ဟူ၍ ဖြစ်သည်။

ဇာတ်တော်၏ အနှစ်ချုပ်တရားကို ဂါထာဖြင့် ဖွင့်ပြထားပါသည်။ ဤ၌တွင် ကေနိပါတ်များတွင် ဂါထာပိုင်းကိုလေ့လာ၍ပြောရန် လွယ်ကူသော်လည်း ဂါထာများသော နိပါတ်များတွင် အဘယ်ဂါထာသည် အတိုကောက်အဖွင့်ဟု ပြောရန် မလွယ်ကူနိုင်ပေ။ အဘယ်ကြောင့်ဆိုသော် ဇာတ်တော်ကို –

– စကားပြေဇာတ်သွားတွင် ဂါထာများ ညှပ်ထားခြင်း၊

– စကား အချေအတင်ဆိုသော ဂါထာဇာတ်သွား၊

– စကားပြေနှင့်နိဒါန်းပျိုး၍ ဂါထာဖြင့်ဆက်သော ဇာတ်လမ်းရှည်ကြီးများ၊

– အကြောင်းအရာမျိုးစုံနှင့် ပတ်သက်သော စကားပုံများ

စသည်တို့ဖြင့် ရေးသားထားသောကြောင့် ဖြစ်သည်။

(ဃ) သမောဓနေဖြစ်သော ဇာတ်ပေါင်းမှာ အတိတ်ဇာတ်ဘဝများနှင့် ပစ္စုပ္ပန်ဘဝများကို ဆက်စပ်ပေးသောအပိုင်း ဖြစ်ပါသည်။ ဥပမာအားဖြင့် ဝေဿန္တရာဇာတ်တော်မှ ဘဝများနှင့် ပစ္စုပ္ပန်ဘဝများကို အောက်ပါအတိုင်း ဆက်စပ်ပေး၍ ဇာတ်တော်ပေါင်းထားပါသည်။

| | | |
|---|---|---|
| ဒေဝဒတ် | = | ဇူဇကာပုဏ္ဏား |
| စိဉ္စမာဏဝိကာ | = | အမိတ္တာပုံ |
| ဆန္နအမတ် | = | စေတမုဆိုး |
| သာရိပုတ္တရာ | = | အစ္စုတရသေ့ |
| အနုရုဒ္ဓါ | = | သိကြားမင်း |
| သုဒ္ဓေါဒနမင်းကြီး | = | သိဉ္စည်းမင်းကြီး |
| မဟာမာယာဒေဝီ | = | ဖုဿတီဒေဝီ |
| ရာဟုလာမိခင် | = | မဒ္ဒီဒေဝီ |

ရာဟုလာ = ဇာလီမင်းသား
ဥပ္ပလဝဏ် = ကဏှာဇိန်
မြတ်စွာဘုရား = ဝေဿန္တရာမင်းကြီး

## (၁) ဘုရားအလောင်း၏ကဏ္ဍ

ငါးရာ့ငါးဆယ် ဇာတ်တော်များတွင် ဘုရား အလောင်းသည် ဇာတ်တော်၏ အဓိက ပုဂ္ဂိုလ်အဖြစ် ပါဝင်နေပါသည်။ အချို့ဇာတ်များတွင် ဘုရားအလောင်းသည် အဓိကဇာတ်ဆောင်အနေဖြင့် မပါဝင်ပါ။ ဒုတိယ ဇာတ်ဆောင်အနေဖြင့်သာ ပါဝင်နေတတ်ပါသည်။ အချို့ ဇာတ်တော်များတွင် ဘုရားအလောင်းမှာ မည်သည့်ဇာတ်ဆောင်အနေနှင့်မျှ မပါဝင်ဘဲ မြင်သူ၊ ကြားသူအဖြစ် တတိယပုဂ္ဂိုလ်အဖြစ် တွေ့ရပါသည်။

အဓိကဇာတ်ဆောင်အဖြစ် ဘုရားအလောင်း ပါဝင်နေသောဇာတ်များမှာ ကေနိပါတ် ဝဏ္ဏုပထဇာတ်မှသည် မဟာနိပါတ် ဝေဿန္တရာဇာတ်တိုင် အများရှိပါသည်။ မဟာနိပါတ်တော်လာ ဇာတ်တော်ကြီးဆယ်ဘွဲ့ကို အလွယ်ညွှန်းလိုပါသည်။

ဒုတိယဇာတ်ဆောင်အဖြစ် ပါဝင်သော ဇာတ်များမှာ ကေနိပါတ်တော်လာ "ဂါမဏိ" ဇာတ်ကို တင်ပြလိုပါသည်။ ဂါမဏိဇာတ်သည် ဂါမဏိမင်းသားအကြောင်း ဖြစ်ပါသည်။ ဘုရားအလောင်းက ဂါမဏိမင်းသား၏ဆရာ ဖြစ်ပါသည်။ ဂါမဏိမင်းသားသည် ဆရာ၏စကားကို နားထောင်သဖြင့် အစ်ကိုတစ်ရာကိုလွန်၍ မင်းအဖြစ် ရသောဇာတ် ဖြစ်ပါသည်။

ကောဒသနိပါတ်တော်လာ "သံဝရ" ဇာတ်မှာလည်း အလားတူပင် ဖြစ်ပါသည်။

ကေနိပါတ်တော်လာ "ဝါတမိဂ" ဇာတ်မှာ ဝါတမိဂအကြောင်း ဖြစ်ပါသည်။ ဝါတမိဂ သမင်ပျံကို ပျားရည်လူးသောမြက်ဖြင့် ဖျား

ယောင်း၍ နန်းတော်ထဲသို့ခေါ်သော ဇာတ်ဖြစ်ပါသည်။ ဤဇာတ်တွင် ဘုရားအလောင်းသည် ဗြဟ္မဒတ်မင်းဖြစ်ပြီး သမင်ကို ဆုံးမလေသည်။

ဧကနိပါတ်တော်လာ "ဗကဇာတ်"၊ "ဣလ္လိသဇာတ်"၊ ဒုကနိပါတ်တော်လာ "ကောသိယဇာတ်"၊ ပဥ္စကနိပါတ်တော်လာ "စူဠဓမ္မပါလ ဇာတ်" စသည်တို့တွင်လည်း ဘုရားအလောင်းသည် အဓိက ဇာတ်ဆောင်အဖြစ်မပါဝင်ဘဲ ဒုတိယဇာတ်ဆောင်အဖြစ်သာ ပါဝင်ကြောင်း တွေ့ရလေသည်။

ဘုရားအလောင်းသည် တတိယပုဂ္ဂိုလ် သို့မဟုတ် ကြားပုဂ္ဂိုလ်အဖြစ် ပါဝင်သော ဇာတ်တော်များကိုလည်း တွေ့ရပါသေးသည်။ ဤတွင် ဒုကနိပါတ်တော်လာ "ဂူထပါဏဇာတ်" ကို တင်ပြလိုပါသည်။ ဂူထပါဏဇာတ်သည် မာနကြီးသော မစင်ပိုးအကြောင်း ဖြစ်ပါသည်။ လူအသုံးအဆောင်များစားသုံးပြီး သေရည်ကို သောက်မိသဖြင့် မူးယစ်နေသော မစင်ပိုးသည် ဆင်ပြောင်တစ်စီးကို မာန်ဖီပြီး ကြိမ်းဝါး၏။ ဆင်ပြောင်ကြီးက မစင်ပိုးပေါ်သို့ မစင် စွန့်ချလိုက်သဖြင့် မစင်ပိုး သေရလေသည်။

ဤဇာတ်တွင် ဘုရားအလောင်းသည် ရုက္ခစိုးနတ်ဖြစ်ပြီး အဆိုပါ အဖြစ်အပျက်ကို မြင်ရသူအဖြစ် ပါဝင်လေသည်။

ဧကနိပါတ်တော်လာ "ပဏ္ဏိကဇာတ်"မှာ ဟင်းရွက်သည်(ပဏ္ဏိက) ၏ သမီးကို အမျိုးတူသူတို့က လာတောင်းကြ၍။ ဟင်းရွက်သည်က "မိမိ၏သမီးသည် အမြဲရွှင်သည့်မျက်နှာရှိသည်။ သူမတွင် သီလ ရှိမရှိ စုံစမ်းအံ့" ဟုကြံပြီး တောသို့ခေါ်သွား၏။ တောသို့ရောက်သောအခါ သမီး၏သက်ကိုဆွဲပြီး မယျော်သောစကားကိုပြော၏။ သမီးက မသင့်ကြောင်း ပြော၍ ငိုသောအခါ သမီးအား "သီလကို စုံစမ်းခြင်းသာ ဖြစ်ကြောင်း" ပြောပြီး အိမ်သို့ ပြန်ခေါ်သွားကာ သင့်လျော်သူနှင့် ထိမ်းမြား မင်္ဂလာ ပြုပေးလေသည်။ ဤဇာတ်တော်တွင် ဘုရားအလောင်းသည် ရုက္ခစိုးနတ်အဖြစ် ပါဝင်လေသည်။ ဤကဲ့သို့ တတိယပုဂ္ဂိုလ်အဖြစ် ပါဝင်သော ဇာတ်မျိုးမှာ အလွန်နည်းလေသည်။

အခန်း (၅)

# ဘဝစုံစွလောင်းဗုဒ္ဓ

ဗုဒ္ဓလောင်းလျာသည် လေးသင်္ချေနှင့် ကမ္ဘာတစ်သိန်းကာလပတ်လုံး ဘဝပေါင်းများစွာ ပါရမီဖြည့်ခဲ့ရသည်ကို တင်ပြခဲ့ပြီး ဖြစ်ပါသည်။ ပါရမီဖြည့်ရာ ကာလတွင် အဖြစ်တော်ပေါင်း များစွာ၊ ကပ်ပေါင်းများစွာ၊ ဘုံပေါင်းများစွာ၊ ပြည်ရွာပေါင်းများစွာတို့တွင် ဖြစ်ပျက်ကျင်လည်ခဲ့ရသည်။ ဘုရားအလောင်း၏ ဘဝပေါင်းများစွာတို့အနက် ငါးရာ့ငါးဆယ်ဇာတ်တော်များမှ ဘဝများစွာကို လေ့လာ၍ တင်ပြပါမည်။

ဘုရားအလောင်းဖြစ်ရာဘဝများကို မတင်ပြမီ အလောင်းတော်များ မဖြစ်ရာဌာနများ အကြောင်းကို ရှေးဦးစွာ တင်ပြပါမည်။ သုတ္တနိပါတ်အဋ္ဌကထာတွင် ဗျာဒိတ်ရပြီးသော အလောင်းတော်တို့သည် ၁၈ ပါးသော အရပ်များသို့ မကပ်မရောက်ကြောင်း ပြဆိုထားပါသည်။ အဘဗ္ဗဌာနဟူ၍ ခေါ်ဆိုပါသည်။ ယင်း ၁၈ ပါးသော ဌာနများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(၁) န ဇစ္စန္ဓ = အမိဝမ်း၌ မျက်စိမကန်းခြင်း၊
(၂) န ဇစ္စပဓိရ = အမိဝမ်းတွင်း၌နားမပင်းခြင်း၊
(၃) န ဥမ္မတ္တက = မရူးခြင်း၊
(၄) န ဧဠမူဂ = မအခြင်း၊
(၅) န ပိဋ္ဌသပ္ပိ = မဆွံ့ခြင်း၊
(၆) န မိလက္ခေသုဥပ္ပဇ္ဇတိ = အရိယာဘာသာကို မသိသော အမျိုးတို့၌မဖြစ်ခြင်း၊

(၇) န ဒါသိကုစ္ဆိယံ = ကျွန်မဝမ်း၌ မဖြစ်ခြင်း၊
(၈) န နိယတမိစ္ဆာဒိဋ္ဌိ = နိယတ မိစ္ဆာဒိဋ္ဌိ အယူမရှိခြင်း၊
(၉) န လိင်္ဂပရိဝတ္တိ = မိန်းမ မဖြစ်ခြင်း၊
(၁၀) န ပဉ္စာနန္တရိယာကမ္မာနိ= အနန္တရိယကံငါးခုကိုမပြုခြင်း၊
(၁၁) န ကုဋ္ဌိ = နူနာမရှိခြင်း၊
(၁၂) န တိရစ္ဆာနယောနိ = တိရစ္ဆာန် ဘဝဝယ် ဝဋ္ဋ မည်သော ငုံးအောက်မငယ်ခြင်း၊ အကြီးဆုံးဆင်ထက်မကြီးခြင်း၊
(၁၃) န ကာလကဉ္စိအသူရေ = ကာလကဉ္စိက အသူရာ မဖြစ်ခြင်း၊
(၁၄) န အဝီစိနိရယေ = အဝီစိငရဲ၊ လောကန္တရိက ငရဲတို့၌ မဖြစ်ခြင်း၊
(၁၅) န ကာမာဝစရော = ကာမာဝစရ နတ်တို့တွင် မာရ်နတ် မဖြစ်ခြင်း၊
(၁၆) န ရူပါဝစရော = ရူပါဝစရဘုံတို့တွင် သုဒ္ဓါဝါသ ငါးဘုံ၌ ဖြစ်တော်မမူခြင်း၊
(၁၇) န အရူပေ = အရူပလေးဘုံ၌ မဖြစ်ခြင်း၊
(၁၈) န အညံစက္ကဝါဠေ = တစ်ပါးသော စကြာဝဠာသို့ မ ရောက် ခြင်း ^၁၊

ဟူ၍ ၁၈ ဌာန ရှိပါသည်။ မှတ်သားလွယ်ကူစေရန် အောက်ပါအတိုင်း ကဗျာဖွဲ့ထားပါသည်။

"သန္ဓေကပင်၊ ဖြူစင်ထူးခြား၊ ကန်းနားရူးအ၊ ဆွံ့ရမရှိ၊ မသိဘာသာ၊ ကိန်းရာကျွန်လူ၊ မိစ္ဆာယူ၊ မိန်းမူပဉ္စနဲ့ခွာ။ ။နူနာမရှိ၊ ဒုဂ္ဂတိရောက်၊ ငုံးအောက်မငယ်၊ ဆင်ဝယ်ထက်သိ၊ ခုပ္ပိနိဇ္ဈာ၊ ကာလာသူရ၊ ဖြစ်ရမရှိ၊ မှတ်ယူဘိ၊ ဝီစိလောကန်ပါ။ ။နတ်မာရ်ကာမ၊ သညသုဒ္ဓါ အရူပါနှင့်၊ စကြာနယ်ဝေး၊ ဖြစ်ရေးမရှိ၊ လောင်းဗောဓိ မှတ်ဘိဆယ့်ရှစ်သာ ^၂။ ။

ဤ ၁၈ ပါးကို ကင်းဝန်မင်းကြီးကလည်း အောက်ပါအတိုင်း လေးဆစ်ရေးဖွဲ့ခဲ့ပါသည်။

ကန်း၊ ပင်း၊ ရိ၊ ဆွံ့၊ ရူး၊ ရိုင်း၊ ကျွန်၊ ဒိဌ်၊ ပန့်၊ သတ်၊ ငုံး၊ နူ။
စက်၊ သုတ်၊ ပါယ်၊ မန်၊ ပြိတ်နှင့်ပြန်၊ အမှန်ဆဲ့ရှစ်ယူ။
ယင်းအဌာရသ်၊ ဗောဓိသတ်၊ လွတ်လွတ်ကင်းတော်မူ။
နိပါတသုတ်၊ ပါဌဂုတ်၊ ဘွင့်ထုတ်ကျမ်းထွက်ဟူ။
ကင်းဝန်မင်းကြီးကဗျာစု။
(အမှတ် — ၁၄၅ နှင့် ၁၄၆)

ကျည်းကန်ရှင်ကြီးက ....

"လောင်းလျာတမွို့၊ လက်ရသို့၊ ကျဉ်းကြုံ့ဖြစ်ဖူးလေသနည်း"

ဟူ၍ ဘုရားအလောင်းတော်များသည် ဗျာဒိတ်ရပြီးနောက် လက်ရသို့ပန်းကျွန်ဖြစ်ဖူးခြင်းရှိမရှိ မေးမြန်းခဲ့ပါသည်။ ထိုအမေးကို ကျီးသဲလေးတပ်ဆရာတော်က....

"ကျွန်မဝမ်းတွင်း ပဋိသန္ဓေမနေကြောင်းကိုသာ လာသည်။ လက်ရအသိမ်းခံရသော ကျွန်မဖြစ်ဟူ၍ မလာသော ကြောင့် သုံ့ရကျွန်ကား ဖြစ်၏ဟု ဆိုအပ်၏" ဟူ၍ ဖြေဆိုပြီး သာကသေအဖြစ် —

"မဟာသီလဝဇာတ်၌ လည်းကောင်း၊ ကေရာဇ ဇာတ်၌ လည်းကောင်း၊ ဥဇ္ဇေနီမင်း လက်ရသိမ်းသည်ကို ခံရဖူး၏။ ဝိဓူရဇာတ်၌ အမတ်ကြီးဖြစ်၍ ပုဏ္ဏကဘီလူးလက်ရသိမ်းသည် ကို ခံရဖူး၏"၊ ဟူ၍ ဇာတ်တော်သက်သေများ ထုတ်ပြခဲ့ လေသည်။

ထို့ပြင်လည်း ကျည်းကန်ရှင်ကြီးက....

"ရှစ်ပါးအရပ်၊ လောင်းမကပ်၊ ဇာတ်ရပ်များ၏ မည်သို့နည်း"

ဟု အပြစ်ရှိသော အရပ်ရှစ်ပါး (ရပ်ပြစ်ရှစ်ပါး) ကို ဘုရားအလောင်းတော်တို့ မရောက်မကပ်ပါလားဟု မေးမြန်းခဲ့ဖူးရာ —

ကျီးသဲလေးထပ်ဆရာတော်က....

"ရုပ်ပြစ်ရှစ်ပါးသို့ အလောင်းတော်တို့ မရောက်မကပ်ကြောင်း ကို ကျမ်းဂန်၌မလာ"ဟု ဖြေဆိုပါသည်။ ရုပ်ပြစ်ရှစ်ပါးတွင် "တိရစ္ဆာန်နေ" တိရစ္ဆာန်အမျိုး၌ဖြစ်ခြင်းဟူ၍ ပါဝင်လေရာ ဘုရား အလောင်းတော်သည် တိရစ္ဆာန် ဖြစ်ရသော ဘဝများ ရှိကြောင်း တွေ့ရသဖြင့် ယင်းကဲ့သို့ ဖြေဆိုခဲ့ခြင်းဖြစ်လေသည်။

ငါးရာ့ငါးဆယ်ဇာတ်တော်များတွင် ဘုရားအလောင်း ကျင်လည် ရသောဘဝများမှာ ဘဝမျိုးစုံလှလေသည်။

အမျိုးသားပညာဝန်ဦးဖိုးကျား၏ ငါးရာ့ငါးဆယ် ကောက်နုတ် ချက်များတွင် ဘုရားအလောင်း၏ လူအဖြစ်၊ နတ်အဖြစ်၊ တိရစ္ဆာန် အဖြစ်ဘဝများကို ခွဲခြား၍ပြထားပါသည်။ ဤစာရင်းကို ဘိုးဘွား ရိပ်သာစာစောင်အမှတ် ၁၆ တွင်လည်း ခွဲခြား၍ပြဖူးပါသည်။ ဤ စာရင်းနှစ်ခုတွင် ကွဲလွဲချက်များတွေ့ရသဖြင့် နှိုင်းယှဉ်တင်ပြရသော်

| | ဦးဖိုးကျား၊ | ဘိုးဘွားရိပ်သာစာစောင် |
|---|---|---|
| လူအဖြစ် | ၃၅၇ | ၃၆၀ |
| နတ်အဖြစ် | ၆၅ | ၆၂ |
| ဗြဟ္မာအဖြစ် | — | ၁ |
| တိရစ္ဆာန်အဖြစ် | ၁၂၅ | ၁၂၄ |
| | ၅၄၇ | ၅၄၇ |

ဟူ၍ဖြစ်ပါသည်။ ဖြစ်ရာဘဝအကြိမ်များကိုလည်း စာရင်းပြု၍ ပြထားပါသည်။

ငါးရာ့ငါးဆယ်ဇာတ်တော်များကို....

"အတိုင်းမသိ၊ ကျေးဇူးရှိသား၊ မုနိသကျ၊ ဂေါတမလျှင်"

ချီလင်္ကာဖြင့် တွေ့ရပါသည်။

အဆိုပါလင်္ကာသည် ငါးရာ့ငါးဆယ် ဇာတ်တော်များကို ချုပ်၍ ဘဝပေါင်းအကုန် ကဗျာဖွဲ့ဆိုထားသည်ဟု ဆိုပါသည်။ ဤကဗျာဖွဲ့ ဆိုသူ စာဆိုရှင်ကိုကား မသိရသေးပါ။ ငါးရာ့ငါးဆယ်ဇာတ်တော်

ဘဝများကို ရေးသည်ဟု ဆိုသော်လည်း ပမာဒ လေခသွားဟန် ရှိပါသည်။ ဇာတ်တော်များမပြည့်စုံကြောင်းတွေ့ရပါသည်။ ဆေးသမားဘဝ၊ ငါးဘဝ၊ ဖားဘဝ များကိုမတွေ့ရပါ။ ဘိုးဘွားရိပ်သာ စာစောင်ပါ ဘဝများနှင့် ဤလက်ာပါဘဝများကို ညှိနှိုင်းကြည့်ပါလျှင် ဖြစ်ရာဘဝအကြိမ်များ မတူညီကြောင်းတွေ့ရပါသည်။ ဇယားတွင် မင်းအဖြစ် ၆၂ ကြိမ်၊ ကဗျာတွင် ၆၇ ကြိမ်၊ ဇယားတွင် ရသေ့ရဟန်း ၁၀၇ ကြိမ်၊ ကဗျာတွင် ၁၁၉ ကြိမ်၊ ဇယားတွင် ဒေါင်း ၃ ကြိမ်၊ ဖွတ် ၃ ကြိမ်။ ကဗျာတွင် ဒေါင်း ၅ ကြိမ်၊ ဖွတ် ၅ ကြိမ်။ ဇယားတွင် ခို ၆ ကြိမ်၊ ကဗျာတွင် ခို ၇ ကြိမ်၊ ဇယားတွင် ဟင်္သာ ၇ ကြိမ်၊ ကဗျာတွင် ဟင်္သာ ၉ ကြိမ် စသည်ဖြင့် ကွဲလွဲနေပါသည်။ အခြားကွဲလွဲမှုများလည်း ရှိသေးသည်။ ဦးဖိုးကျားမူနှင့်လည်း မတူကြောင်း တွေ့ရပြန်ပါသည်။

ငါးရာ့ငါးဆယ်ဇာတ်တော်လာ ဘုရားအလောင်း တိရစ္ဆာန်ဘဝဖြစ်ရသော ဇာတ်တော်များစာရင်းကို သိလိုကြောင်း သိရိမာလာက မေးလျှောက်သဖြင့် မုံရွေးဇေတဝန်ဆရာတော်ဘုရားက တိရစ္ဆာန်ဖြစ်တော်ပေါင်းကို စာရင်းချုပ်၍ ဖြစ်ရာအကြိမ်များ၊ ဇာတ်တော်များဖြင့် ဖြေဆိုပြထားပါသည်။ (ဖြစ်တော်ပေါင်းကို နောက်ဆက်တွဲ "ဿ" တွင်ကြည့်ပါရန်။) ဆရာတော်သည် သိလွယ် မှတ်လွယ်စိမ့်သော ငှာ လင်္ကာဖွဲ့၍ ရေးသားဖော်ပြထားပါသည်။

အကျဉ်းမှတ်ရန် လင်္ကာဖြင့်ဆိုသော်ကား....

"မဟာသမ္မာရ၊ ပုညမြူတေ၊ လျှမ်းလျှမ်းဝေသား၊ ကြက်သရေစုပေါင်း၊ ဗောဓိသောင်းလျှော်၊ ဆုတောင်းဝသီ၊ ပါရမီကုသလာ၊ ဆည်းပူးခါ၌၊ ခေါက်ရှာတသုံး၊ ပြေလုံးတင်ကျီး၊ နည်းမှီသစ်တောက်၊ ထို့နောက်တကွဲ၊ ဘား ကျွဲ ယုန် စာ၊ ကိန္နရာဝက်၊ ဝံလိုင့်ငှက်တည့်၊ ဆဲ့တချက်မှာ၊ တကြိမ်သာရှင့်၊ ကျီးခါ ကြွက် ကြက်၊ စက္ကဝါက်ဥသြ၊ ဂဠုန်နှော၍၊ ပေါင်းသောအားဖြင့်၊ ခုနစ်ပါးသည်၊ နှစ်ကြိမ်တည်၏။ တွက်မည်ဆဲ့လေး၊ ခွေး၊ ဥဒေါင်း၊ ဆတ်၊ ဖွတ်နှင့်ကားငါး၊ ဤငါးပါးဝယ်၊ သုံးကြိမ်

သွယ်သည်၊ မှတ်လွယ်ပေါင်းထ၊ ဆယ့်ငါးရ၏။ လင်းတ ငုံး မြင်း သွင်းလေ့နဂါး၊ ဤလေးပါးစစ်၊ လေးဖြစ်စီကောက် ဆဲ့ ခြောက်မှတ်ဆို။ ခိုနှင့်နွားမှာ၊ ငါးဖြစ်စီပြု၊ အပေါင်းရှုသော်၊ ဆယ်ခုမှန်ချင်။ ။ဆင်မူသတ္တ။ သုဝသမင်၊ ကိုးဖြစ်ပင်တည့်၊ ပေါင်းလျှင်သင်္ချာ ဆယ့်ရှစ်လာ၏။ ။ ဟင်္သာခြင်္သေ့၊ ဆယ် စီစေ့၏။ သိမ်မွေ့မှတ်လောက်၊ နှစ်ဆယ်ရောက်စွ။ ။မျောက် ၏ဘဝ၊ ဒွါဒသတည့်။

"ဓမ္မဓဇ၊ သကုဏဇာတ်လာ၊ အနုသာမိက၊ ဃတာသမှတ်၊ ဤလေးဇာတ်မှာ၊ ပညတ်နာမ၊ ဝိသေသကို၊ မုချမထွက်၊ ငှက် ဟူ၍သာ၊ သာမန်လာ၏။ စိတ်ဖြာစေ့၊ ပေါင်းတွက်ချမှု၊ တစ်ရာ့နှစ်ဆယ်၊ ဆွယ်တုံသတ္တ၊ ကုဏာလဇာတ်၊ မိန့်လတ်တုံ ရှောင်း၊ ဂဋ္ဌုန်လောင်း၍၊ ကျမ်းဟောင်းလက္ခဏာ၊ ရှဉ့်ဘဝနှင့်၊ ဗုဒ္ဓဝံသာ၊ တေဇာလောက်လွှ၊ ခြင်္သေ့တစ်ပါး၊ နဂါးနှစ်တန်၊ စွက်လိုက်ပြန်သော်၊ ရာလွန်သုံးဆယ်၊ နှစ်ဖြစ်သွယ်သည်။ ။ မှတ်ဘွယ်ကျမ်းနှင့် ညီဘိသော်။"[၆]

မုံရွေးဇေတဝန်ဆရာတော်၏ကဗျာမှာ ဗျာဒိတ်တော်လာဘဝများ မှ နဂါးနှစ်ဘဝ၊ ခြင်္သေ့ တစ်ဘဝကို ပေါင်း၍ပင် ရေးဖွဲ့ထားကြောင်း တွေ့ရပါသည်။

ငါးရာ့ငါးဆယ်လာ တိရစ္ဆာန်ဖြစ်ရာဘဝ အကြိမ်ပေါင်းတို့သည် တစ်မူနှင့်တစ်မူ မတူညီကြောင်း တွေ့ရပါသည်။ မုံရွေးဆရာတော်က ဇာတ်တော်များနှင့် အတိအကျဖော်ပြထား၍ အထောက်အထားပိုမို ခိုင်မာ ပြည့်စုံကြောင်း တွေ့ရပါသည်။

တိရစ္ဆာန်ဘဝဖြစ်တော်ပေါင်းနှင့်ပတ်သက်၍ ထူးထူးခြားခြား ကွဲ လွဲသော မူတစ်ခုကိုလည်း တွေ့ရပါသေးသည်။ မည်သည့်ပညာရှင် ပြုစုခဲ့သည်ဟု အထောက်အထား မတွေ့ရသေးသော "ဖြစ်တော်မူ ပေါင်းချုပ် ဘုရားရှိခိုး"ကိုတွေ့ရပါသည်။ ယင်းဘုရားရှိခိုးမှာ—

"အစကြိုးကြာ၊ ဆယ့်ခြောက်ခါနှင့်၊ ဟင်္သာကိုးဖြစ်၊ ခြောက် ဖြစ်ကားခို၊ ကျေးညီသုံးခါ၊ သံသာကျိုးဟိတ်၊ ကရဝိက်ငါး၊

လေးကားကိန္နရီ၊ စာမရီဆယ့်ငါး၊ မျောက်ကား တစ်ဆယ်၊ ဆင်ဝယ်ဆယ့်တစ်၊ နွားဖြစ်ဆယ့်လေး၊ ကေသိန္ဒဝ၊ ကျွဲအဋ္ဌတည့်၊ သံမြသာညောင်း၊ ဥဒေါင်းနှစ်ခါ၊ သာလိကာသတ္တာ၊ ဒွါဒသကြက်၊ ဝက်တဆယ့်သုံး၊ ပေါင်းရုံးများလှ၊ တစ်ရာ့သုံးဆယ်၊ ခြောက်ဖြစ်ဝယ်၊ အန္တရာယ်ကင်းဘိ၊ ဘေးမရှိတည့်၊ မုနိထွတ်ထား၊ မြတ်ဘုရားကို။ အဟံအကျွန်ုပ်သည်၊ နမေနမာမိ၊ ရှိသေမြတ်နိုး၊ လက်စုံမိုး၍ ရှိခိုးပါ၏အရှင်ဘုရား”ဂ

ဤဘုရားရှိခိုးမှုအဘိုင်းပင် တွင်းသင်းမင်းကြီး ဦးထွန်းညိုသည် ရှင်လင်္ကာသာရဘဝက ....

“ကျမ်းဂန်ဖွေ၍
ကရဝိတ်ရာဇာ
စည်တုတ္တရာ”

ချီပိုဒ်စုံ ရတုတစ်ပုဒ် (နောက်ဆက်တွဲ “င”) ကို ရေးသားခဲ့ပါသည်။ “ဖြစ်တော်မူပေါင်းချုပ် ဘုရားရှိခိုး” နှင့် “ကျမ်းဂန်ဖွေ၍” ချီ ရတုတို့သည် မည်သည်က အလျင်စောသနည်းဟု အတိအကျ မတင်ပြနိုင်သေးချေ။ သို့ရာတွင် ဖြစ်တော်မူပေါင်းဘဝများ အကြိမ်ပေါင်းရေတွက်ရာတွင် အတူတူဖြစ်နေပါသည်။ (ဤရတုကို နောက်ဆက်တွဲ “င” တွင်ကြည့်ပါ။)

ဤမှုကို မုံရွေးဇေတဝန်ဆရာတော်က ဤသို့ မိန့်ကြားပါသည်။

“သောဋ္ဌသပဋ္ဌမ်ကုဍ္ဍံ၊ နဝဟံသာ တထေဝစ။
ပါရေဝတာ ဆဋ္ဌဋ္ဌေဝ၊ သုဝတာတရိမေဝစ။
ပဍ္ဍကရဝိကဋ္ဌေဝ၊ စတုကိန္နရမေဝစ။
ပဍ္ဍဒသစာမရီစေဝ၊ ဒသမက္ကဋမေဝစ။
ကောဒသဟတ္ထိကဍ္ဍ၊ စတုဒ္ဒသဥသဘမယံ။
သိန္ဓဝံ ကေဝါရဍ္ဍ၊ မဟိံသာအဋ္ဌမေဝစ။
မယုရာစမ္ဗကဋ္ဌေဝ၊ သာဠိကာသတ္တမေဝစ။
ဒွါဒသ ကုက္ကဋဋ္ဌေဝေ၊ တယောဒသသူကရာနံ။
ဆတ္တိံသ သတဇာတာနိ၊ မရဏဒုက္ခာပမုဋ္ဌေတိ။

တထေဝါဟံသုခံ ပတ္တော၊ မုတ္တောမရဏာမေဝစ ဟူသော ငါးဂါထာအရ ဘုရားအလောင်းတော် –ငါးရာ့ ငါးဆယ်ဇာတ်ဝယ် တိရစ္ဆာန်ဖြစ်တော်မူသော ဘဝတို့ကိုအကျဉ်းချုပ်သောဂါထာပင် ဖြစ်သည်ဟူ၍ အမှတ်အသားပြု ပြောဆိုကြကုန်သည်က များ၏။

ထိုဂါထာအရ ကြိုးကြာ ဆယ့်ခြောက်ခါ × × ဝက်တစ်ဆယ်သုံးခါ၊ ပေါင်းတစ်ရာ့သုံးဆယ့်ခြောက် ဖြစ်သည်ဟူ၍ ဇာတ်ကျမ်းတို့၌ မလာမရှိသောကြောင့် သောဠသပဋ္ဌမံကုဉ္စ စသော ဂါထာကို ဆင်ခြင်၍ ယူရန်ရှိသည်ဟူ၍ ဝေဖန်ထားကြောင်း တွေ့ရပါသည်။

ဘုရားအလောင်း၏ ဝိပါက်တော် ၁၂ ပါးလာဘဝများကို ကြည့်လျှင် အလောင်းတော်၏ နုစဉ်ဘဝက စိတ်ဓာတ်နေပုံများကိုလည်း တွေ့ရပါသည်။

ဘဝအနေဖြင့် ကြည့်လျှင်လည်း ခွေး၊ ဝက်၊ ကြွက်၊ လင်းတ၊ ကျီးစသောတိရစ္ဆာန်ဘဝများ။ ခိုးသား၊ ဒွန်းစဏ္ဍာလစသော နိမ့်ကျသည့်ဘဝများ။ ရသေ့ရဟန်း၊ စကြာဝတေးမင်း၊ သိကြား၊ ဗြဟ္မာစသော အမြင့်ဆုံးသောဘဝများ စသည်တို့တွင် ကျင်လည်ခဲ့ဖူးသည်။

ကျည်းကန်ရှင်ကြီးက....

> "သူအား ခြောက်ခြိမ်း၊ ခိုးမုဒိမ်း၊ တိမ်းယိမ်းဇာတ်တော်ဘယ်မျှနည်း"ဟူ၍မေးမြန်းခဲ့ရာ၊ ကျီးသဲလေးထပ်ဆရာတော်က"ငါတို့ ဘုရားအလောင်းတော် ခိုးသားဖြစ်သည်မှာ ငါးရာ့ငါးဆယ်သောဇာတ်တို့တွင်တိကနိပါတ်၌ သဂ်ါယနာ တင်အပ်သော စောရာဇေဋ္ဌတစ်ဇာတ်၊ စတုက္ကနိပါတ်၌ သဂ်ါယနာ တင်အပ်သော နာဂဗလ ခိုးသားတစ်ဇာတ် ဤနှစ်ဇာတ်သာ ဖြစ်ဖူးသည်"[၁၀] ဟု ဖြေဆိုခဲ့ပါသည်။

ဒုကနိပါတ် "သတဓမ္မဇာတ်" တေရသကနိပါတ် "အမ္ဗဇာတ်" နှင့် ဝီသတိနိပါတ် "မာတင်္ဂဇာတ်" တော်များတွင် ဘုရားအလောင်း ဒွန်းစဏ္ဍာလအမျိုး၌ ဖြစ်တော်မူဖူးလေသည်။

ဘဝအမျိုးအနွယ်များတွင် မြင့်ရာနိမ့်ရာဟူ၍ ရှိသကဲ့သို့ စရိုက်သဘာဝတွင်လည်း အမျိုးမျိုး ရှိလေသည်။ ဘုရားအလောင်း နုစဉ်ဘဝများတွင် လောကီလူသား ပီသစွာ ကာမဂုဏ်ကြောင့် ဒုက္ခရောက်ရသော ဘဝများစွာ တွေ့ရဖူးသည်။ ကျည်းကန်ရှင်ကြီးက –

"ကာမကြောင့်နုန့်၊ စိတ်သုန့် သုန့်၊ ရုန့် ရင်းလောင်းလျာ ဘယ်မျှနည်း" ဟု မေးမြန်းခဲ့ရာ ကျီးသဲလေးထပ် ဆရာတော်ဘုရားက

ကေနိပါတ်၊ တက္ကပဏ္ဍိတဇာတ်၌ ဘုရားအလောင်းရသေ့သည် ဗာရာဏသီ သူဌေးသမီးစန္ဒကုမာရီက၊ ကာမဂုဏ်ဖြင့် ဖြားယောင်းကာ မိမိသီလကို ဖျက်၍ မိန်းမဘက်သို့ ပါရဖူးသည် တစ်ကြိမ်။

ကေနိပါတ်၊ မုဒုလက္ခဏဇာတ်၌ ဘုရားလောင်းရသေ့သည် မုဒုလက္ခဏ မိဖုရား၏ သွင်ပြင်ကို မြင်ရသဖြင့် ပူပန်သော ရာဂစိတ်ဖြင့် ချာန်လျှောကျ၍ သီလကို ဖျက်ပြီး လူပြုသည် တစ်ကြိမ်။

ဒုကနိပါတ်၊ မောရဇာတ်၌ ဥဒေါင်းမ၏ အဆင်းအသံကို မြင်ကြားရသဖြင့် အားကြီးသော ကိလေသာ မာန်ယစ်၍ နှစ်လရှည်စွာ ရထားအပ်သော ပရိတ်ကို မေ့လျက် မုဆိုး၏ ညွှတ်၌ မိဖူးလေသည်တစ်ကြိမ်။

တိကနိပါတ် သက်ပွဇာတ်၌ ဘုရားလောင်းရသေ့သည် မိဖုရား၏ ရုပ်သွင်ကို မြင်ရသဖြင့် ခုနစ်ရက်ပတ်လုံး ဆွမ်းအာဟာရကို ပစ်လျက် ရုပ်တည်ရာမရ ရှိခဲ့ဖူးသည် တစ်ကြိမ်။

တိကနိပါတ် အနိတ္တဂန္ဓဇာတ်၌ ဘုရားလောင်း ဗာရာဏသီမင်းကြီး၏ သားသည် စောင်းတတ်သော မိန်းမ၏ ဖြားယောင်းခံရ၍ ကာမဂုဏ်၏သတ္တိကို သိပြီး "မိန်းမဟူသမျှသည် ငါတို့မင်းနှင့်သာ ထိုက်၏" ဟု ယောကျ်ားတို့ကို လိုက်၍ သတ်မည် ပြုသောကြောင့် ခမည်းတော်မင်းကြီးက နေပြည်တော်မှ နှင်ထုတ်ရဖူးသည်တစ်ကြိမ်။

တိကနိပါတ် မန္ဓာတုဇာတ်၌ ဘုရားလောင်း မန္ဓာတ်မင်းသည် လူ့စည်းစိမ်ဖြင့် တင်းမတိမ်။ တာဝတိံသာ နတ်စည်းစိမ်ဖြင့်လည်း တင်းမတိမ်ဖူးသည် တစ်ကြိမ်။

နဝကနိပါတ် လောမကဿပဇာတ်၌ ဘုရားလောင်း လောမကဿပ ရသေ့သည် စန္ဒဝတီ မင်းသမီးကို ရမည်ဟူသောအကြောင်း ကြား၍ သော် မိမိအကျင့်ကို ဖျက်၍ သတ္တဝါတို့ အသက်ကို သတ်ရသော ပသုဃာတယဇ်ကို ပူဇော်မည်ဟု ဗာရာဏသီသို့ လာ၍ တိရစ္ဆာန် များကို သတ်ရန် အားထုတ်ဖူးသည် တစ်ကြိမ်။

ပညာသ (ပဏ္ဏာသ) နိပါတ်၊ ဥမ္မာဒန္တီဇာတ်၌ ဘုရားလောင်း သိဝိမင်းကြီးသည် ဥမ္မာဒန္တီကို မြင်၍ "ဥမ္မာဒန္တီ၊ ဥမ္မာဒန္တီ" ဟူသော အမည်ကို မြည်တမ်း၍ ရူးသွပ်ဖူး၏။

သတ္တနိပါတ်၊ကုသဇာတ်၌ ဘုရားအလောင်းတော် ကုသမင်းသည် ပဘာဝတီကို စုံမက်ခြင်းကြောင့် မင်း၏ စည်းစိမ်ကို စွန့်ပစ်ပြီး မဒ္ဒရာဇ် တိုင်း၌ စောင်းသမား၊ အိုးတော်လုပ် စသော မအပ်မရာ သော အမှုတို့ကို ပြုလုပ်လျက် ခြောက်နှစ်ပတ်လုံး နေဖူးသည် တစ်ကြိမ်။

ဤကိုးဇာတ်တွင် ဘုရားအလောင်းတော်သည် ကာမဂုဏ်ကြောင့် သုန်သုန်ထသော ရာဂစိတ်ဖြင့် ပညာရှိတို့ကဲ့ရဲ့ဖွယ် ရှန်ရင်းစွာ ဖြစ်ဖူး ၏ ဟု ဖြေဆိုတော်မူခဲ့လေ၏။ [၁၁]

## (၁) ဒေဝဒတ် သတ်နိုင်သော ဇာတ်တော်များ

ဘုရားအလောင်းတော်သည် ဘဝများစွာ ပါရမီဖြည့်ရာတွင် အမျိုးမျိုးသော အနှောင့်အယှက်များနှင့် တွေ့ကြုံခဲ့ရသည်။ ထို အနှောင့်အယှက်များသည် ဘုရားအလောင်းတော်၏ ပါရမီနှင့် အာ နုဘော်ကြောင့် ပြေငြိမ်းသည်ချည်းပင် ဖြစ်သည်။ ဘုရားအလောင်း တော်ကို အများဆုံး အနှောင့်အယှက်ပေးသော ပုဂ္ဂိုလ်မှာ ဒေဝ ဒတ် အလောင်းပင် ဖြစ်ပါသည်။ ဒေဝဒတ်အလောင်းသည် ဘုရား အလောင်းတော်ကို ဘဝများစွာ အနှောင့်အယှက် ပေးသော် လည်း အဆုံးတွင်အရှုံးနှင့် ဇာတ်သိမ်းရသည်သာ များလေသည်။

ဇာတ်တော် ငါးရာ့ငါးဆယ်တွင် ငါးဇာတ်၌သာ ဒေဝဒတ်အလောင်းက ဘုရားအလောင်းတော်ကို သတ်နိုင်လေသည်။ ဤငါးဇာတ်ကို မုံတိုင်ပင် ဆရာတော်က မှတ်စုသဖွယ် ဤသို့ ကဗျာဖွဲ့ထားသည်။

"စူဠနန္ဒိယ၊ ဒဒ္ဒရနှင့်၊ ဓမ္မပါလာ၊
မဟာကပိ၊ တွင်ဘိသည်ီ၊ ခန္တီဝါဒ၊ နာမပညတ်
ဤငါးဇာတ်၌၊ မုန်းလတ်တုံကျင်၊ ရှင်ဒေဝဒတ်၊
အသေသတ်၍၊ လူနတ်ဆရာ၊ သေရရှာသည်။ ။
ကြင်နာသနားဖွယ်တကား"[၁၂]

ကင်း ဝန် မင်း ကြီး က လည်း ဘုရားအလောင်းတော် ရှုံးသော ငါးဇာတ်ကို ဤသို့ ကဗျာဖွဲ့ပါသည်။

ခန္တီဝါ၊ ရွှေခါမင်းထုံး။
ကပိစူမဟာနန်နှင့်၊ စူဠဓမ် သည်ဇာတ်ပေါင်းမှာ....
လောင်းတော်ကရှုံး"[၁၃]

ဤငါးဇာတ်ကို လေ့လာသော် မုံတိုင်ပင် ဆရာတော်၏ အဆို အရ....

စူဠနန္ဒိယဇာတ်
ဒဒ္ဒရဇာတ်
ဓမ္မပါလဇာတ်
မဟာကပိဇာတ်
ခန္တီဝါဒီဇာတ် ဟူ၍ ငါးဇာတ်ဖြစ်ပါသည်။

ကင်းဝန်မင်းကြီး၏ အလိုအရမူ –

ခန္တီဝါ (ဒီ) ဇာတ်
ရွှေခါမင်းပါသောဇာတ်
ကပိ (စူ) ဇာတ်
မဟာနန်ဇာတ်
စူဠဓမ်ဇာတ် တို့ဖြစ်ပါသည်။

မုံတိုင်ပင်ဆရာတော်၏ ငါးဇာတ်တွင် "ဒဒ္ဒရဇာတ်"သည် မည်

သည့် ဒုဒ္ဒရဇာတ်ဟု မဖော်ပြပါ။ ငါးရာ့ငါးဆယ်တွင် ဒုဒ္ဒရဇာတ် နှစ်ဇာတ် ရှိပါသည်။ ဒုကနိပါတ် ဇာတ်တော်အစဉ် ၁၇၂ တွင် ဒုဒ္ဒရဇာတ် တစ်ခု၊ စတုက္ကနိပါတ်ဇာတ်တော်စဉ် ၃၀၅ တွင် ဒုဒ္ဒရဇာတ် တစ်ခု ပေါင်းနှစ်ခု ပါဝင်ပါသည်။ ယင်းဇာတ်တော် နှစ်ဇာတ်လုံး တွင် ဘုရားအလောင်းမရှုံးပါ။ ဇာတ်တော်နှစ်ဇာတ်လုံးတွင်လည်း ဒေဝ ဒတ်အလောင်းမပါပါ။ ဓမ္မပါလဇာတ်ကိုလည်း မခွဲခြားပါ။ ပဉ္စက နိပါတ် ဇာတ်တော်စဉ် ၃၅၈ တွင် "စူဠဓမ္မပါလဇာတ်" တစ်ဇာတ် ဒသကနိပါတ်ဇာတ်တော်စဉ် ၄၄၇ တွင် မဟာဓမ္မပါလဇာတ် တစ်ဇာတ် ပါရှိပါသည်။

ကင်းဝန်မင်းကြီး၏ ကဗျာတွင်လည်း "ကပိစူ" ဟု ပါခြင်းကြောင့် စူဠကပိဇာတ်ဟုဆိုချင်ဟန်ရှိသည်။ ငါးရာ့ငါးဆယ် ဇာတ်တော်များ တွင်စူဠကပိဇာတ်မရှိပါ။ "မဟာကပိဇာတ်"ဟူ၍ သတ္တနိပါတ်တွင်တစ် ဇာတ်၊ တိံသနိပါတ်တွင် တစ်ဇာတ် တွေ့ရပါသည်။ "မဟာစူဠ" ဟူ၍ မသုံးဘဲ ကပိဇာတ်ကို ဒုကနိပါတ်တွင် တစ်ဇာတ်။ သတ္တနိပါတ် တွင်တစ်ဇာတ် တွေ့ရပါသည်။ ယင်းနှစ်ဇာတ်လုံးတွင် ဘုရားအလောင်း မရှုံးချေ။ ရွှေခါမင်းထုံးဟူသည်ကား ခါမင်းပါသော ဇာတ်များကို ရည်ညွှန်းပါသည်။ အလောင်းတော်ခါမင်းဖြစ်သော ဇာတ်နှစ်ဇာတ် တွေ့ရပါသည်။ တစ်ဇာတ်မှာ ဧကနိပါတ်တွင်ပါသော တိတ္တိရဇာတ် ဖြစ်ပြီး တစ်ဇာတ်မှာ နဝကနိပါတ်တွင်ပါသော တိတ္တိရဇာတ်ဖြစ်ပါ သည်။

ငါးရာ့ငါးဆယ် ဇာတ်တော်များနှင့် ညှိနှိုင်း လေ့လာသောအခါ ဘုရားအလောင်းရှုံးပြီး ဒေဝဒတ်အလောင်းသတ်နိုင်သော ဇာတ်ငါး ဇာတ်မှာ အောက်ပါဇာတ်များ ဖြစ်ပါသည်။

ဒုကနိပါတ် ဇာတ်တော်စဉ် ၂၂၂ လာ စူဠနန္ဒိယဇာတ်။
စတုက္ကနိပါတ် ဇာတ်တော်စဉ် ၃၁၃ လာ ခန္တီဝါဒီဇာတ်။
ပဉ္စကနိပါတ် ဇာတ်တော်စဉ် ၃၅၈ လာ စူဠဓမ္မပါလဇာတ်။
သတ္တကနိပါတ်ဇာတ်တော်စဉ် ၄၀၇ လာ မဟာကပိဇာတ်။
နဝကနိပါတ်ဇာတ်တော်စဉ် ၄၃၈ လာ တိတ္တိရဇာတ်။

စူဠနန္ဒိယဇာတ်တော်မှာ ဘုရားအလောင်း "မဟာနန္ဒိယမျောက်၊ ညီတော် စူဠနန္ဒိယမျောက်နှင့် မိခင်မျောက်မအိုကြီးဇာတ် ဖြစ်ပါသည်။ ဒေဝဒတ်အလောင်းမုဆိုးသည် မိခင်မျက်မမြင်မျောက်မအိုကြီးကိုသတ်ရန် လေးကိုတင်သောအခါ ဘုရားအလောင်း မဟာနန္ဒိယမျောက်မင်းက မိခင်ကိုယ်စား သူ့အားသတ်ရန်ပြောသဖြင့် ဘုရားလောင်းကို သတ်လေ၏။ မုဆိုးသည် ဘုရားအလောင်း ညီတော်နှင့် မိခင်မျောက်မကြီးကိုပါ သတ်သောဇာတ်ဖြစ်ပါသည်။

ခန္တီဝါဒီဇာတ်မှာ ဘုရားလောင်းခန္တီဝါဒီရသေ့နှင့် ကလာဗုမင်းတို့အကြောင်း ဖြစ်ပါသည်။ ကလာဗုမင်းသည် တစ်နေ့သ၌ အရက်မူးနေပြီး ဥယျာဉ်သို့ ထွက်တော်မူ၏။ မင်းအိပ်ပျော်လတ်သော် မောင်းမမြွေရံတို့သည် ဘုရားလောင်း ရသေ့ထံ ချဉ်းကပ်၍ တရားနာ၏။ မင်းနိုးလတ်သော် မောင်းမမြွေရံတို့ ဘုရားလောင်းအနီးတွင် ချဉ်းကပ်နေသည်ကိုမြင်ပြီး ဒေါသထွက်ခါ ဘုရားလောင်းအား သင်သည် အဘယ်ဝါဒရှိသနည်းဟု မေး၏။ ဘုရားအလောင်း ရသေ့က "ခန္တီဝါဒ" ရှိကြောင်း ပြန်ကြားသောအခါ ဘုရားအလောင်း ရသေ့အား စူးခက်ဖြင့်ရိုက်ပြီး လက်၊ခြေ၊နား၊ နှာခေါင်းတို့ကို ဖြတ်လေ၏။ ဘုရားအလောင်းသည် ထိုဝေဒနာဖြင့် ထိုနေ့၌ပင်သေလေ၏။

စူဠဓမ္မပါလဇာတ်မှာ ဘုရားအလောင်းသည် ဗာရာဏသီပြည် "မဟာပတာပ"မင်း၏ သားဖြစ်၍ "ဓမ္မပါလ"မည်၏။ ဘုရားလောင်း ခုနစ်နှစ်သားအရွယ်ရောက်သော် မိခင်မိဖုရား စန္ဒာဒေဝီသည် မိမိထံ မင်းလာသော်လည်း သားနှင့် ကစားနေလျက် နေရာမှမထပေးသဖြင့် မင်းက "မိဖုရားကား သားကိုမှီ၍ မာနထောင်ပြီး ငါ့ကိုမလေးစား"ဟု ဆိုကာ သူသတ်တို့လက်သို့ သားကိုအပ်၍ သတ်စေသဖြင့် ဘုရားလောင်းသည် သူသတ်တို့ကြောင့် သေရလေ၏။ ဘခင် မဟာပတာပ မင်းသည် ဒေဝဒတ်အလောင်းဖြစ်ပါသည်။

မဟာကပိဇာတ်မှာ ဘုရားအလောင်းမျောက်မင်း၏ ကျောပေါ်သို့ဒေဝဒတ်အလောင်း မျောက်မင်း ခုန်ချ၍ ထိုဝေဒနာဖြင့် ဘုရားအလောင်းမျောက်မင်း သေသောဇာတ်ဖြစ်ပါသည်။

တိတ္တိရဇာတ်မှာ ဘုရားလောင်းခါမင်းသည် ဟိမဝန္တာတော၌နေ၏။ ဗာရာဏသီပြည်မှ ဒိသာပါမောက္ခဆရာကြီးသည် ဘုရားအလောင်းခါ၏ နေရာအနီး၌ ကျောင်းဆောက်၍ လုလင်တို့ကို ဗေဒင်သင်ပေး၏။ ဆရာကြီးသေသောအခါ ဘုရားအလောင်းခါသည် လုလင်များကို ဗေဒင်ဆက်သင်ပေး၏။ တစ်နေ့သောအခါ လုလင်တို့ ခါကို ကျောင်းအပ်၍ မြို့၌ ပွဲများကြည့်စဉ် ဒေဝဒတ်အလောင်း ရသေ့ပျက်သည် ဘုရားအလောင်းခါကို သတ်စားသဖြင့် သေရလေ၏။

အထက်ပါ ဇာတ်ငါးဇာတ်တွင်သာ ဘုရားအလောင်းတော်သည် ဒေဝဒတ်အလောင်း၏ နှိပ်စက်ခြင်းကို သေသည့်တိုင်ခံစားရလေသည်။ ဤငါးဇာတ်ကို ပညာရှင်များက ဒေဝဒတ်နိုင်သောဇာတ် သို့မဟုတ် ဘုရားအလောင်း ရှုံးသောဇာတ်ဟု သမုတ်ကြခြင်းဖြစ်လေသည်။

သို့ရာတွင် ကျီးသဲလေးထပ် ဆရာတော်ဘုရားကြီးကမူ စွယ်စုံကျော်ထင်ကျမ်းတွင်....

"ဒေဝဒတ်ကြမ်း၊ အာဃာလွှမ်း ရှုံးလမ်းလောင်းလျာဘယ်မျှနည်း"ဟူသောပုစ္ဆာကို ဖြေဆိုရာတွင် –

"စူဠဓမ္မပါလမင်း၊ခါမင်း၊ခန္တိဝါဒီရသေ့၊ စူဠနန္ဒိယမျောက်မင်း၊ မဟာနန္ဒိယမျောက်မင်း၊ ဆဒ္ဒန်ဆင်မင်း၊ ဤခြောက်ဇာတ်တို့၌ ဒေဝဒတ်အလောင်းသည် ဘုရားအလောင်းအား ညှဉ်းဆဲနှိပ်စက်၍ သေပျက်အောင် ပြုနိုင်လေသည်ဟူ၍ စူဠဓမ္မပါလဇာတ် အဋ္ဌကထာတွင်လာသည်။

ဤခြောက်ဇာတ်တွင်လည်း ဆဒ္ဒန်ဆင်မင်းဇာတ်ကို ထိုအဋ္ဌကထာ၌မပါ။ သူ့ဇာတ်တွင်ပါသော အတ္ထုပ္ပတ္တိဖြင့်သာ သိအပ်၏""ဟူ၍ ဆဒ္ဒန်ဆင်မင်းဇာတ်တော်ကိုပါ ဖြည့်စွက်ပြီး ခြောက်ဇာတ်ဟူ၍ပြလေသည်။

## (၂) ကမ္ဘာအပိုင်းအခြားနှင့် ပြည်ရွာများ

မြတ်စွာဘုရားအလောင်းတော်သည် လေးအသင်္ချေနှင့် ကမ္ဘာတစ်သိန်းထက် ပထမ သေလကပ်ဦး သာရမဏ္ဍ ကမ္ဘာ၌ ဒီပင်္ကရာမြတ်စွာဘုရားလက်ထက်တွင် သုမေဓာရသေ့ဘဝဖြင့် ဗျာဒိတ်တော်ဦးစွာရခဲ့ပြီးလျှင် ပါရမီတော်များ ဖြည့်ခဲ့ရလေသည်။ သို့သော် ဗျာဒိတ်တော်ခံ အလောင်းတော်၏ ဘဝများဖြစ်ရာ ကမ္ဘာများကို အကျယ်မတင်ပြတော့ပါ။ ဇာတက အဋ္ဌကထာလာ ငါးရာ့ငါးဆယ် ဇာတ်တော်များ၏ ဖြစ်တော်မူရာ ကမ္ဘာကိုသာ တင်ပြပါမည်။

ဤဖြစ်တော်ပေါင်း ဘဝများ၏ ကမ္ဘာကိုပြဆိုရာတွင် ကျမ်းပြုသူအမည်၊ ထုတ်ဝေရာ ခုနှစ်၊ ထုတ်ဝေသည့်ပုံနှိပ်တိုက်၊ မသိရသေးသော "ငါးရာ့ငါးဆယ်နိပါတ် ဇာတ်ဝတ္ထုအကျဉ်းချုပ်ကျမ်း"တွင် ဤသို့ ဇယားဖြင့် ပြပါမည်။

| နိပါတ် | ဇာတ်အမည် | ကမ္ဘာအပိုင်းအခြား |
|---|---|---|
| ဧကနိပါတ် | သေရိဝဝါဏိဇ္ဇဇာတ် | ၅ ကမ္ဘာထက် |
| ဧကနိပါတ် | လောမဟံသဇာတ် | ၉၁ ကမ္ဘာထက် |
| ဒုကနိပါတ် | အရကဇာတ် | ၇ ကမ္ဘာထက် |
| သတ္တတိနိပါတ် | ဗကဗြဟ္မာဇာတ် | တစ်ခုသောကမ္ဘာထက် |

ကျန်ဇာတ်တော်များမှာ ကမ္ဘာခွဲခြားမဆိုသဖြင့် ဤကမ္ဘာတွင်ချည်း ဖြစ်သည်ဟု ယူဆရသည်ဟုပြပါသည်။ အမျိုးသားပညာဝန်ဦးဖိုးကျား၏ ငါးရာ့ငါးဆယ်ကောက်နုတ်ချက်များတွင်လည်းကောင်း၊ ဘိုးဘွားရိပ်သာစာစောင် အမှတ် ၁၆ စာမျက်နှာ ၃၉ တွင် လည်းကောင်း ဤစာရင်းအတိုင်းပင် ပြပါသည်။

ငါးရာ့ငါးဆယ် ဇာတ်တော်များဖြစ်ရာ ကမ္ဘာနှင့်ပတ်သက်၍ မန်လည်ဆရာတော် ဦးဇဝနနှင့် မင်းကွန်းတောရ အရှည်ဝါသီ ဦးပဏ္ဍဝံသအမေးအဖြေတွင် —

"ယုတ်မြတ်တဲ့ ကြီးငယ်။ ။ တို့စိန္တေကျင်လည်ရ၊ ငါးရာ့ငါးဆယ်။ ။ နိပါတ်လာဘဝပေါင်းငယ်တို့၊ လောင်းဇာတိ ဖြစ်တော်ကျယ်၊ မြစ်ပင်လယ်တန္ဒန်း။ ။ ဇာတ်များစွာ ဘယ်ကပ် ဘယ်ကမ္ဘာ၌ သည်ငါးရာကိုယ်တော်ဖြစ်တယ်လို့၊ သနစ်ကုန်ရွှေစာစုပါ၊ ကျမ်းပြုတဲ့ဘုန်း။ ။ယုတ်မြတ်တဲ့ကြီးငယ်။ ။တို့စိန္တေကျင်လည်ရ၊ ငါးရာ့ငါးဆယ် နိပါတ်လာဘဝပေါင်းတို့၊ လောင်းဇာတိ ဖြစ်တော်ကျယ်၊ အံ့ဩဘွယ်သရဲ ။ ။ ငါးဇာတ်သာရှေးကပ် ဟိုကမ္ဘာ၌၊ တို့မြတ်စွာကိုယ်တော်ဖြစ်သည်ပ၊ ကြွင်းသေသာ ဤကမ္ဘာခေတ်မှာတဲ့၊ သနစ်ကုန်ရွှေစာ စုလိုက်တယ်၊ ကျမ်းပြုပေဘဲ"[၁၅] ဟု ဆိုထားသည်။

ရှေးကမ္ဘာ၌ဖြစ်သော ငါးဇာတ်မှာ –

၁။ ဧကနိပါတ်၌ သေရိဝဝါဏိဇ္ဇဇာတ်

၂။ လောမဟံသဇာတ်

၃။ ဒုကနိပါတ်၌ အရကဇာတ်

၄။ စတုကနိပါတ်၌ ကေသဝဇာတ်

၅။ သတ္တနိပါတ်၌ ဗကဗြဟ္မာဇာတ်တို့ ဖြစ်သည်။ ကြွင်းသောဇာတ်တို့ကား ဤကမ္ဘာ၌သာ ဖြစ်ကုန်၏။

ဆရာတော် ဦးဝိစိတ္တသာရာဘိဝံသကလည်း "ထိုပါဌ်ဇာတ်လာဇာတ်နိပါတ်များအနက် ဇာတ်ငါးဇာတ်မှတစ်ပါး ကျန်သောဇာတ်နိပါတ်များသည် ဤကမ္ဘာတွင်ဖြစ်ပေါ်ခဲ့သော အကြောင်းအရာများသာဖြစ်၏"[၁၆] ဟု မိန့်တော်မူပြီး ကမ္ဘာခြားရာ ဇာတ်တော်ငါးဇာတ်ကို အောက်ပါအတိုင်းဖော်ပြထားပါသည်။

၁။ ဧကနိပါတ်၊ အပဏ္ဏကဝဂ် သေရိဝဝါဏိဇ္ဇ ဇာတ်သည် လွန်ခဲ့သော ငါးကမ္ဘာထက်မှာ ဖြစ်သော ဇာတ်ဖြစ်သည်။

၂။ ဧကနိပါတ်လိတ္တဝဂ်၊ လောမဟံသဇာတ်သည်၊ ဤကမ္ဘာမှ လွန်ခဲ့သော ၉၁ ကမ္ဘာထက်က ဖြစ်ခဲ့သော ဇာတ်ဖြစ်သည်။

၃။ ဒုကနိပါတ်၊ သန္တဝဝဂ်၊ အရကဇာတ်သည် ဤကမ္ဘာမှ လွန်ခဲ့သော ခုနစ်ကမ္ဘာထက်က ဖြစ်ခဲ့သော ဇာတ်ဖြစ်သည်။

၄။ စတုက္ကနိပါတ်၊ စူဠကုဏာလဝဂ်၊ ကေသဝဇာတ်သည် ရှေးကမ္ဘာပေါင်း ၅၇၀ ခန့်က ဖြစ်ပေါ်သော ဇာတ်ဖြစ်သည်။

၅။ သတ္တကနိပါတ်၊ ကုက္ကုရဝဂ်၊ ဗကဇာတ်သည် ရှေးလွန်လေပြီးသော ကမ္ဘာပေါင်း ၅၇၀ ခန့်ကပင် ဖြစ်ပေါ်သော ဇာတ်ဖြစ်သည်။[၁၂]

အထက်ပါစာရင်းတွင် တင်ပြခဲ့သော လေးဇာတ်မှာ မင်းကွန်းတောရဆရာတော်နှင့် ဆရာတော်ဦးဝိစိတ္တသာရာဘိဝံသတို့ မိန့်ကြားဖြေဆိုခဲ့သော စတုက္က နိပါတ်တော်သာ "ကေသဝဇာတ်" မပါဝင်ကြောင်း တွေ့ရပါသည်။ တင်ပြခဲ့ပြီးသော ငါးရာ့ငါးဆယ် နိပါတ်တော်ဝတ္ထုအကျဉ်းချုပ်ကျမ်းတွင် သတ္တကနိပါတ်တော်လာ "ဗက" ဇာတ်ကိုလည်း သတ္တတိ နိပါတ်ဟု သုံးထားကြောင်း တွေ့ရပါသည်။ ဦးဖိုးကျားကသာ သတ္တနိပါတ်ဟု သုံးပါသည်။ အမှန်မှာ"သတ္တတိနိပါတ်"မဟုတ်ပါ။ သတ္တတိနိပါတ်တွင်"ကုသဇာတ်" နှင့် "သောဏနန္ဒဇာတ်" နှစ်ဇာတ်သာ ပါဝင်ပါသည်။ သတ္တကနိပါတ်သို့မဟုတ် သတ္တနိပါတ်သာ ဖြစ်ပါသည်။ ဗကဇာတ်ကိုလည်း "တစ်ခုသောကမ္ဘာထက်"ဟုသာ ပြပါသည်။ ဆရာတော် ဦးဝိစိတ္တသာရာဘိဝံသကသာ လွန်ခဲ့ပြီးသော ကမ္ဘာပေါင်း ၅၇၀ ခန့်က ဟု မိန့်ကြားပါသည်။

ဆရာတော် ဦးဝိစိတ္တသာရာဘိဝံသက မဟာဗုဒ္ဓဝင် ပထမတွဲ (ဒုတိယပိုင်း)တွင် "ကေသဝဇာတ်"နှင့်"ဗကဇာတ်"ဖြစ်ရာ ကမ္ဘာကို "အဋ္ဌကထာမှာ အကျယ်လာသည်ကို အကျဉ်းချုံး၍ ပြဆိုရသော်...." ဟူ၍ ရှင်းလင်းမိန့်ကြားထားပါသည်။

ဇာတ်တော် ၅၅၀ ဖြစ်တော်မူသော ဘဝများ၏ ဖြစ်တော်မူရာ ပြည်ရွာဒေသများကို လေ့လာကြည့်သောအခါ "ဗာရာဏသီပြည်တွင် များပါသည်။ မြန်မာအများပြောစဉ် ဆိုရိုးတစ်ခုရှိပါသည်။ "ပြည်မသိ ဗာရာဏသီ၊ မင်းမသိ ဗြဟ္မဒတ်"ဟူသော စကားဖြစ်ပါသည်။ ဤစကားသည် ငါးရာ့ငါးဆယ် ဇာတ်တော်များရှိ ဗုဒ္ဓအလောင်း

တော်ဖြစ်တော်မူရာပြည်ကို အကြောင်းပြု၍ ပြောသောစကားစဉ် ဖြစ်ပါသည်။ ဇာတ်တော် ၅၄၇ ဇာတ်တွင် ၄၄၇ ဇာတ်သည် ဗာရာဏသီပြည်၌ဖြစ်ခဲ့ကြောင်း တွေ့ရပါသည်။

အထက်တွင်တင်ပြခဲ့ပြီးသော "ငါးရာ့ငါးဆယ်နိပါတ် ဇာတ်ဝတ္ထုအကျဉ်းချုပ်" ကျမ်းနှင့် ဦးဖိုးကျား၏ ငါးရာ့ငါးဆယ် ကောက်နုတ်ချက်များ ပထမပိုင်း[၁၈] တွင် ပြည်ရွာများ၏စာရင်းကို အောက်ပါအတိုင်း ဖော်ပြထားကြောင်း တွေ့ရပါသည်။

| | | |
|---|---|---|
| ဗာရာဏသီပြည် | – | ၄၄၇ ဘဝ |
| အရိဋ္ဌပူရပြည် | – | ၂ ဘဝ |
| မိဓိလာပြည် | – | ၂၂ ဘဝ |
| ရာဇဂြိုဟ်ပြည် | – | ၁၃ ဘဝ |
| တက္ကသိုလ်ပြည် | – | ၂ ဘဝ |
| သာကေတပြည် | – | ၃ ဘဝ |
| ကုသိနာရုံပြည် | – | ၁ ဘဝ |
| ပါတလိပုတ်ပြည် | – | ၁ ဘဝ |
| ဣန္ဒပဋ္ဋနဂိုရ်ပြည် | – | ၁ ဘဝ |
| ဒန္တပူရပြည် | – | ၁ ဘဝ |
| ဥတ္တရပဉ္စာလပြည် | – | ၅ ဘဝ |
| သောတ္ထိယပြည် | – | ၁ ဘဝ |
| ရောရုဝပြည် | – | ၁ ဘဝ |
| မောလိနီပြည် | – | ၁ ဘဝ |
| ကောသမ္ဗီပြည် | – | ၂ ဘဝ |
| အသိတဉ္ဇနမြို့ | – | ၁ ဘဝ |
| ဥစ္စေနီပြည် | – | ၁ ဘဝ |
| ကုသဝတီပြည် | – | ၁ ဘဝ |
| သာဂလပြည် | – | ၁ ဘဝ |
| စေတုတ္တရာပြည် | – | ၁ ဘဝ |
| သုရုန္ဒနပြည် | – | ၁ ဘဝ * |

| | | |
|---|---|---|
| ရမ္မာပြည် | — | ၁ ဘဝ * |
| သုဒဿနပြည် | — | ၁ ဘဝ * |
| ဗြဟ္မဝဍ္ဎနပြည် | — | ၁ ဘဝ * |
| ပုပ္ဖဝတီပြည် | — | ၁ ဘဝ * |
| သိဟိုဠ်ကျွန်း | — | ၁ ဘဝ |
| ကမ္ဘာဦးအခါ | — | ၁ ဘဝ |
| ငါးကမ္ဘာထက် | — | ၁ ဘဝ |
| ၉၁ ကမ္ဘာထက် | — | ၁ ဘဝ |
| တစ်ခုသောကမ္ဘာထက် | — | ၁ ဘဝ |
| ဂန္ဓာလရာဇ်တိုင်း | — | ၁ ဘဝ |
| တစ်ခုသောတောင်ခြေ | — | ၁ ဘဝ |
| ခုနစ် ကမ္ဘာထက် | — | ၁ ဘဝ |
| ပထမ မဟာကပ် | — | ၁ ဘဝ |
| ကဿပဘုရားလက်ထက် | — | ၂ ဘဝ |
| မဂဓရာဇ်တိုင်း | — | ၁ ဘဝ |
| ကာသိတိုင်း | — | ၁ ဘဝ |
| ကုရုတိုင်း | — | ၂ ဘဝ |
| အင်္ဂတိုင်း | — | ၂ ဘဝ |
| ဟိမဝန္တာတော | — | ၃ ဘဝ |
| ရှင်း(ဂင်္ဂါနား) | — | ၂ ဘဝ |
| ပဒုမာအိုင် | — | ၁ ဘဝ |
| ဂိဇ္ဈကုဋ်တောင် | — | ၁ ဘဝ |
| မထင်ရှားသောရွာ | — | ၁ ဘဝ |
| တစ်ခုသောရွာအုပ် | — | ၁ ဘဝ |
| တစ်ခုသောရေကန် | — | ၁ ဘဝ |

ဦးဖိုးကျားက ခရေပွင့်( * ) အမှတ်အသားပါ ငါးပြည်မှာ ဗာရာဏသီပြည်ကိုပင် ရံဖန်ရံခါ ပြောင်းလဲခေါ်ဝေါ်သော အမည်ငါးမျိုး ဖြစ်သည်ဟု ဖော်ပြထားပါသည်။

ဤစာရင်းတွင်ပါဝင်သော ပြည်ရွာများကို ဆရာတော် ဦးဝိစိတ္တသာရာဘိဝံသ၏ အခြား ကမ္ဘာတွင်ဖြစ်သော ဇာတ်တော်များနှင့် တိုက်ဆိုင်ကြည့်သော် "ဗကဇာတ်"သည် ဤစာရင်း၌ "တစ်ခုသော ကမ္ဘာထက်"ဟူသော စာရင်းဝယ်ပါဝင်မည်ဖြစ်ပြီး "ကေသဝဇာတ်"ကို ညောင်ကန် ဆရာတော်၏ ငါးရာ့ငါးဆယ် မြန်မာပြန်အရ "ဗာရာဏသီပြည်"တွင် ထည့်သွင်းထားနိုင်ဖွယ် ရှိလေသည်။ ။

အခန်း ၆

# ဇာတ်တော်အမည်များ

မြတ်စွာဘုရားသည် ငါးရာ့ငါးဆယ် ဇာတ်တော်များကို အကြောင်းတိုက်ဆိုင်ရာတို့ ပေါ်ပေါက်လာသောအခါမှ ဟောကြားခဲ့ခြင်းဖြစ်ပါသည်။ ထိုသို့ဟောကြားစဉ်က ဇာတ်တော်၏အမည်၊ နိပါတ်တို့ကို ခွဲခြားဟောကြားခဲ့ခြင်း မဟုတ်ပေ။ ပြုစုသူ ပညာရှင်များကသာ နိပါတ်တော်များခွဲခြင်း၊ ဇာတ်တော်အမည်တပ်ခြင်း စသည်ဖြင့် ပြုခဲ့ကြဟန်ရှိပေသည်။ နိပါတ်တော်ခွဲခြင်းကို တင်ပြခဲ့ပြီးဖြစ်ပါသည်။ ယခုဇာတ်တော်များ အမည်မှည့်ပုံကို ဆက်လက်တင်ပြပါမည်။

## (၁) ဇာတ်တော်အမည်ပေးပုံများ

ဇာတ်တော်များအမည်မှည့်ပုံကို လေ့လာသောအခါ စိတ်ဝင်စားဖွယ် တွေ့ရလေသည်။ ဇာတ်တော်အမည်များမှာ အကြောင်းအမျိုးမျိုးကို အမှီပြု၍ ပေးထားပြီး ယင်းတို့ကို စိစစ်ကြည့်လျှင် အောက်ပါအတိုင်း တွေ့ရပါသည်။

### (က) ဘုရားအလောင်း၏ အမည်ကို အဓိကထား၍ အမည်ပေးခြင်း။

ဇာတ်တော်များသည် ဘုရားအလောင်း ဘဝဖြစ်စဉ်များ ဖြစ်ကြောင်း အများသိရှိပြီးဖြစ်ပါသည်။ ဗုဒ္ဓ၏ နုစဉ်ဘဝများဟုလည်း

သိကြပါသည်။ ထို့ကြောင့် ဇာတ်တော်များတွင် ဘုရားလောင်း၏ အမည်ကို အဓိကထား၍ အမည်ပေးခြင်းကို အများစု တွေ့ရပါသည်။

ကေနိပါတ်လာ မဃဒေဝဇာတ်၊ နန္ဒိဝိလာသဇာတ် စသည်မှ ဇာတ်ကြီးဆယ်ဘွဲ့ခေါ် မဟာနိပါတ်တော်လာ တေမိဇာတ်၊ မဟာဇနကဇာတ်၊ သုဝဏ္ဏသာမဇာတ်၊ ဝေဿန္တရာဇာတ်တော်တို့အဆုံးဖြစ်ကြောင်း တွေ့ရလေသည်။

## (ခ) ဇာတ်တော်တွင် အဓိကကျသည့်ပုဂ္ဂိုလ်ကို အကြောင်းပြု၍ အမည်ပေးခြင်း။

ဇာတ်တော်များသည် ဘုရားအလောင်း၏ နုစဉ်ဘဝများဟု ဆိုသော်လည်း အချို့ဇာတ်များတွင် ဘုရားအလောင်းသည် ထိုဇာတ်တွင် အဓိကကျသောပုဂ္ဂိုလ်အဖြစ် မပါဝင်ပေ။ ထိုအခါ ဇာတ်တော်တွင် အဓိကကျသော ပုဂ္ဂိုလ်၏အမည်သည် ဇာတ်တော်အမည် ဖြစ်ကြောင်း တွေ့ရပါသည်။

ကေနိပါတ်လာ "လက္ခဏမိဂ" ဇာတ်တော်တွင် ဘုရားအလောင်းသမင်မင်း၌ "လက္ခဏ" နှင့် "ကာဠ" အမည်ရှိသော သားနှစ်ဦးရှိ၏။ သားအလိမ္မာ လက္ခဏသမင်နှင့် အမြော်အမြင်နည်းသော သားကာဠသမင်တို့၏အကြောင်း ဇာတ်ဖြစ်ပါသည်။ လက္ခဏသမင်၏ အမြော်အမြင် ရှိမှုကြောင့် သူ၏ အခြံအရံသမင်များ ဘေးရန် ကင်းရသော ဇာတ်ဖြစ်ပါသည်။

ကေနိပါတ်လာ "ဝါတမိဂ" ဇာတ်မှာ အရသာကိုမက်သဖြင့် မင်းရင်ပြင်ထိရောက်ရသော သမင်ပျိုအကြောင်း ဖြစ်ပါသည်။ ကေနိပါတ်လာ "မဟိဠာမုခ" ဇာတ်မှာ ခိုးသူတို့၏စကားကို ကြားဖန်များသဖြင့် ရိုင်းစိုင်းသွားပြီး ဆင်ထိန်းများကိုသတ်သော "မဟိဠာမုခ" အမည်ရှိဆင်အကြောင်း ဖြစ်ပါသည်။ ကေနိပါတ်လာ "မုနိက" ဇာတ်မှာ အသားတိုးရန် အစာကျွေးခြင်း ခံရသော မုနိက အမည်ရှိ ဝက်အကြောင်းဖြစ်ပါသည်။ ဤအမည်များမှာ ဘုရားအလောင်း၏အမည်

များမဟုတ်ချေ။ ဇာတ်တော်မှ အဓိကပုဂ္ဂိုလ်ကို အကြောင်းပြု၍ အမည်ပေးထားသော ဇာတ်တော်များဖြစ်ကြောင်း တွေ့ရပါသည်။

## (ဂ) ထင်ရှားရာ အကြောင်းရပ်ကိုမှီ၍ အမည်ပေးခြင်း။

ဇာတ်တော်တွင်ပါဝင်သော ပုဂ္ဂိုလ်များ၏အမည်ကို ဖော်ပြခြင်း မပြုဘဲ ဇာတ်တွင်ထင်ရှားသည့် အကြောင်းရပ်ကို အမှီပြု၍ အမည်ပေးထားသော ဇာတ်တော်များကိုလည်း တွေ့ရပါသည်။

ယင်းတို့ထဲမှ ဧကနိပါတ်တော်လာ "တဏ္ဍုလနာဠိ" ဇာတ်တော်ကို တင်ပြပါမည်။ တဏ္ဍုလနာဠိအဓိပ္ပာယ်မှာ "ဆန်တစ်ကွမ်းစား" ဟူ၍ ဖြစ်ပါသည်။ ဗာရာဏသီပြည် ဗြဟ္မဒတ်မင်းသည် ဘုရားအလောင်း ရာပြတ်အမတ်ကို မနှစ်သက်၍ အခြားသူတစ်ဦးအား ရာပြတ်အမတ် ခန့်ထားလေသည်။ ထိုရာပြတ်သည် အဂတိလိုက်စား၏။ တစ်နေ့သော အခါ ဥတ္တရာပထမှ မြင်းကုန်သည်တစ်ဦး ယူဆောင်လာသည့် မြင်း ငါးရာကို ရာပြတ်ခိုင်းရာ ဆန်တစ်ကွမ်းစားထိုက်၏ဟု ရာပြတ်ပေး၏။ မြင်းကုန်သည်က မကျေနပ်သဖြင့် ဘုရားအလောင်းကို တိုင်ကြားရာ ဘုရားအလောင်းက ထိုရာပြတ်အား လာဘ်ပေး၍ မင်းရှေ့တွင် ဆန် တစ်ကွမ်းစား၏တန်ဖိုးကို ရာပြတ်ခိုင်းလော့ဟုဆို၏။ မြင်းကုန်သည်က ဘုရားလောင်း ပြောသည့်အတိုင်း ထိုရာပြတ်ကို လာဘ်ပေး၍ ဆန် တစ်ကွမ်းစားကို မင်းရှေ့တွင် ရာပြတ်ခိုင်းရာ"ထိုဆန်တစ်ကွမ်းစားသည် ဗာရာဏသီတစ်မြို့လုံးကို ထိုက်၏"ဟု ရာပြတ်သော ဇာတ်ဖြစ်ပါသည်။ ဤဇာတ်ကို"ဆန်တစ်ကွမ်းစား"ဟုပင် အမည်ပေးထားပါသည်။

ဧကနိပါတ်တော်လာ"မာလုတ"ဇာတ်တွင် မာလုတ၏ အဓိပ္ပာယ် မှာ"လေ"ဖြစ်ပါသည်။ ဇာတ်တော်မှာ ဘုရားအလောင်း ရသေ့နေရာ တောင်ခြေရင်း ဂူတစ်ခုတွင် ကျားနှင့် ခြင်္သေ့နှစ်ဦး အတူနေကြ၏။ 'တစ်နေ့သ၌ ကျားက "လဆုတ်၌ သာ၍ ချမ်း၏" ဆိုရာ ခြင်္သေ့က 'လဆန်း၌ သာ၍ချမ်း၏"ဟု ဆို၏။ ကျားနှင့်ခြင်္သေ့ အငြင်းအခုန် ဖြစ်သဖြင့် ဘုရားအလောင်းထံ အဆုံးအဖြတ်ခံရန် လာရာ ဘုရား

အလောင်းက လေကြောင့်သာ အချမ်းဖြစ်၏။ လဆန်း လဆုတ်ကြောင့်မဟုတ်ဟု အဆုံးအဖြတ်ပေးသော ဇာတ်ဖြစ်ပါသည်။

သေသူကိုရည်စူးလှူသည့် အလှူအကြောင်းနှင့် ပတ်သက်၍ ဟောသောဇာတ်ကို "မာတကဘတ္တဇာတ်" ဟူ၍ လည်းကောင်း၊ အမျိုးအမည်မသိရသော အဆိပ်သီးကို အကြောင်းပြု၍ ဟောကြားသောဇာတ်ကို "ကိံဖလ" "ကိံပက္က" ဟုအမည်ပေးထားပါသည်။ ကောသလမင်းကြီး၏ အိပ်မက် ၁၆ ချက်ကိုအကြောင်းပြု၍ ဟောကြားသောဇာတ်ကို "မဟာသုပိန" (အိပ်မက်) ဟူ၍လည်းကောင်း၊ ဗာရာဏသီမင်း လှူသည့် အရက်ကို သောက်သဖြင့် ရသေ့များ မသင့်သောအမူအရာများ ပြုမိသည့်ဇာတ်ကို "သုရာပါနဇာတ်" စသည်ဖြင့် အမည်ပေးထားပါသည်။ ဤကဲ့သို့ အဓိကဟောကြားလိုသည့်အကြောင်းရပ်ကိုခွဲ၍ အမည်ပေးထားသော ဇာတ်တော်၏ အမည်များလည်း များစွာတွေ့ရပါသည်။

## (ဿ) ဟောကြားလိုသည့်တရားကို အကြောင်းပြု၍ အမည်ပေးခြင်း။

အချို့ဇာတ်တော်များသည် ဟောကြားလိုသည့် တရားတော်ကို အကြောင်းပြု၍ အမည်ပေးထားကြောင်း တွေ့ရပါသည်။

ကေနိပါတ်တော်လာ "ဒေဝဓမ္မဇာတ်" သည် ဒေဝဓမ္မတရားနှစ်ပါး အကြောင်းကို ဟောကြားထားသော ဇာတ်ဖြစ်ပါသည်။

ဘုရားအလောင်းသည် ဗာရာဏသီပြည် ဗြဟ္မဒတ်မင်း၏သားတော် "မဟိံသမင်းသား" ဖြစ်၏။ မဟိံသ မင်းသားသည် ညီများဖြစ်သော စန္ဒမင်းသား၊ သူရိယမင်းသားတို့နှင့် တောသို့ဝင်လေ၏။ တောတွင် ညီငယ်နှစ်ယောက်သည် ရေကန်တစ်ကန်သို့အဆင်းတွင် ရေကန်စောင့်ရက္ခိုက်က ဖမ်းထားလေသည်။ ဘုရားအလောင်းသည် ညီငယ်များသွားသည်မှာ ကြာနေသဖြင့် ရေကန်သို့လိုက်သွားရာ ရက္ခိုက်နှင့်တွေ့လေ၏။ ထိုရက္ခိုက်ကို "ဟိရိဩတ္တပ္ပ သမ္ပန္နာ" အစချီဂါထာဖြင့်

"ဟိရိဩတ္တပ္ပ"တရား နှစ်ပါးသည် လည်းကောင်း၊ ထိုတရားနှစ်ပါးကို ကျင့်သော သူတော်ကောင်းသည်လည်းကောင်း၊ ဒေဝဓမ္မမည်၏ဟူ၍ ဒေဝဓမ္မတရားနှစ်ပါးကို ဟောလေ၏။ ထိုတရားနှစ်ပါးကို အကြောင်းပြု၍ ဖြစ်လာသော ဇာတ်တော်ကိုလည်း "ဒေဝဓမ္မ"ဟု အမည်မှည့်ထားလေသည်။

ဧကနိပါတ်တော်လာ "တယောဓမ္မဇာတ်" သည် ရန်အောင်ကြောင်းတရားသုံးပါးကို ဟောကြားထားသော ဇာတ်တော်ဖြစ်ပါသည်။ ဗာရာဏသီပြည် ဗြဟ္မဒတ်မင်း လက်ထက်တွင် ဒေဝဒတ်အလောင်းမျောက်သည် မျောက်အပေါင်းခြံရံ၍ နေ၏။ ထိုမျောက်သည် မိမိ၏ အရိုက်အရာကို လုမည်စိုး၍ မိမိကိုစွဲ၍ မွေးလာသော မျောက်ထီးများကို ဝှေးစေ့ထုတ်၍ သတ်ပစ်၏။ ဘုရားအလောင်းသည် ထိုမျောက်ကိုအမှီပြု၍ မျောက်မတစ်ကောင်၏ဝမ်း၌ သန္ဓေတည်၏။ အလောင်းတော်၏ မိခင်မျောက်မက အလောင်းတော်ကို စောင့်ရှောက်ထား၏။ ဘုရားအလောင်းသည် မိခင်အား ဘခင်ထံပို့ရန် ပူဆာသဖြင့် မိခင်က ဘခင် ဒေဝဒတ်လောင်း မျောက်ထံပို့ရာ ဒေဝဒတ်လောင်းသည် ဘုရားလောင်းအား သတ်ခြင်းငှာ မတတ်နိုင်။ ထိုအခါ အလောင်းတော်မျောက်သေစေရန်ရည်ရွယ်၍ ရက္ခိုက်စောင့်သော ရေကန်မှ ကြာပန်းများခူးခိုင်း၏။ ဘုရားအလောင်း၏လုံ့လကို ရက္ခိုက်မြင်သဖြင့် ရက္ခိုက်က ဘုရားအလောင်းအား ဤသို့ဆို၏။

"ယဿေတေဝ တယောဓမ္မာ၊
ဝါနရိန္ဒ ယထာတဝ၊
ဒက္ခိယံ သူရိယံ ပညာ၊ ဒိဋ္ဌံသောအတိ ဝတ္တတိ။"

ဝါနရိန္ဒ၊ မျောက်မင်း။ တဝ၊ သင်၏။ အဇ္ဈတ္တရေ၊ ကိုယ်တွင်း၌။ ဒက္ခိယံ၊ ပညာနှင့် ယှဉ်သော မြတ်သော လုံ့လ။ သူရိယံ၊ ရဲရင့်ခြင်း။ ပညာ၊ ပညာ။ ဣတိ၊ ဤသို့။ တယော၊ သုံးပါးကုန်သော။ ဧတေဓမ္မာ၊ ထိုကျေးဇူးတို့သည်။ ဒိဋ္ဌံ၊ ရန်သူကို။ အတိဝတ္တတိ၊ လွန်နိုင်၏"....

ဟူ၍ ရက္ခိုက်က ဘုရားအလောင်း မျောက်မင်းအား ချီးမွမ်းသည့် ရန်အောင်ကြောင်းတရား သုံးပါးကို ဟောကြားထားသော ဇာတ်ဖြစ်ပါသည်။

ကေနိပါတ်တော်တွင် "အတ္ထဿဒွါရဇာတ်" ဟူ၍ ရှိပါသည်။ အတ္ထဿဒွါရ၏ အဓိပ္ပာယ်မှာ အကျိုးစီးပွားဖြစ်ခြင်း၏ အကြောင်းဟူ၍ဖြစ်ပါသည်။ ဇာတ်တော်မှာ ဘုရားလောင်း သူဌေးအား သားဖြစ်သူက အကျိုးစီးပွားဖြစ်ခြင်း၏ အကြောင်းကိုမေးရာ –

– အနာမရှိသည်ဟု ဆိုအပ်သော မြတ်သောလာဘ်ကို အလိုရှိရာ၏၊
– အကျင့်သီလကိုလည်း အလိုရှိရာ၏၊
– ပညာရှိတို့၏ ဩဝါဒကိုလည်း အလိုရှိရာ၏၊
– အကြားအမြင်ကိုလည်း အလိုရှိရာ၏၊
– သုစရိုက်တရား သုံးပါးကို အစဉ်ကျင့်ခြင်းကိုလည်း အလိုရှိရာ၏။
– မပျင်းမရိသည်အဖြစ်ကိုလည်း အလိုရှိရာ၏။

ဤတရား ခြောက်ပါးသည် အကျိုးစီးပွား ဖြစ်ခြင်း၏ အကြောင်းများ (အတ္ထဿဒွါရ) တည်း။[၂]

ဟု ဟောကြားထားလေသည်။ ထို့ကြောင့် ဇာတ်တော်၏ အမည်ကိုလည်း အတ္ထဿဒွါရဇာတ်ဟု အမည်ပေးခဲ့ခြင်း ဖြစ်လေသည်။

ထိုနည်းတူ ဒုကနိပါတ်တော်လာ "မိတ္တာမိတ္တဇာတ်"၊ ဒွါဒသကနိပါတ်တော်လာ "မိတ္တာမိတ္တဇာတ်" တို့သည် မိတ်ဆွေ၊ ရန်သူတို့၏ အကြောင်းများ၊ မိတ်ဆွေအဖြစ်၊ ရန်သူအဖြစ် သိရာသည့်အကြောင်းများကို ဟောကြားထားသော ဇာတ်တော်များဖြစ်၍ "မိတ္တာမိတ္တဇာတ်" ဟု အမည်ပေးခြင်း ဖြစ်လေသည်။

ထိုကဲ့သို့ ဟောကြားလိုသည့်တရားတော်ကို အမှီပြုပြီး ဇာတ်တော် အမည်များ ပေးထားသည်ကိုလည်း တွေ့ရပါသည်။

## (င) အကြောင်းရင်း ဖြစ်ရာအရပ်ကို အမှီပြု၍ အမည်ပေးခြင်း။

ဇာတ်တော်များကို အမည်များပေးရာတွင် အကြောင်းရင်း ဖြစ်ရာအရပ်ကို အစွဲပြု၍လည်း အမည်ပေးထားကြောင်း တွေ့ရပါသည်။

ကေနိပါတ်တော်လာ "နဠကပါန" ဇာတ်တော်ကို တင်ပြလိုပါသည်။ မြတ်စွာဘုရားသည် ကောသလတိုင်း၌ ဒေသစာရီ ကြွချီတော်မူသောအခါ နဠကပါနရွာသို့ရောက်၍ နဠကပါနရေကန်အနီး ဆပ်သွားတော၌သီတင်းသုံးနေစဉ် ကျူပင်တွင်အခေါင်းမရှိသည်ကို အကြောင်းပြု၍ နဠကပါနဇာတ်တော်ကို ဟောတော်မူလေသည်။ နဠကပါနဇာတ်တော်၏ အတိတ်ဝတ္ထုမှာ ရက္ခိုက်များ စောင့်နေသော ရေကန်မှ ရေများကို ဘုရားအလောင်းနှင့်တကွ အခြံအရံ မျောက် ၈၀,၀၀၀ တို့သည် ကျူရိုးဖြင့် ရေသောက်သောဇာတ် ဖြစ်ပါသည်။ ဘုရားအလောင်း မျောက်မင်း၏ အဓိဋ္ဌာန်ကြောင့် ကျူပင်တွင် အဆစ်များမရှိဘဲ အခေါင်းပေါက်ဖြစ်နေသောဇာတ်တော် ဖြစ်ပါသည်။

ကေနိပါတ်တော်လာ "သာကေတ" ဇာတ်မှာလည်း မြတ်စွာဘုရားသည် သာကေတမြို့တွင် သီတင်းသုံးနေစဉ် တစ်ယောက်သောပုဏ္ဏားကို အကြောင်းပြု၍ ဟောတော်မူသောကြောင့် "သာကေတ" ဟု အမည်ပေးထားခြင်း ဖြစ်လေသည်။

ကေနိပါတ်တော်လာ "တိတ္ထ" ဇာတ်တော်ကို ဆက်လက်တင်ပြပါမည်။ တိတ္ထ၏အဓိပ္ပာယ်မှာ ရေချိုးဆိပ် ဖြစ်ပါသည်။ ဇာတ်တော်၏အကြောင်းရင်းမှာ ဗာရာဏသီပြည် ဗြဟ္မဒတ်မင်း၏ မင်္ဂလာမြင်းရေချိုးရာ ရေချိုးဆိပ်တွင် တစ်ပါးသောမြင်းယုတ်တို့ ရေချိုးကုန်၏။ ထိုရေချိုးဆိပ်တွင် မင်္ဂလာမြင်းကို ရေချိုးခိုင်းရာ မင်္ဂလာမြင်းသည် ရေချိုးမခံသောဇာတ် ဖြစ်ပါသည်။ ထိုဇာတ်တော်တွင် ဘုရားလောင်းသည် ဗြဟ္မဒတ်မင်း၏ ပညာရှိအမတ်ဖြစ်ပြီး မင်္ဂလာမြင်း ရေချိုးဆိပ်တွင် ရေမချိုးသောအကြောင်းရင်းကို ဖော်ထုတ်ပေးသောဇာတ်တော် ဖြစ်ပါသည်။

စတုက္ကနိပါတ်တော်လာ "လောဟကုမ္ဘီဇာတ်"မှာ ဒု၊ သ၊ န၊ သော အသံလေးမျိုး ကြားရသဖြင့် တုန်လှုပ်နေသော ကောသလမင်းကြီး အား လောဟကုမ္ဘီငရဲမှ ငရဲသားများအကြောင်းကို ဟောသောဇာတ် ဖြစ်ပါသည်။ တရားဟောတော်မူရာ အကြောင်းရင်းတို့၏ ဖြစ်ရာအရပ် ကို အမှီပြုပြီး ဇာတ်တော်အမည်ပေးထားခြင်း ဖြစ်ပါသည်။

## ( ၈ ) အသုံးပြုသည့် အရာဝတ္ထုကို အကြောင်းပြု၍ အမည်ပေးခြင်း။

ဧကနိပါတ်တော်တွင် "တေလပတ္တ" ဇာတ် ရှိပါသည်။ တေလပတ္တ ၏ အဓိပ္ပာယ်မှာ "ဆီပြည့်သောခွက်" ဟု အဓိပ္ပာယ်ရပါသည်။ မြတ်စွာ ဘုရားသည် ရဟန်းတို့အား "ဇနပဒကလျာဏီသုတ်" ကို အကြောင်း ပြု၍ ဤဇာတ်ကို ဟောကြားခဲ့ပါသည်။

ဇနပဒကလျာဏီသည် ကောင်းခြင်းငါးပါးနှင့် ပြည့်စုံ၏။ အပြစ် ခြောက်ပါးကင်းစင်၏။ သီဆိုကခုန်ခြင်း၌ ထူးချွန်၏။ ဇနပဒကလျာဏီ ၏အနီးသို့ ဆီပြည့်သောခွက်ကိုကိုင်လျက်သွားစေပြီး ဆီတစ်စက်ကျရာ အရပ်၌ သတ်အံ့ဟု သံလျက်ကို နောက်မှမိုးလျက် လိုက်အံ့။ အသက် မသေလိုသော ယောကျ်ားသည် ဆီခွက်ကို သတိကြီးစွာဖြင့် ကိုင်ရပေ လိမ့်မည်။ ဆီခွက်ကို နှလုံးမသွင်းမိဘဲ မေ့လျော့၍ ဇနပဒကလျာဏီကို ကြည့်မိသော် ဆီဖိတ်သဖြင့် အသက်သေလိမ့်မည်။ ထိုအကြောင်းကို မြတ်စွာဘုရားက —

"ရဟန်းတို့ အတွင်း အနားရစ်နှင့်အမျှ ပြည့်သော ဆီခွက် ဟူသော အမည်သည်ကား 'ကာယဂတာ သတိ' ၏ အမည် တည်း။ ရဟန်းတို့၊ ထို့ကြောင့်လျှင် ဤသာသနာတော်၌ ဤသို့ကျင့်အပ်၏။ ငါတို့အား ကောင်းစွာအားထုတ်အပ်သည် ရှိသော် 'ကာယဂတာသတိ' သည် များလတ္တံ့"

ဟု ရဟန်းများကို ဆုံးမပြီး ကာမဂုဏ်ကို မလိုက်စားသဖြင့် တက္ကသိုလ် ပြည်တွင် မင်းဖြစ်သော ဘုရားအလောင်း၏ အတိတ်ဇာတ်ကို ဟော တော်မူပါသည်။

အတိတ်ဇာတ်မှာ ဘီလူးမများ ဖြားယောင်းမှုကိုမခံဘဲ အလောင်း မင်းသား ရှောင်နိုင်ပုံနှင့် ဘီလူးမများ၏ ဖြားယောင်းမှုကို မရှောင်နိုင် သော တက္ကသိုလ်မင်းက ဘီလူးမကို မိဖုရားမြှောက်မိသဖြင့် နန်းတော် တစ်ခုလုံး ဘီလူးစားခံရသောဇာတ် ဖြစ်ပါသည်။ ဇာတ်တော်၏ နိဂုံး ဂါထာတွင်လည်း —

"အတွင်း အနားရစ်အမျှ ဆီပြည့်သော ဆီခွက်ကို ယောကျ်ားသည်ဆောင်ရာသကဲ့သို့ ထို့အတူ အစမထင် သံသ ရာ၌ မရောက်ဘူးသော နိဗ္ဗာန်ကိုတောင့်တသော ရဟန်းသည် မိမိစိတ်ကို စောင့်ရာ၏"

ဟု ဟောကြားခဲ့ပါသည်။ ဇနပဒကလျာဏီသုတ်သည် ဆီပြည့်သော ခွက်ကို အကြောင်းပြု၍ ဇာတ်တော်ကို အမည်ပေးထားခြင်းဖြစ် ကြောင်း တွေ့ရပါသည်။

ဒုကနိပါတ်တော်လာ "ဝိကဏ္ဏကဇာတ်" သည်လည်း ထို့အတူပင် အသုံးပြုသောပစ္စည်းကိုစွဲ၍ ဇာတ်တော်ကို အမည်ပေးထားပါသည်။ "ဝိကဏ္ဏက" ဟူသည် အရွက်မတပ်သည့်မြားဟု အဓိပ္ပာယ်ရပါသည်။ ဘုရားအလောင်း ဗြဟ္မဒတ်မင်း ငါးများကို အစာကျွေးနေစဉ် ငါးများ ကို လာစားသော မိကျောင်းအား အရွက်မတပ်သည့် မြားဖြင့်ပစ်၍ ဖမ်းသောဇာတ် ဖြစ်ပါသည်။

နဝကနိပါတ်တော်လာ "သမုဂ္ဂဇာတ်" သည်လည်း အသုံးပြုသော အရာဝတ္ထုကို အစွဲပြု အမည်ပေးထားခြင်း ဖြစ်ပါသည်။ သမုဂ္ဂ၏ အဓိပ္ပာယ်မှာ "ကြုတ်" ဖြစ်ပါသည်။ ဒါနဝရက္ခိုက်ဘီလူးက ကြုတ် အတွင်းသို့ ဇနီးကိုထည့်ပြီး အာခံတွင်း၌ ငုံထားသော်လည်း ဇနီးသည် က ကြုတ်အတွင်း၌ ဝိဇ္ဇာဓိုရ်နှင့် ပျော်ပါးသောဇာတ် ဖြစ်လေသည်။ ကြုတ်ကို အစွဲပြုပြီး အမည်ပေးထားသောဇာတ် ဖြစ်ပါသည်။

## (ဆ) ထင်ရှားပြုလိုသည့်အကြောင်းကို ဦးတည်၍ အမည်ပေးခြင်း။

သီလသာမြတ်ကြောင်းထင်ရှားပြသည့် ကေနိပါတ်"သီလဝီမံသက" ဇာတ်တွင်ဘုရားလောင်းပုဏ္ဏားသည်မိမိအား မင်းနှင့်တကွပြည်သူကပါ ကြည်ညိုသည်မှာ အဘယ်ကြောင့်နည်းဟု သိလိုသဖြင့် ပန်း ထိမ်သည်ထံမှ တစ်နေ့လျှင် တစ်သပြာ-ယူလေသည်။ တတိယနေ့တွင် ပန်းထိမ်သည်က မင်းဆရာ ပုဏ္ဏားအား သူခိုးဟုခေါ်၍ ဖမ်းပြီး မင်းထံပို့၏။ မင်းကြီးက မေးသောအခါ ပုဏ္ဏားက "မင်းကြီး၊ ကျွန်ုပ်ကို မြတ်နိုးသည်မှာ သီလကြောင့်ဟု သိရပြီ။ သီလသာ မြတ်၏" ဟု ဆို၏။

ထိုနည်းတူ ကေနိပါတ်တွင် "နာမသိဒ္ဓိဇာတ်" ရှိပါသည်။ အမည်နာမသည် ပြီးစီးခြင်းသို့မရောက်ဟူသော အကြောင်းရပ်ကို ထင်ရှားစေလို၍ ဟောကြားသော ဇာတ်တော်အမည် ဖြစ်ပါသည်။

## (ဇ) ပစ္စုပ္ပန် ဇာတ်ဝတ္ထုကို အကြောင်းပြု၍ အမည်ပေးထားခြင်း။

ဇာတ်တော်များကို အမည်ပေးရာတွင် အတိတ်ဇာတ်ဝတ္ထုများကို အကြောင်းပြု၍ အမည်ပေးခြင်းများပါသည်။ သို့သော် ပစ္စုပ္ပန်ဇာတ်ဝတ္ထုကို အကြောင်းပြု၍ အမည်ပေးထားသော ဇာတ်တော်ကိုလည်း တွေ့ရပါသည်။

တိကနိပါတ်တော်လာ "သုဇာတဇာတ်" မှာ နှုတ်ကြမ်းသူ အနာထပိဏ်သူဌေး၏ ချွေးမဖြစ်သော "သုဇာတ" ကို အကြောင်းပြု၍ ဟောကြားသောဇာတ် ဖြစ်ပါသည်။ အတိတ် ဝတ္ထုမှာ ဘုရားအလောင်း ဗာရာဏသီမင်းသည် နှုတ်ကြမ်းသူ မယ်တော်အား "တိတ္တိတွတ်ငှက်" နှင့် "ဥဩငှက်" ၏အသံကို ဥပမာပြု၍ ဆုံးမသောဇာတ် ဖြစ်ပါသည်။

သို့ရာတွင် ဇာတ်တော်၏ အမည်ကိုပေးရာ၌ ပစ္စုပ္ပန်ဝတ္ထုဖြစ်သော "သုဇာတ" ကို အစွဲပြု၍ "သုဇာတဇာတ်" ဟု အမည်ပေးထားလေသည်။

## (၈) ဟောကြားသော ဂါထာ၏ အစကိုမှီ၍ အမည်ပေးထားခြင်း။

အချို့သော ဇာတ်တော်များသည် ဇာတ်တော်ဂါထာအစပိုဒ်တို့ကို အစွဲပြု၍ အမည်ပေးထားကြောင်း တွေ့ရပါသည်။

ကေနိပါတ်လာ "ပရောသဟဿဇာတ်" မှာ "ပရောသဟဿသမ္ပိ သမာဂတာနံ" ဟူသော ဂါထာ၏ အစကို အမည်ပေးထားခြင်းဖြစ်လေသည်။ ကေနိပါတ်လာ "အသာတရူပဇာတ်" မှာ "အသာတံ သာတရူပေန၊ ပိယရူပေနအပ္ပိယံ" ဟူသော ဂါထာ၏ အစကိုလည်းကောင်း၊ ကေနိပါတ်လာ "ပရောသတဇာတ်" မှာ "ပရောသတံစေပိ သမာဂတာနံ" ဟူသောဂါထာ၏ အစကိုလည်းကောင်း၊ ကေနိပါတ်လာ "အသမ္ပဒါနဇာတ်" မှာ "အသမ္ပဒါနေနိတရီတရဿ" ဟူသော ဂါထာ၏အစကိုလည်းကောင်း၊ ကေနိပါတ်လာ "စန္ဒာဘဇာတ်" မှာ "စန္ဒာဘံ သူရိယာဘဉ္စ၊ ယောဓပညာယ ဂါဓတိ" ဟူသောဂါထာ၏ အစကိုလည်းကောင်း အစွဲပြု၍ ဇာတ်တော်၏ အမည်များ ပေးထားကြောင်း တွေ့ရလေသည်။

## (၂) အမည်တူ ဇာတ်တော်များ။

ငါးရာ့ငါးဆယ်ဇာတ်တော်များတွင် ဇာတ်တော် ၃၉ ဇာတ်သည် အမည်တူ ဇာတ်တော်များဖြစ်ကြောင်း တွေ့ရပါသည်။ နိပါတ်တော် တစ်ခုတည်းတွင် အမည်တူနေသောဇာတ်တော်များ ရှိသကဲ့သို့ နိပါတ်တော်ကွဲပြီး ဇာတ်အမည် တူနေသော ဇာတ်တော်များလည်း ရှိပါသည်။ ဇာတ်အမည်တူများမှာ နှစ်ဇာတ်မှ လေးဇာတ်အထိရှိပါသည်။

ယင်းသို့ အမည်တူဇာတ် သုံးဇာတ်လေးဇာတ်တို့ကို စုပေါင်းလိုက်သော အခါ ဇာတ်တော်အရေအတွက် ၉၀ ရှိကြောင်း တွေ့ရပါသည်။ အမည်တူ ဇာတ်တော်များ၏စာရင်းကို နောက်ဆက်တွဲ "စ" တွင် ဖော်ပြထားပါသည်။ ဇာတ်တော် အမည်တူရခြင်းများကို လေ့လာသော အခါ....

(က) ဇာတ်တော်တူသဖြင့် အမည်တူခြင်း။

(ခ) ဇာတ်တော်မတူဘဲ အမည်တူခြင်း

ဟူ၍ နှစ်မျိုးတွေ့ရလေသည်။

## (က) ဇာတ်တော်တူသဖြင့် အမည်တူခြင်း။

ဇာတ်တော်တူသဖြင့် ဇာတ်တော်အမည်ပါတူရခြင်းမှာ မထူးခြားလှပါ။ ဧကနိပါတ်ဇာတ်တော်စဉ် အမှတ် ၄၆၊ "အာရာမဒူသကဇာတ်" နှင့် တိကနိပါတ်ဇာတ်တော်စဉ် အမှတ် ၂၆၈ "အာရာမဒူသကဇာတ်" တော်များသည် ဇာတ်တော်ချင်းတူနေပါသည်။

ဇာတ်တော်ချင်းတူသည်မှာ ဟောကြားတော်မူသော အတိတ်ဇာတ်ဝတ္ထုချင်း တူနေခြင်းဖြစ်ပါသည်။ ပစ္စုပ္ပန်ဝတ္ထုများမှာ မတူကြချေ။

ဧကနိပါတ်တွင်ပါဝင်သည့် "အာရာမဒူသကဇာတ်" ၏ ပစ္စုပ္ပန်ဝတ္ထုမှာ မြတ်စွာဘုရားသည် ကောသလရွာငယ် တစ်ခုရှိ သူကြွယ်၏ ဥယျာဉ်၌ သီတင်းသုံးနေတော်မူစဉ် ဥယျာဉ်ဖျက်သော သူငယ်ကိုအကြောင်းပြု၍ဟောတော်မူလေ၏။ မြတ်စွာဘုရားနှင့်တကွ ပါလာသောရဟန်းတော်များသည် ဥယျာဉ်ကိုလှည့်လည်ကြသောအခါ သစ်ပင်ကြီးငယ်မရှိသော အရပ်ကိုမြင်၍မေးမြန်းလေ၏။ ထိုအခါ ရွာသားလူငယ်တစ်ယောက်သည် ဥယျာဉ်ပျိုးသောကာလ၌ ရေလောင်းသည်ရှိသော် အမြစ်ကို နုတ်၍ အမြစ်ပမာဏဖြင့် ရေလောင်း၏။ ထိုအကြောင်းကို မြတ်စွာဘုရားသိတော်မူသော် အတိတ်ဇာတ်ကို ဟောတော်မူလေသည်။

အတိတ်ဝတ္ထုမှာ ဗာရာဏသီပြည် ဗြဟ္မဒတ်မင်း၏ ဉယျာဉ်မှူးသည် နက္ခတ်သဘင်ကစားလိုသဖြင့် ဉယျာဉ်တွင်းရှိ မျောက်များကို ဉယျာဉ်ရှိသစ်ပင်များအား ရေလောင်းရန်မှာကြား၍သွား၏။ မျောက်များသည် ဉယျာဉ်အတွင်းရှိ သစ်ပင်များကိုနုတ်၍ အမြစ်၏ပမာဏအလိုက် ရေလောင်းသဖြင့် ဉယျာဉ်ပျက်စီးရလေ၏။

တိကနိပါတ်၊ ပဒုမဝဂ်တွင်ပါဝင်သည့် "အာရာမဒူသကဇာတ်"၏ ပစ္စုပ္ပန်ဝတ္ထုမှာ ဤသို့ဖြစ်ပါသည်။ မြတ်စွာဘုရားသည် ဝါကျွတ်ပြီးသော် ဇေတဝန်ကျောင်းတော်မှထွက်၍ ဒက္ခိဏာဂီရိဇနပုဒ်သို့ ဒေသစာရီကြွလေ၏။ ထိုအခါသီတင်းသည်ယောကျ်ားသည် ဉယျာဉ်တွင်း သီတင်းသုံးရန်ဖိတ်၏။ ထိုဉယျာဉ်တွင်လည်း သစ်ပင်ပြတ်ရာများကို ရဟန်းများမြင်၍ မေးသောအခါ တစ်ယောက်သောဉယျာဉ်စောင့်၏ သားသည် သစ်ပင်များကိုနုတ်၍ အမြစ်ပမာဏအလိုက် ရေလောင်းသဖြင့် သစ်ပင်များသေကြောင်း သိရသဖြင့် ဘုရားရှင်က အတိတ်ဝတ္ထုကို ဟောကြားလေသည်။

အတိတ်ဝတ္ထုမှာ ဗာရာဏသီပြည်၌ ဝိသေသနမည်သောမင်းသည် မင်းပွဲသည်ရှိသော်....အစချီ၍ ဉယျာဉ်မှူးနက္ခတ်ပွဲသွားစဉ် ဉယျာဉ်ကို မျောက်များလက်တွင်အပ်ထားခဲ့သည့်အကြောင်းကို ဟောကြားလေ၏။ ဧကနိပါတ်လာ ဇာတ်တော်အတိုင်းပင် ဖြစ်သည်။ ကွာခြားသည်မှာ ဧကနိပါတ်တွင် ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မင်းအုပ်စိုးစဉ်ဟု ဟောကြားပြီး တိကနိပါတ်တွင် ဗာရာဏသီပြည်၌ ဝိသေသနမင်းအုပ်စိုးသည်ရှိသော်ဟု ဟောကြားခြင်းသာ ကွာခြားပါသည်။

ထိုနည်းတူပင် ဧကနိပါတ်ဇာတ်တော် အမှတ်စဉ် ၄၂ "ကပေါတဇာတ်" နှင့် ပဉ္စကနိပါတ် ဇာတ်တော်အမှတ်စဉ် ၃၇၅ "ကပေါတဇာတ်" သည်လည်းကောင်း၊ နဝကနိပါတ် ဇာတ်တော်အမှတ်စဉ် ၄၃၄ "စက္ကဝါကဇာတ်" နှင့် ဒသကနိပါတ် ဇာတ်တော်အမှတ်စဉ် ၄၅၁ "စက္ကဝါကဇာတ်" တို့သည်လည်းကောင်း၊ ဧကနိပါတ် ဇာတ်တော်အမှတ်စဉ် ၆၀ "သာကေတဇာတ်" နှင့် ဒုကနိပါတ်ဇာတ်တော်အမှတ်စဉ် ၂၃၇ "သာကေတဇာတ်"တော်တို့သည်လည်းကောင်း ဇာတ်တော်

တူသဖြင့် အမည်တူဇာတ်များအဖြစ် ငါးရာ့ငါးဆယ်တွင် ပါဝင်နေပါသည်။ ကွဲပြားမှုရှိသည်တို့မှာ အထက်တွင်တင်ပြခဲ့ပြီးဖြစ်သော "အာရာမဒူသကဇာတ်" တော်ကဲ့သို့ပင် အနည်းငယ်မျှသာ ဖြစ်လေသည်။

## (ခ) ဇာတ်တော်မတူဘဲ အမည်တူခြင်း။

ဇာတ်တော်မတူဘဲ အမည်တူနေသော ဇာတ်တော်များကိုလည်း တွေ့ရပါသည်။ အမည်တူရခြင်းအကြောင်းများကို လေ့လာသောအခါ အောက်ပါအတိုင်းတွေ့ရပါသည်။

**(၁) ဘုရားအလောင်း၏အမည်တူခြင်း ။** ။ ငါးရာ့ငါးဆယ် ဇာတ်တော်များသည် မြတ်စွာဘုရား၏ ဖြစ်တော်စဉ်ဘဝများ ဖြစ်သောကြောင့် ဘုရားလောင်း၏ အမည်ကိုလိုက်၍ မှည့်ခေါ်လေ့ရှိပါသည်။ အမည်တူ ဇာတ်တော်များတွင် ဘုရားအလောင်း၏ အမည်တူနေသဖြင့် ဇာတ်တော်အမည် တူရခြင်းများကိုလည်း တွေ့ရပါသည်။

ဧကနိပါတ်ဇာတ်တော်အမှတ်စဉ် ၂၉ "ကဏှဇာတ်"နှင့် ဒသကနိပါတ်ဇာတ်တော်အမှတ်စဉ် ၄၄၀ "ကဏှဇာတ်" သည်ဘုရားအလောင်း၏ အမည်ကို အကြောင်းပြု၍ မှည့်ခေါ်ခြင်းဖြစ်ပါသည်။ ဧကနိပါတ်တော်လာ ကဏှဇာတ်မှာ ဘုရားအလောင်း နွားလားဥသဘ၏အမည် ကာဠက (ကဏှ) ကို အကြောင်းပြု၍ မှည့်ခေါ်သော ဇာတ်ဖြစ်ပါသည်။ အမယ်အိုက စောင့်ရှောက်ထားသော နွားလားဥသဘက အမယ်အိုကို ပြန်လည်ကျေးဇူးပြုသော ဇာတ်ဖြစ်ပါသည်။ ဒသကနိပါတ်တော်လာ ကဏှဇာတ်မှာ ဘုရားအလောင်း ကဏှရသေ့၏ အမည်ဖြစ်ပါသည်။

**(၂) ဘုရားအလောင်း၏မျိုးနွယ်တူခြင်း။** ။အချို့ဇာတ်တော်များတွင် ဘုရားလောင်း၏အမည်ကို မဖော်ပြဘဲ မျိုးနွယ်၏အမည်ဖြင့်သာ ဇာတ်တော်အမည်ကို မှည့်လေသည်။ ထို့ကြောင့် မျိုးနွယ်တူသော

အခါ ဇာတ်တော်အမည်ပါ တူနေကြောင်း တွေ့ရပါသည်။ "ဝဋ္ဋက ဇာတ်" အမည်ဖြင့် ဧကနိပါတ်တွင် နှစ်ဇာတ်နှင့် ဆက္ကနိပါတ်တွင် တစ်ဇာတ် တွေ့ရပါသည်။ ဝဋ္ဋက၏ အဓိပ္ပာယ်မှာ ငုံးဖြစ်ပါသည်။ ဧကနိပါတ်တော်လာဇာတ်တော်စဉ် အမှတ် ၃၅ လာ ဘုရားအလောင်း ငုံးမှာသစ္စာစကားကြောင့်တောမီးလွတ်သောဇာတ်ဖြစ်ပါသည်။ဇာတ် တော်အမှတ် ၁၁၈ လာရှိသော အလောင်းတော်ငုံးမှာ မုဆိုးလက်ဝယ် အဖမ်းခံရစဉ် အစာမစားဘဲနေသဖြင့် ကြုံလှီနေသောကြောင့် ဝယ်ယူ သူများမဝယ်ဘဲ အသက်ချမ်းသာရာ ရသွားသော ဇာတ်တော်ဖြစ်ပါ သည်။ ဆက္ကနိပါတ်တော်လာ ဘုရားအလောင်းငုံးမှာ ဆီဦးထောပတ် စားပြီး ကြုံလှီနေသောကျီးကို အစားအသောက်တွင် လျှပ်ပေါ်ခြင်း မရှိသဖြင့် ဝဖြိုးနေသော မိမိ၏အဖြစ်ကို တရားဟောတော်မူသော ငုံးမင်းဖြစ်ပါသည်။

မဟာကပိအမည်နှင့် ဇာတ်တော်နှစ်ခုတွေ့ရပါသည်။ သတ္တက နိပါတ်နှင့် တိံသနိပါတ်တို့တွင် ပါဝင်ပါသည်။

သတ္တကနိပါတ် ဇာတ်တော်အမှတ် ၄၀၇ တွင်ပါဝင်သည့် မဟာ ကပိ ဘုရားအလောင်းတော် မျောက်မင်းဇာတ်မှာ သရက်ပင်ပေါ် မှ မျောက်များကို မင်း၏လေးသမားများ လက်မှ ကယ်တင်သော ဇာတ်ဖြစ်ပါသည်။ ဒေဝဒတ်လောင်း မျောက်ကြီးက ဘုရားလောင်း မျောက်မင်း၏ကျောပေါ်သို့ ခုန်ချသဖြင့် ဘုရားလောင်းမျောက်မင်း သေရသောဇာတ်ဖြစ်ပါသည်။

တိံသနိပါတ်တော်လာ ဇာတ်တော်စဉ်အမှတ် ၅၁၆ မဟာကပိ ဘုရားအလောင်းမျောက်မင်းဇာတ်မှာ ချောက်ထဲကျနေသော ပုဏ္ဏား ကို ဘုရားအလောင်းမျောက်မင်းက ထမ်းတင်သောဇာတ်ဖြစ်ပါသည်။ မျောက်မင်း၏ဦးခေါင်းကို ပုဏ္ဏားကခဲဖြင့် ထုသဖြင့် ဘုရားလောင်း မျောက်မင်းသည် သွေးစက်ဖြင့်သမ်းပြပြီး ပုဏ္ဏားအား တောအုပ် တွင်းမှ ကယ်ထုတ်ခဲ့သော ဇာတ်တော်ဖြစ်ပါသည်။ နှစ်ဇာတ်လုံးမှာ ဘုရားအလောင်းသည် မျောက်မင်းဘဝဖြစ်သဖြင့် "မဟာကပိ" ဟု ဇာတ်အမည်တူနေခြင်း ဖြစ်ပါသည်။

ထိုနည်းတူ ဧကနိပါတ် ဇာတ်တော် အမှတ် ၃၆ သကုဏဇာတ်၊ စတုတ္ထနိပါတ် ဇာတ်တော် ၃၀၈ သကုဏဇာတ် တို့တွင် ဘုရားအလောင်းကို ငှက်မင်းအဖြစ်တွေ့ရပါသည်။ ဘုရားအလောင်း လင်းတမင်းအဖြစ် ပါဝင်သောဇာတ်များကို ဂိဇ္ဈဇာတ်အမည်ဖြင့် သုံးဇာတ်တွေ့ရပါသည်။ ဒုကနိပါတ် ဇာတ်တော် ၁၆၄။ သတ္တကနိပါတ် ဇာတ်တော် ၃၉၉ နှင့် နဝကနိပါတ်တော် ၄၂၇ တို့ဖြစ်ကြပါသည်။

**(၃) ဘုရားအလောင်းနှင့်အမည်တူခြင်း။** ။ အချို့ဇာတ်တော်များတွင်ဘုရားလောင်း၏အမည်နှင့် အချို့ဇာတ်တော်တွင်အဓိကကျသော ဇာတ်ဆောင် ပုဂ္ဂိုလ်တို့၏ အမည် တူနေသောကြောင့် ဇာတ်တော်အမည်များ တူနေရကြောင်းလည်း တွေ့ရပါသည်။ သုသိမဇာတ်အမည်ဖြင့် ဒုကနိပါတ် ဇာတ်တော်အမှတ်စဉ် ၁၆၃ နှင့် သတ္တကနိပါတ် ဇာတ်တော်အမှတ်စဉ် ၄၁၁ တို့တွင်တွေ့ရပါသည်။ ဒုကနိပါတ်ဇာတ်တော်မှာ ဗာရာဏသီပြည်မှ သုသိမမင်း လက်ထက် ဘုရားအလောင်း ပုရောဟိတ် ပုဏ္ဏားအကြောင်း ဖြစ်ပါသည်။ ထိုမင်း၏ဆင်ကို မင်္ဂလာပြုပေးရသော ဇာတ်တော်ဖြစ်ပါသည်။ ထိုဇာတ်တွင် ဘုရားအလောင်း၏အမည်ကို မတွေ့ရပါ။ သတ္တကနိပါတ် ဇာတ်တော်မှာ ဘုရားအလောင်းသည် ဗာရာဏသီပြည် ဗြဟ္မဒတ်မင်း၏ ပုရောဟိတ် ဖြစ်ပြီး သုသိမ ဟု အမည်တွင်လေ၏။ ဘုရားလောင်းကို မင်း၏မယ်တော်မြင်၍ တပ်မက်သော ဇာတ်တော်ဖြစ်ပါသည်။

ထို့နည်းတူ "သောမဒတ္တဇာတ်" လည်း နှစ်ဇာတ်ရှိပါသည်။ တစ်ဇာတ်မှာ ဒုကနိပါတ်တွင် ဇာတ်တော်စဉ်အမှတ် ၂၁၁ ၌ပါဝင်ပါသည်။ ဤဇာတ်မှာ ဘုရားအလောင်း "သောမဒတ္တ" လုလင်၏ ဖခင်တွင်နွားတစ်ကောင် သေဆုံးသွားသဖြင့် ဗာရာဏသီပြည် ဗြဟ္မဒတ်မင်းထံ နွားတစ်ကောင်တောင် ခိုင်းသော ဇာတ်ဖြစ်ပါသည်။ ကျန်တစ်ဇာတ်မှာသတ္တကနိပါတ်တွင် ဇာတ်တော်စဉ်အမှတ် ၄၁၀ ၌ ပါဝင်ပါသည်။ ဟိမဝန္တာတော၌နေသော ရသေ့တစ်ပါးမွေးမြူထားသော ဆင်ငယ်တစ်ကောင်၏ အမည်သည် သောမဒတ္တဟု တွင်၏။ ထိုဆင်သေသော

အခါ ရသေ့ကငိုကြွေးသဖြင့် ဘုရားအလောင်းသိကြားမင်းက အဆုံးအမပေးသော ဇာတ်ဖြစ်ပါသည်။

**(၄) အဓိကဇာတ်ဆောင်များကို အကြောင်းပြု၍ အမည်တူခြင်း။**

ဇာတ်တော်များကို အမည်မှည့်ရာတွင် အဓိက ဇာတ်ဆောင်များကို အခွဲပြု၍ အမည်မှည့်သည်များလည်း ရှိပါသည်။ ထိုအဓိကဇာတ်ဆောင်သည် ဘုရားအလောင်းလည်း ဖြစ်နိုင်သည်။ အခြားပုဂ္ဂိုလ်များလည်း ဖြစ်နိုင်လေသည်။ ဇာတ်တော်တွင် ဤကဲ့သို့ အဓိကဇာတ်ဆောင်ကိုစွဲ၍ အမည်မှည့်ခြင်းကြောင့် ဇာတ်တော်အမည်များ တူညီနေခြင်းကိုလည်း တွေ့ရပါသည်။

ကာကအမည်ဖြင့် ဧကနိပါတ်တွင် ဇာတ်တော်နှစ်ဇာတ်တွေ့ရပါသည်။ ဇာတ်တော်အမှတ်စဉ် ၁၄၀ လာ ကာကဇာတ်မှာ ဗာရာဏသီပြည် ဗြဟ္မဒတ်မင်း၏ ဆင် မီးလောင်နာကို ကျီးဆီလိမ်းလျှင် ပျောက်မည်ဟု မင်း၏ပုရောဟိတ်က အကြံပေးသဖြင့် မိမိအမျိုးကျီးများ အန္တရာယ်လွတ်အောင် မင်းအားတရားဟောသော အလောင်းတော်ကျီးမင်း၏ ဇာတ်ဖြစ်ပါသည်။ ဇာတ်တော် ၁၄၆ လာ ကာကဇာတ်မှာ သမုဒ္ဒရာထဲတွင် ကျီးမ ကျ၍သေသဖြင့် ကျီးဖိုသည် ကျီးအပေါင်းနှင့် သမုဒ္ဒရာရေကို ခံတွင်းဖြင့်ယူ၍ ခပ်ထုတ်ပြီး ကျီးမကို သမုဒ္ဒရာမှ ဆယ်သော ကျီးဖိုအကြောင်းဖြစ်ပါသည်။ ထိုဇာတ်တော်တွင် ဘုရားအလောင်းသည် သမုဒ္ဒရာစောင့်နတ်ဖြစ်ပါသည်။

ကစ္ဆပအမည်ဖြင့် ဇာတ်တော်သုံးခု တွေ့ရပါသည်။ ဒုကနိပါတ် ဇာတ်တော်အမှတ်စဉ် ၁၇၈ တွင်ပါဝင်သော ကစ္ဆပဇာတ်မှာ ဘုရားလောင်း အိုးထိန်းသည်နှင့် မိမိဖွားရာအရပ်ကိုခင်၍ သေဆုံးရသော လိပ်ဇာတ်ဖြစ်ပါသည်။ ဘုရားအလောင်းသည် ရေအိုင်မှမြေစိုင်ကိုယူရန် ပေါက်တူးဖြင့်ပေါက်သော် ထိုလိပ်၏ကျောကုန်းကို ပေါက်မိ၍ လိပ်သေဆုံးရသော ဇာတ်ဖြစ်ပါသည်။ ဒုကနိပါတ် ၂၁၅ လာ ကစ္ဆပဇာတ်မှာ စကားများသော လိပ်အကြောင်း ဖြစ်ပါသည်။ တုတ်တစ်ချောင်း၏အလယ်တွင် လိပ်ကိုကိုက်စေ၍ ဟင်္သာနှစ်ကောင်က တုတ်အဖျားတစ်ဖက်စီကို ကိုက်ချီပြီးပျံသန်းသွားစဉ် လိပ်က

စကားပြောသဖြင့် အောက်သို့ကျပြီး သေဆုံးရသော ဇာတ်ဖြစ်ပါသည်။ ဤဇာတ်တွင် ဘုရားအလောင်းသည် ဗာရာဏသီပြည်ဗြဟ္မဒတ်မင်း၏အမတ် ဖြစ် ါသည်။ တိကနိပါတ်ဇာတ်တော် ၂၇၃ လာ ကစ္ဆပဇာတ်မှာ လိပ်၏ခံတွင်းသို့ အင်္ဂါဇာတ်သွင်းမိသဖြင့် လိပ်ကိုက်ခံရသော မျောက်၏ အကြောင်းဇာတ် ဖြစ်ပါသည်။ ဤဇာတ်တွင် ဘုရားအလောင်းသည် ရသေ့ဖြစ်ပါသည်။

ထိုနည်းတူ ငါးကိုအကြောင်းပြုသည့် မစ္ဆဇာတ်တော် အမည်ကိုလည်း ဧကနိပါတ်တွင် ဇာတ်တော်အမှတ်စဉ် ၃၄၊ ၇၅ နှင့် ဒုကနိပါတ် ဇာတ်တော်အမှတ်စဉ် ၂၁၆ တို့တွင် တွေ့ရပါသည်။ မြေခွေးကို အကြောင်းပြုသည့် သိင်္ဂါလဇာတ်များကိုလည်း ဧကနိပါတ်တွင် ဇာတ်တော်အမှတ်စဉ် ၁၁၃၊ ၁၄၂၊ ၁၄၈ နှင့် ဒုကနိပါတ်ဇာတ်တော် ၁၅၂ တို့တွင် အမည်တူများအဖြစ် တွေ့ရပါသည်။

**(၅) အကြောင်းရင်းတရားတူသဖြင့် အမည်တူခြင်း။** ။ဇာတ်တော်များကို ဟောကြားရာတွင် အကြောင်းရင်း တူညီသောအခါ ဇာတ်တော်၏အမည်သည်လည်း တူနေကြောင်း တွေ့ရပါသည်။

စိတ်အနှောင့်အယှက်ဖြစ်ရခြင်းသည် မိမိဆောင်ရွက်ရမြဲအလုပ်ကို ထိခိုက်စေတတ်ကြောင်း (ပျက်ကွက်စေတတ်ကြောင်း) ကို ပြလို၍ အနဘိရတိဇာတ်တော်များကို ဟောကြားခဲ့ပါသည်။ ဇာတ်တော်တစ်ခုမှာ ဧကနိပါတ်ဇာတ်တော်အမှတ် ၆၅ တွင်ပါဝင်ပြီး ကျန်တစ်ခုမှာ ဒုကနိပါတ်ဇာတ်တော်အမှတ် ၁၇၅ တွင် ပါဝင်ပါသည်။

ဧကနိပါတ်တွင်ပါဝင်သော "အနဘိရတိဇာတ်" မှာ မိမိမယား၏ ဖောက်ပြန်သောအဖြစ်ကို သိ၍ စိတ်အနှောင့်အယှက် ဖြစ်နေသော တပည့်သည် ဆရာထံ နှစ်ရက်သုံးရက် မလာရောက်ချေ။ ဆရာကမြစ်သည်လည်းကောင်း၊ ခရီးသည် လည်းကောင်း၊ သေတင်းကုပ်သည်လည်းကောင်း၊ဇရပ်သည်လည်းကောင်း၊ရေအိုးစင်သည်လည်းကောင်း လူအားလုံးနှင့် ဆက်ဆံရဘိသကဲ့သို့ မိန်းမသည် လူအားလုံးနှင့်ဆက်ဆံကုန်၏။ ပညာရှိသည် ထိုမိန်းမတို့ကို အမျက်မထွက်ကုန်ဟူ၍ ဆုံးမသော ဇာတ်ဖြစ်ပါသည်။

ဒုကနိပါတ်တွင်ပါဝင်သော "အနဘိရတိဇာတ်" မှာ အိမ်ထောင်မှုကိစ္စကို ကြံစည်ရ၍ စိတ်အနှောင့်အယှက်ဖြစ်ရသော ပုဏ္ဏားလုလင်၏ အကြောင်းဖြစ်ပါသည်။ စိတ်အနှောင့်အယှက်ဖြစ်သောကြောင့် ပုဏ္ဏားလုလင်သည် ဗေဒင်တို့ကို ကောင်းစွာမရွတ်ဆိုနိုင်ချေ။ ဘုရားအလောင်းဒိသာပါမောက္ခဆရာက စိတ်နောက်ကျုသူအဖို့ ဗေဒင်ပညာသည် မထင်ကုန်။ ကိုယ့်အကျိုးသူ့အကျိုးကိုလည်း မမြင်ပေဟူ၍ ဆုံးမသော ဇာတ်ဖြစ်ပါသည်။

မိတ်ဆွေရန်သူအကြောင်းနှင့် ပတ်သက်၍ မိတ္တာမိတ္တဇာတ်များကို ဟောကြားတော်မူခဲ့ပါသည်။ ယင်းအမည်ဖြင့် ဇာတ်တော်နှစ်ခုတွေ့ရပါသည်။ တစ်ခုမှာ ဒုကနိပါတ်ဇာတ်တော် ၁၉၇ တွင်ပါဝင်ပြီး တစ်ခုမှာ ဒွါဒသကနိပါတ် ဇာတ်တော်အမှတ် ၄၇၃ တွင်ပါဝင်ပါသည်။ ဒုကနိပါတ်တွင်ပါဝင်သောဇာတ်မှာ ဟိမဝန္တာနေရသေ့တစ်ပါးက ဆင်ငယ်ကိုမွေးထားရာ ထိုဆင်ငယ်ကြီးလေသော် မွေးသောရသေ့ကို နင်းသတ်၍ တောထဲသို့ဝင်သွားသဖြင့် ဘုရားအလောင်း ဆရာရသေ့က မိတ်ဆွေ၊ ရန်သူခွဲခြားသိထိုက်သည့်တရားများကို ဟောကြားတော်မူခဲ့ပါသည်။ ဒွါဒသကနိပါတ်တွင်ပါဝင်သောဇာတ်မှာ ဗာရာဏသီပြည် ဗြဟ္မဒတ်မင်း၏ အကျိုးစီးပွားကိုပြုကျင့်သော အမတ်တစ်ဦးကို အခြားအမတ်တို့က ဖျက်ဆီးကြ၏။ ထိုအခါ မင်းက ဘုရားအလောင်းပညာရှိအမတ်အား မိတ်ဆွေနှင့်ရန်သူအဖြစ်ကို မေးသဖြင့် ဘုရားအလောင်းက မိတ်ဆွေ၏လက္ခဏာများနှင့် ရန်သူ၏လက္ခဏာများကို ဟောကြားသောဇာတ်ဖြစ်ပါသည်။

မင်းများကိုဆုံးမရာဖြစ်သည့် ဇာတ်တော်နှစ်ဇာတ်ကို ရာဇောဝါဒဇာတ်အမည်ဖြင့် တွေ့ရလေသည်။ တစ်ဇာတ်မှာ ဒုကနိပါတ် ဇာတ်တော်အမှတ် ၁၅၁ တွင်ပါဝင်ပြီး တစ်ဇာတ်မှာ စတုက္ကနိပါတ် ဇာတ်တော်အမှတ် ၃၃၄ တွင်ပါဝင်လေသည်။ ဒုကနိပါတ်တွင်ပါဝင်သော ဆုံးမခန်းမှာ သီလပို၍မြင့်မြတ်စင်ကြယ်သောမင်းကို အခြားမင်းတို့က အရိုအသေပြု ဦးစားပေးရသည့်အကြောင်း ဟောကြားသောဇာတ်ဖြစ်ပြီး၊ စတုက္ကနိပါတ်တွင်ပါဝင်သောဇာတ်မှာ မင်းများတရားစောင့်ပါက

တောသစ်သီးကြီးငယ်တို့ချိုကုန်၏။ တရားမစောင့်သော အမှုမင်းတို့ဖြစ်ပါက တောသစ်သီးကြီးငယ်အားလုံး အာဟာရမဖြစ်ကုန်၊ မချိုကုန်၊ သြဇာမရှိကုန်ဟူ၍ ဟောကြားသော ဇာတ်ဖြစ်ပါသည်။

**(၆) အကြောင်းရင်းတရားမတူဘဲ အမည်တူနေခြင်း။** ။အကြောင်းရင်းတရားမတူဘဲ အမည်တူနေသော ဇာတ်တော်များကိုလည်း တွေ့ရပါသည်။ ငါးရာ့ငါးဆယ်ဇာတ်တော်များတွင် သုဇာတဇာတ်အမည်ဖြင့် ဇာတ်တော်နှစ်ဇာတ် တွေ့ရပါသည်။ တစ်ဇာတ်မှာ တိကနိပါတ်ဇာတ်တော်အမှတ် ၂၆၉ တွင်ပါဝင်ပြီး တစ်ဇာတ်မှာ ပဥ္စကနိပါတ်ဇာတ်တော်အမှတ် ၃၅၂ တွင် ပါဝင်ပါသည်။

တိကနိပါတ်တွင် ပါဝင်သော "သုဇာတဇာတ်" မှာ အနာထပိဏ်သူဌေး၏ ချွေးမဖြစ်သူ နှုတ်ကြမ်းသော သုဇာတကို အကြောင်းပြု၍ ဟောကြားသောဇာတ်ဖြစ်ပါသည်။ ပစ္စုပ္ပန်ဇာတ်ဝတ္ထုကို အကြောင်းပြု၍ အမည်မှည့်ထားသော ဇာတ်ဖြစ်ပါသည်။ အတိတ်ဇာတ်ဝတ္ထုမှာ ဘုရားအလောင်း ဗာရာဏသီမင်း၏ မယ်တော်သည် နှုတ်ကြမ်းလှန်းသဖြင့် ဘုရားအလောင်းက တီတီတွတ်ငှက်နှင့် ဥသြငှက်၏မြည်သံကို ဥပမာပြု၍ ဆုံးမသောဇာတ်ဖြစ်ပါသည်။

ပဥ္စကနိပါတ်တွင် ပါဝင်သော သုဇာတဇာတ်မှာ ဗာရာဏသီပြည်တွင် သူကြွယ်တစ်ဦး၏သားဘုရားအလောင်းတော် သုဇာတအကြောင်းဖြစ်ပါသည်။ အဘသေသဖြင့် ပူဆွေးနေသူ ဘခင်သူကြွယ်ကို သားသုဇာတက တရားပြသောဇာတ်ဖြစ်ပါသည်။

ပထမသုဇာတ ဇာတ်တော်မှာ ပစ္စုပ္ပန်ဇာတ်ကို အကြောင်းပြု၍ ပေးထားသောအမည်ဖြစ်ပြီး ဒုတိယသုဇာတဇာတ်တော်မှာ အတိတ်ဝတ္ထု ဘုရားအလောင်း၏အမည်ကို အကြောင်းပြု၍ ပေးထားသောအမည်ဖြစ်ပါသည်။

ဇာတ်တော်များ၏ အမည်ပေးထားပုံများကို လေ့လာသောအခါ စိတ်ဝင်စားဖွယ်ကောင်းကြောင်း တွေ့ရပါသည်။ ဇာတ်တော်များကို ရည်ညွှန်းသောအခါ ဇာတ်တော်၏အမည်ကို ရည်ညွှန်းရုံမျှဖြင့် ဆိုချင်သော ဇာတ်တော်ကို တိကျစွာ မသိနိုင်ပေ။ နိပါတ်တော်အမည်

ဇာတ်တော်၏အမည်ကို ရည်ညွှန်းမှသာ ပြည့်စုံနိုင်ပေမည်။ နိပါတ်တော် တစ်ခုတည်းတွင်ပင် ဇာတ်တော်အမည်တူများ ရှိနေသဖြင့် နိပါတ်တော်အမည်၊ ဝဂ်အမည်နှင့်ဇာတ်တော်အမည် ညွှန်းပြနိုင်မှသာ ပိုမိုပြည့်စုံနိုင်ပေသည်။

## (၃) ရောထွေးနိုင်သော ဇာတ်တော်အမည်များ

ဆက်လက်တင်ပြမည့် ဇာတ်တော်အမည်များမှာ အမည်တူဇာတ်တော်များ မဟုတ်သော်လည်း အမည်တူဟုပင် ဆိုနိုင်သကဲ့သို့ အမည်တူ မဟုတ်ဟု ပြောမည်ဆိုလျှင်လည်း ပြောနိုင်ပြန်သည်။ "စူဠ" နှင့် "မဟာ" ဟူသော အသုံးကိုတွဲ၍ အမည် မှည့်ခေါ်ထားသဖြင့် အဖျားဆွတ်၍ခေါ်လျှင် ရောထွေးနိုင်သော ဇာတ်တော်များ ဖြစ်ပါသည်။ ပဒုမဇာတ်တော်ထွင် ပဒုမဇာတ်၊ စူဠပဒုမဇာတ်၊ မဟာပဒုမဇာတ် ဟူ၍ သုံးဇာတ် တွေ့ရရာ ပဒုမဇာတ်ဟု ပြောရုံမျှဖြင့် မည်သည့်ဇာတ်တော်ကို ရည်ညွှန်းလိုကြောင်း မသိလွယ်ချေ။ ဇာတ်သဘင်ကပြကြရာတွင် မဟာပဒုမဇာတ်ဟု အမည်ပေးထားသော ဇာတ်ထုပ်တစ်ထုပ် ရှိပါသည်။ မင်းသမီးရေငတ်သဖြင့် လက်မောင်းသွေးကို ဖောက်တိုက်သော ဇာတ်ဖြစ်ပါသည်။ မင်းသမီးသည် မိမိကြင်ယာတော်မင်းသားကို တောင်ထိပ်မှ တွန်းချပြီး ပေါင်တိုနှင့် ဖောက်ပြားပျော်ပါးသော ဇာတ်ဖြစ်ပါသည်။ ဤဇာတ်၏ငိုချင်းတစ်ပုဒ်တွင် — "မဟာပဒုမမှာလေ၊ ဘဂဝါဆုကိုချွေ၊ သေမှာကိုမကြောက်ခဲ့ပါဘု...."ဟု တွေ့ရပါသည်။ မဟာပဒုမဇာတ်ကို ရည်ညွှန်းကြောင်းတွေ့ရပါသည်။ အမှန်မှာ ဤဇာတ်သည် မဟာပဒုမဇာတ်တော်ကို ကပြခြင်း မဟုတ်ပါ။ ဒုကနိပါတ်တော်လာ စူဠပဒုမဇာတ်သာ ဖြစ်ပါသည်။ ထို့ကြောင့် အလွယ်ရေး အလွယ်ခေါ်လျှင် လွဲမှားသွားနိုင်သော ဇာတ်တော်အမည်များဖြစ်ကြောင်း တွေ့ရပါသည်။

မဟာပဒုမဇာတ်တော်မှာ ဘုရားအလောင်းသည် ဗြဟ္မဒတ်မင်းကြီး၏သား မဟာပဒုမမင်းသားဖြစ်၏။ ဗြဟ္မဒတ်မင်းကြီးသည် ပြည်

စွန့်ရှာဖျား ပုန်ကန်သောအခါ သားတော် မဟာပဒုမမင်းသားအား နေပြည်တော်ကိုအပ်ပြီး စစ်ထွက်သွားလေ၏။ မင်းကြီးပြန်လာသော အခါ သားတော် မဟာပဒုမမင်းသားကို အကြောင်းကြား၏။ မဟာ ပဒုမမင်းသားလည်း နန်းတော်အလုံး မွှမ်းမံပြုပြင်ပြီး မိထွေးတော် မိဖုရားကြီးအားလည်း မင်းကြီးပြန်လာသည့်အကြောင်း ကြားလေ၏။ မိထွေးတော် မိဖုရားကြီးက မဟာပဒုမမင်းသားအား မိမိနှင့်ပျော်ပါး ရန် ဖျားယောင်းလေရာ မင်းသားက ငြင်းဆန်လေ၏။ မိဖုရားလည်း အရှက်ရပြီး ပြဟ္မဒတ်မင်းလာသော် မင်းသားက မိမိအပေါ် နိုင်လို မင်းထက်ကျင့်ရန် ကြိုးစားကြောင်း လျှောက်လေ၏။ မင်းကြီးလည်း ယုံကြည်တော်မူပြီး မဟာပဒုမမင်းသားကိုချောက်တွင်းတွန်းချ၍သတ် လေ၏။ မင်းသားကို နဂါးမင်းကကယ်ပြီး အသက်ချမ်းသာစေ၏။ တစ်နှစ်ကြာသော် မင်းသားသည် ရသေ့ရဟန်းပြုပြီး ခမည်းတော် မင်းကြီးအား တရားဟောသော ဇာတ်တော်ဖြစ်လေသည်။

ဤဇာတ်တော်များကို သိသာနိုင်ရန် စာရင်းပြုစုတင်ပြပါသည်။ ဇာတ်တော်၏အမည်နောက်မှ ကွင်းအတွင်းဖော်ပြထားသော အမှတ် စဉ်များမှာ ဇာတ်တော်၏အမှတ်စဉ်များ ဖြစ်ပါသည်။ (စာမျက်နှာ ၁၁၅ တွင် ကြည့်ရှုပါရန်။)

| စူဠ/မဟာ – မပါ | စူဠ–တွဲသောအမည် | မဟာတွဲသောအမည် |
| --- | --- | --- |
| ပဒုမ (၂၆၁) | စူဠ ပဒုမ (၁၉၃) | မဟာ ပဒုမ (၄၇၂) |
| ဟံသ (၅၀၂) | စူဠ ဟံသ (၅၃၃) | မဟာဟံသ (၅၃၄) |
| ကပိ (၂၁၇၊ ၃၂၇) | — | မဟာကပိ (၃၂၉၊ ၄၁၉) |
| ကဏှ (၆၂၊ ၃၅၄) | — | မဟာကဏှ (၄၆၉) |
| မင်္ဂလ (၈၇) | — | မဟာမင်္ဂလ (၄၅၃) |
| မောရ (၁၅၉) | — | မဟာမောရ (၄၉၁) |
| နာရဒ (၅၄၅) | စူဠ နာရဒ (၄၇၇) | — |
| — | စူဠ ကုဏာလ (၄၆၄) | မဟာကုဏာလ (၅၃၆) |
| — | စူဠ ဇနက (၅၂) | မဟာဇနက (၅၃၉) |
| — | စူဠ ဓမ္မပါလ (၃၅၈) | မဟာဓမ္မပါလ (၄၄၇) |
| — | စူဠ ပလောဘန (၂၆၃) | မဟာပလောဘန (၅၀၇) |
| — | စူဠ သုတသောမ (၅၂၅) | မဟာသုတသောမ (၅၃၇) |
| — | စူဠ သုဝရာဇ (၄၃၀) | မဟာသုဝရာဇ (၄၂၉) |

အခန်း ၇

# ငါးရာ့ငါးဆယ်နှင့် မြန်မာ့ယဉ်ကျေးမှု

မြန်မာ့ယဉ်ကျေးမှုတွင် ငါးရာ့ငါးဆယ်ဇာတ်တော်များ၏ ဩဇာလွှမ်းမိုးမှုများကိုလည်း များစွာတွေ့ရပါသည်။ ဗုဒ္ဓသာသနာ ပြန့်ပွားလာသဖြင့် ဗုဒ္ဓဘာသာအပေါ် သဒ္ဓါထက်သန်မှု ပြင်းထန်လာပြီး အလှူဒါနများ ပြုလုပ်လာကြပါသည်။ ထိုအလှူဒါနများကြောင့် မြန်မာ့ယဉ်ကျေးမှုများလည်း တိုးတက်စည်ပင်လာသည်ဟု ဆိုနိုင်ပါသည်။ မြန်မာစကားပြေအစသည် အလှူဒါန မော်ကွန်း ကျောက်စာများကအစ ဟူ၍ပင် ဆိုရပါမည်။ ပုဂံခေတ်စာပေသည်"ဒါနစာပေ" ပုဂံခေတ်စကားပြေသည် "ဒါနစကားပြေ" ဟုပင် ပြောနိုင်ပါသည်။

ငါးရာ့ငါးဆယ်နှင့် မြန်မာ့ယဉ်ကျေးမှုတွင် စာပေ၊ ပန်းချီ၊ ပန်းတော့နှင့် တေးဂီတတို့မှ တင်ပြပါမည်။

## (၁) စာပေနှင့်ငါးရာ့ငါးဆယ်

စာပေတွင် ကဗျာလင်္ကာနှင့် စကားပြေဟူ၍ နှစ်မျိုးခွဲခြားတင်ပြပါမည်။

မြန်မာကဗျာသည် ပုဂံခေတ်ကပင်စခဲ့သည်ဟု ပညာရှင်များ မိန့်ဆိုကြပါသည်။ "မြကန်သာ" ချီကဗျာ "သိုးကလေ" ချီကဗျာ တို့ကို ပုဂံခေတ်ကဗျာများဟု မိန့်ဆိုကြပါသည်။ ခေတ်ဟောင်းမြန်မာ စာပေခေတ်ကို ပုဂံ၊ ပင်းယ၊ အင်းဝ၊ တောင်ငူ၊ ညောင်ရမ်းနှင့် ကုန်း

ဘောင်ဟု ခေတ်များခွဲကြပါသည်။ ပုဂံ၊ ပင်းယတွင် မြန်မာကဗျာ ပေါ်နေသော်လည်း ဂန္ထဝင်မြန်မာကဗျာကြီးများကို ယင်းခေတ်များ တွင်မတွေ့ရသေးပါ။ ဂန္ထဝင်မြန်မာကဗျာကြီးများကိုအင်းဝခေတ်တွင် တွေ့ရှိရပါသည်။ အင်းဝခေတ်သည် ပျို့ကဗျာစာပေခေတ်ဟု ဆိုရမည် ဖြစ်ပါသည်။ အင်းဝခေတ်ပျို့များအနေနှင့်ပြောပြော၊မြန်မာပျို့စာပေ အနေနှင့်ပင်ပြောပြော ပျို့ဟူ၍လက်ခံထားသော အဖွဲ့အနွဲ့များအနက် အစောဆုံးတွေ့ရသောပျို့မှာ မြန်မာသက္ကရာဇ် ၇၆၄ ခုတွင် ရေးသား ပြီးစီးခဲ့သော ရှင်မဟာရဋ္ဌသာရ၏ "ဘူရိဒတ်လင်္ကာကြီး" ဖြစ်ပါ သည်။ မဟာနိပါတ်တော်ဝင် ဘူရိဒတ္တဇာတကကို လင်္ကာရှည်ကြီး ဖွဲ့ခြင်းဖြစ်ပါသည်။ အပိုဒ်ပေါင်း ၄၄၇ ပိုဒ်ရှိပါသည်။ နဂရခန်း၊ ဥပုသ် ခန်း၊ အိပ်မက်ခန်း၊ အလပ္ပါယ်ခန်း၊ ဗြာဟ္မဏခန်း၊ နဂရပဝေသနခန်း ခြောက်ခန်းခွဲထားပါသည်။ [၁]

ရှင်မဟာရဋ္ဌသာရ ဆရာတော်သည် ဘူရိဒတ်လင်္ကာကြီးကို မရေး မီက ဘူရိဒတ္တဇာတ်ကို ရှေးဆရာတို့ ရေးဖွဲ့ခဲ့ဖူးကြောင်း ဆရာတော် ကိုယ်တိုင် ဘူရိဒတ်ဇာတ်ပေါင်းပျို့၏ အချီးအခန်း၊ အပိုဒ် ၁ တွင်ဤသို့ ရေးခဲ့ပါသည်။

> "ရှေးဆရာတို့၊ နာဂါဓိပတိ၊ ဘူရိဒတ္တ၊ ဇာတ်ဘာဝက၊ အရအမိ၊ မသိဝိုးဝါး၊ အမှားမှားလျှင်၊ စကားရှန့်ထူ၊ စပ်ဆန်း ယူ၍၊ တောင်သူပမာ၊ လူ့ပျူငှာလည်း၊ များစွာမမြေ့၊ မစေ့ မစုံ၊ တခန်းရုံမျှ၊ လုံးခြုံမပြီး၊ မမှီးကျမ်းဂန်၊ မမှန်အရိုး၊ အကျိုး မထင်၊ ပြုသည်မြင်သော်၊ ကြည်လင်သန့်သက်၊ တိမ်ယောင် နက်သား၊ မှိုက်မြက်စင်ကြယ်၊ ရေသဖွယ်တည့်၊ မှတ်လွယ် စေငှာ၊ သိသာစေချင်၊ နားဝင်စေအောင်၊ ထုံးဆောင်ပုံတု၊ ရေးသားထုသို့၊ ရှင်မှု လူမှု၊ နှစ်ပါးရှုလျက်၊ အနု အကြမ်း၊ အစမ်းအစုံ၊ အာဂုံအာဂါ၊ အရာသိသိ၊ လေးပေါ့ညှိ၍၊ ပီတိ ရသာ၊ လင်္ကာချီစိမ့်၊ သည်းတွင်းငြိမ့်မျှ၊ ဆိုစိမ့်သောကြောင်း၊ ငါလည်း ကောင်းလျှင်၊ ခွင့်တောင်းပန်ထွာ၊ ကရုဏာဖြင့်၊ ဥာဏ်ဝါမတုံး၊ ငါ့နှလုံးကို။ ။ရှင်ပြုံးညွှတ်ဇေပြီးသတည်း" [၂]

ရှေးဆရာများ ရေးဖွဲ့သည့်စာသည် ကျမ်းဂန်နှင့် မညီသဖြင့် ဆရာတော်က ဘူရိဒတ်လင်္ကာကို ရေးဖွဲ့ခဲ့ကြောင်း တွေ့ရပါသည်။ ရှေးဆရာတို့ ရေးခဲ့သည့် ဘူရိဒတ္တဇာတ်မှာလည်း ကဗျာပင် ဖြစ်ဟန်ရှိပါသည်။ ဤသို့ဆိုပါက မြန်မာကဗျာရှည်ကြီးများ၏ အစသည် ငါးရာ့ငါးဆယ်မှပင် အစပြုခဲ့ကြောင်း သိသာပါသည်။

ဆရာတော် ရှင်မဟာရဋ္ဌသာရသည် ဘူရိဒတ် လင်္ကာကြီးအပြင် ဘူရိဒတ် ဇာတ်ပေါင်းပျို့ဟူ၍ ပျို့တစ်စောင် ရေးခဲ့သဖြင့် ဘူရိဒတ်ဇာတ်တော်ကိုပင် ပျို့နှစ်စောင်ရေးဖွဲ့ပါသည်။ ဆရာတော်သည် နိပါတ်တော်များမှ ဟတ္ထိပါလဇာတ်ကို ကိုးခန်းပျို့ဟူ၍လည်းကောင်း၊ သံဝရဇာတ်ကို သံဝရပျို့ ဟူ၍လည်းကောင်း ဖွဲ့ခဲ့လေသည်။

အင်းဝခေတ် ဆရာတော် ရှင်အဂ္ဂသမာဓိသည် မဟာနိပါတ်တော်ဝင် သုဝဏ္ဏသာမဇာတ်ကို သုဝဏ္ဏသျှံ သူဌေးခန်းပျို့၊ သုဝဏ္ဏသျှံမြားပစ်ခန်းပျို့၊ သုဝဏ္ဏသျှံ သစ္စာခန်းပျို့ဟူ၍ ပျို့သုံးစောင်၊ နေမိဇာတ်တော်ကို နေမိဂ္ဂလ္လစိုးခန်းပျို့၊ နေမိငရဲခန်းပျို့နှင့် နေမိဘုံခန်းပျို့ဟူ၍ ပျို့သုံးစောင် ဖွဲ့ခဲ့ပါသည်။ နှောင်ခေတ်တွင် ဇာတ်တော်တစ်ခုလျှင် တစ်စောင်ကျသာ ဖွဲ့ကြပါသည်။

အင်းဝခေတ်စာပေကို ဆရာကြီး ဦးဖေမောင်တင်က မြန်မာစာပေသမိုင်း၌ အကဲဖြတ်ရာတွင် —

> "ပိဋကတ်သုံးပုံလာ ကျမ်းဂန် နိပါတ်တော်များမှ ရဟန်းစာဆိုတော်များ ကောင်းနိုးရာရာတို့ကို ထုတ်နုတ် ရေးသားဖွဲ့နွဲ့ကြသော ပျို့၊ မော်ကွန်းတို့သည် အတိုင်းထက်အလွန် ကောင်းပေတော့သည်"၃

ဟူ၍ တင်ပြခဲ့ဖူးပါသည်။ ခေတ်အဆက်ဆက် ဇာတ်တော်များကို ပျို့ကဗျာ ဖွဲ့ခဲ့ရာတွင် မုံရွေးဇေတဝန်ဆရာတော်က နာရဒပျို့နိဂုံးတွင် —

> "ဉာဏ်ရောင်ခြည်လွှတ်၊ ဆရာမြတ်တို့၊ အထွတ်လူလူ၊ နေလပြူသို့၊ တွက်ယူသချာ၊ မရေတွက်ကောင်း၊ များလှရှောင်းပြီ၊ ပျို့ပေါင်းစာစောင်၊ အသစ်ဆောင်သည့်၊ ရာထောင် မကာ၊ အနန္တပင်၊ ဒသမဟာ၊ ဇာတ်ငါးရာလည်း၊ စေ့လှုပါပြီ"၄

ဟူ၍ ပျို့စာစောင်များ အရာအထောင်မက အနန္တပင် ပေါ်ထွန်းခဲ့ချေပြီ။ ငါးရာ့ငါးဆယ် ဇာတ်အစုတို့လည်း စေ့လူအောင်ပင် ပျို့ရေးခဲ့ကြပြီ စသည်ဖြင့် မှတ်ချက်ချခဲ့ပါသည်။ ဇာတ်တော်တစ်ဇာတ်လျှင် ပျို့တစ်စောင် ဖွဲ့သည်ဟု ဆိုသော်လည်း ဇာတ်တော်တစ်ခုကို ပျို့ဆရာ နှစ်ဦး၊ သုံးဦး ရေးဖွဲ့ခဲ့သည်များလည်း တွေ့ရပါသည်။

ဇာတ်တော်ပျို့တစ်စောင်ကို လေ့လာကြည့်လျှင် ဆိုင်ရာဆိုင်ရာနေရာတို့တွင် ဇာတ်တော်လာ ဆုံးမခန်းများ ထည့်သွင်း စပ်ဆိုထားကြောင်း တွေ့ရပါမည်။ မုံရွေး ဇေတဝန်ဆရာတော်၏ ကုသပျို့တွင် ဇာတ်တော်များကို ဆိုင်ရာအခန်းများတွင် ထည့်သွင်းထားကြောင်း တွေ့နိုင်လေသည်။

ပျို့စာပေ၏နိဂုံးဟု ဆိုရမည့်ပျို့မှာ မန်လည်ဆရာတော်၏ မဃဒေဝလင်္ကာကြီး ဖြစ်ပါသည်။ နိပါတ်တော်လာ မဃဒေဝမင်းကြီးအကြောင်း လင်္ကာရေးဖွဲ့ခြင်း ဖြစ်ပါသည်။ ဤလင်္ကာကြီးတွင် ငါးရာ့ငါးဆယ် ဇာတ်တော်များကို ထည့်သွင်း ဆုံးမမှု များစွာ ပါဝင်နေကြောင်း တွေ့ရပါသည်။

စကားပြေကျမ်းများကို ဆက်လက်တင်ပြပါမည်။ အင်းဝခေတ်မှ ကုန်းဘောင်ခေတ်အထိ ရေးသားခဲ့သော စကားပြေ ကျမ်းများမှ သင့်နိုးရာရာတို့ ရွေးချယ်ရာတွင် အထွေထွေသုတစာပေအတွက် ဆရာတော်များ ရေးသားခဲ့သော ကျမ်းများကို တင်ပြပါမည်။ ရှင်မဟာသီလဝံသ၏ ရာဇဝင်ကျော်၊ ဦးကုလား၏ မဟာရာဇဝင်တော်ကြီးကဲ့သို့သော သမိုင်းကျမ်းများ၊ မုံရွေးဆရာတော်၏ သမန္တစက္ခုဒီပနီ၊ ကျီးသဲလေးထပ် ဆရာတော်၏ စွယ်စုံကျော်ထင်ကဲ့သို့သော အမေးအဖြေကျမ်းများတို့ကို တင်ပြရန် မရည်ရွယ်ပါ။ ထိုကျမ်းများသည် ကျမ်းပြုဆရာတော်၏ဆန္ဒအလျောက် ရေးသားပြုစုသည့်ကျမ်း (ဝါ) စေတနာနှိုးဆော်သည့်ကျမ်းများမဟုတ်ဘဲ ဖြစ်ပြီးအကြောင်းများကို မှတ်တမ်းတင်သောကျမ်းများ၊ မေးသော အမေးများကို ဖြေသောကျမ်းများ ဖြစ်သောကြောင့် ဖြစ်ပါသည်။

ညောင်ရမ်းခေတ်တွင် တောင်ဘီလာ ဆရာတော်သည် ယသဝဍ္ဍနကျမ်းကို သာသနာသက္ကရာဇ် ၂၁၆၃ (ကောဇာသက္ကရာဇ် ၉၈၁) တွင် ပြုစုခဲ့ပါသည်။ မြတ်စွာဘုရားသည် ဝေဠုဝန်ကျောင်းတော်၌ သီတင်းသုံးနေစဉ် ကုမ္ဘဃောသက အမည်ရှိ သူဌေးသားကို အကြောင်းပြု၍ ကြီးပွားတိုးတက်ရာအကြောင်းဖြစ်သော တရားခုနစ်ပါးကို ဟောကြားခဲ့ပါသည်။ ဤအကြောင်းတရားခုနစ်ပါးကို အခြေခံပြီး ဆရာတော်က ယသဝဍ္ဍနကျမ်းကို ရေးသားပြုစုခဲ့ပါသည်။

ဤကြီးပွားတိုးတက်ရာသော အကြောင်း ခုနစ်ပါးအနက် လုံ့လဝီရိယရှိခြင်းကို ရှေးဦးစွာဟောပါသည်။ တောင်ဘီလာဆရာတော်က–

"လုံ့လကြီးသော ဘုရားမြတ်စွာသည် ရှေးဦးစွာ အကြင်လုံ့လတရားကို ဟောတော်မူ၏။ ထိုလုံ့လတရား၏ အဖွင့်ကို ငါသည် ဆိုပေလတ္တံ့"[၅]ဟု နိဒါန်းချီပြီး လုံ့လတရား၏ အဖွင့်ကို ရေးသားပါသည်။ ဤသို့ဖွင့်ရာတွင် ဧကနိပါတ်တော်လာ ဝရုဏဇာတ်၊ မိတ္တဝိန္ဒဇာတ်၊ ဝဏ္ဏုပထဇာတ်၊ ဒွါဒသနိပါတ်လာ သမုဒ္ဒဝါဏိဇဇာတ်၊ မဟာနိပါတ်လာ မဟာဇနကဇာတ်တော်တို့ဖြင့် တန်ဆာဆင်ပြီး ဖွင့်ပါသည်။[၆]

ဒုတိယ တရားတော်ဖြစ်သော သတိသမ္ပဇဉ် ရှိခြင်းအကြောင်း ရှင်းပြရာတွင်လည်း တေလပတ္တဇာတ်၊ ဥမ္မာဒန္တီဇာတ်၊ ဂုတ္တိလဇာတ်၊ ဝိဓူရဇာတ်၊ တစသာရဇာတ်၊ သုမင်္ဂလဇာတ်၊ ဒသရထဇာတ်တို့ဖြင့် တန်ဆာဆင်ထားပါသည်။ ထိုနည်းတူ ကျန်တရားတော်များကိုလည်း ဇာတ်တော်များကို ကိုးကား၍ ရှင်းလင်းရေးသား ဖွင့်ဆိုတော်မူထားသည်ကို တွေ့ရပါသည်။[၇]

ဒုတိယ တင်ပြလိုသည့်ကျမ်းမှာ ကန်တော်မင်းကျောင်း မေတ္တာစာနှင့် တောင်တွင်းမင်းကျောင်းအဖြေ ဖြစ်ပါသည်။ ကန်တော်မင်းကျောင်း ဆရာတော်သည် သက္ကရာဇ် ၈၆၃ ခုနှစ်တွင် နန်းတက်တော်မူသော ရွှေနန်းကြော့ရှင်ထံ မေတ္တာစာ ဆက်သွင်းလေသည်။ ထိုမေတ္တာစာပုဒ်ရင်းများကို တောင်တွင်းမင်းကျောင်း ဆရာတော်က ဖြေဆိုခဲ့လေသည်။ တောင်တွင်း မင်းကျောင်း ဆရာတော်သည်

သက္ကရာဇ် ၁၀၉၅ ခုနှစ်တွင် နန်းတက်တော်မူသော ဟံသာဝတီရောက် မင်းတရားလက်ထက်၌ ထင်ရှားသော ဆရာတော် ဖြစ်လေသည်။

တောင်တွင်းမင်းကျောင်း ဆရာတော်သည် မေတ္တာစာ ပုဒ်ရင်းများကို ဖြေဆိုရာတွင် ဆီလျော်ရာ ဇာတ်တော်များဖြင့် ဥပမာပေး ဖြေဆိုခဲ့ကြောင်း တွေ့ရလေသည်။

“ဘုန်းပေါင်းကြက်သရေ” ဟူသော မေတ္တာစာပုဒ်ရင်းကို ဖြေဆို ရာတွင် “ကြက်သရေ” နှင့် ပတ်သက်၍ တိကနိပါတ်တော်လာ သီရိ ဇာတ်ကို ဖွင့်ဆိုရှင်းပြပါသည်။[၈]

“အဆအမှန်” ဟူသောပုဒ်ကိုဖြေဆိုရာတွင် မဟောသဓ၊ ကိံဖလ၊ ဝေဿန္တရာ ဇာတ်တော်များမှ ကောက်နုတ်ချက်များကို လည်း ကောင်း၊[၉] “ယောကျ်ားကိုစေသော် မပြီးနိုင်၊ မိန်းမကိုစေသော် မခံ နိုင်” ကို ဖြေဆိုရာတွင် မုဒုလက္ခဏ၊ သမ္ဘုလဇာတ်တော်များကိုလည်း ကောင်း၊[၁၀] “စကားဆိုထွေ၊ သူလိုဓေ” ဟူသောပုဒ်ကို ဖြေဆိုရာတွင် စတုက္ကနိပါတ်လာ သဗ္ဗမံသလာဘဇာတ်၊ တိကနိပါတ်လာ သုဇာတ ဇာတ်၊ ဧကနိပါတ်လာ နန္ဒိဝိလာသဇာတ်များကို ရွေးသား ဖွင့်ဆိုခဲ့ ကြောင်း တွေ့ရပါသည်။[၁၁]

တတိယ တင်ပြလိုသည့်ကျမ်းမှာ ဇာတ်တော်များ ဝေဝေဆာဆာ ရေးသား ဖော်ပြထားသော ဝရာဘိ သင်္ဃနာထ ဆရာတော်၏ မဏိ ကုဏ္ဍလဝတ္ထု ဖြစ်ပါသည်။ ဤဝတ္ထုကို သက္ကရာဇ် ၉၈၀ ခန့်တွင် ရေးသားပြီးစီးသည်ဟု ခန့်မှန်းကြပါသည်။ အသီတိ နိပါတ်တော်လာ မဟာသုတသောမဇာတ်ကို အခြေခံပြီး ရေးသားထားသောဝတ္ထု ဖြစ်ပါသည်။

မဏိကုဏ္ဍလဝတ္ထုကို အခန်း ၁။ နဂရနိက္ခမနခန်း၊ အခန်း ၂။ ရာဇနယနခန်း၊ အခန်း ၃။ ဓမ္မသဝန ဓမ္မဒေသနာခန်း စသည်ဖြင့် အခန်းကိုးခန်းဖြင့် ဖွဲ့ထားပါသည်။ အချုပ်ဇာတ်လမ်းမှာ လူသား စားသော ပေါရိသာဒမင်းကို စစ်သူကြီး ကာဠဟတ္ထိနှင့် မဟာသုတ သောမမင်းတို့က ဆုံးမသောဇာတ် ဖြစ်ပါသည်။

အခန်း ၁။ နဂရနိက္ခမနခန်းတွင် ပေါရိသာဒမင်းအား ကာဠဟတ္ထိ စစ်သူကြီးက လူသားမစားရန် တရားဟောရာဝယ် ဇာတကပုံများကို ဆောင်၍ ဟောကြားကြောင်း တွေ့ရပါသည်။ ဤအခန်းတွင် ဆရာတော် ရေးသားထားသော ဇာတ်တော်များမှာ သုပတ္တကျီးမင်းဇာတ်၊ စူဠဟံသဇာတ်၊ သုဝဏ္ဏဟံသဇာတ်၊ မဟာဥမင် (မဟောသဓ) ဇာတ်၊ ကာဠယမုဋ္ဌိဇာတ် စသည်တို့ ဖြစ်လေသည်။[၁၂]

ရာဇနယနခန်းတွင်လည်း မဟာသီလဝဇာတ်၊ ကေရာဇဇာတ်၊ ဃဋ္ဌ ပဏ္ဍိတဇာတ်၊ တစသာရဇာတ်၊ သုတနုဇာတ် စသည်ဖြင့် တွေ့ရပါ သည်။[၁၃] ထိုနည်းတူ အခန်းတိုင်းတွင် ဇာတ်တော်ပေါင်းများစွာကို ပြည့်ပြည့်စုံစုံ တင်ပြ၍ လည်းကောင်း၊ အချို့ ဇာတ်တော်များကို ကောက်နုတ်တင်ပြ၍လည်းကောင်း ရေးဖွဲ့ထားပါသည်။

စတုတ္ထ တင်ပြလိုသည့်ကျမ်းမှာ အရှင်စန္ဒလင်္ကာ၏ ဘိုးရာဇာ လျှောက်ထုံးခေါ် မဏိရတနာပုံကျမ်း ဖြစ်ပါသည်။ ဤကျမ်းကို သက္ကရာဇ် ၁၁၄၃ ခုနှစ်တွင် ရေးသားပြုစုပြီးခဲ့ပါသည်။ ကုန်းဘောင် ခေတ် စဉ့်ကူမင်း လက်ထက်တွင် ရေးခဲ့သောကျမ်း ဖြစ်ပါသည်။ လျှောက်ထုံးများကို လျှောက်ထားသူ ဘိုးရာဇာသည် မြန်မာများ အသိများသော ဝန်ဇင်းမင်းရာဇာ ဖြစ်ပါသည်။ ဘိုးရာဇာသည် အင်းဝ ခေတ် မင်းကြီးစွာစော်ကဲ၊ သားတော် ဆင်ဖြူရှင် တရဖျား၊ ညီတော် ပထမမင်းခေါင်ဟူသည့် မင်းသုံးဆက်တိုင် အမှုထမ်းခဲ့သောအမတ်ကြီး ဖြစ်ပါသည်။ သက္ကရာဇ် ၇၇၃ ခုနှစ်တွင် ကွယ်လွန်ခဲ့သည်။ ရှင်စန္ဒ လင်္ကာသည် အမတ်ကြီး ကွယ်လွန်ပြီး နှစ်ပေါင်း ၃၆၀ ကြာမှ ဤလျှောက်ထုံးကို ရေးခဲ့လေသည်။

လျှောက်ထုံးများ၏ သဘောအတိုင်းပင် မင်းမေးသော အမေးများ ကို ဘိုးရာဇာက ပြန်လည်လျှောက်ထားသော လျှောက်ထားချက်များ ဖြစ်လေသည်။ ဘိုးရာဇာသည် ဤအတိုင်း လျှောက်သည်၊ မလျှောက် သည်ကို အတိအကျ မသိနိုင်သော်လည်း ဆရာတော်က ဘိုးရာဇာ၏ လျှောက်ထုံးများကို ဇာတ်တော်များဖြင့် တန်ဆာဆင်၍ ရေးဖွဲ့ခဲ့ သည်ကို တွေ့ရပါသည်။

မဏိရတနာပုံကျမ်း၏ ရေးဖွဲ့ပုံနှစ်ခုကို တင်ပြပါမည်။

မင်းကြီးစွာစော်ကဲ၏ ယောက်ဖတော် သီလဝသည် မိုးညှင်းစား သိုဟ်ဘွားကို နိုင်ပြီးသော် မင်းကြီးထံသို့မဝင်ဘဲ လက်ဆောင်တော်ကို ဆက်လိုက်၏။ ဤအကြောင်းကို မင်းကြီးသည် ဝမ်းမြောက်စွာဖြင့် မင်းရာဇာအား ပြော၏။ မင်းရာဇာက ဤသို့လျှောက်တင်လေသည်။

> "မင်းရာဇာလည်း အရှင်မင်းကြီး ကျေးဇူးလက်ရုံး ပညာရှိသောသူတို့ကိုကား ထိုသူ၏ ကျေးဇူးလက်ရုံး အရည်အသွေးနှင့် အထိုက်အလိုက် မြတ်နိုးချစ်ခင်ခြင်းကိုပြုအပ်လှ၏။ အရှင်မင်းကြီး၊ ပုံဆိုဦးအံ့။ ။ရွှေဟင်္သာညီနောင်တို့သည် ဟိမဝန္တာတောအပြင်၌ ကျက်စားရာဖြစ်သော ဂိဇ္ဈကုဋ္ဌတောင်သို့ ပျံသွားကြရာတွင် တစ်နေ့သ၌ နေရှအမည်ရှိသော ရွှေတောင်ကို မြင်၍ နားကြသည်ရှိသော်...."[၁၄]

အစချီလျက် ဆက္ကနိပါတ် "နေရုဇာတ်" ကို ရေးသားထားပါသည်။ ဤဇာတ်ဆုံးသော်....

> "အရှင်မင်းကြီး၊ တစ်ပုံဆိုဦးအံ့။ ။လွန်လေပြီးသောအခါ ကုရုတိုင်းတွင် ကုရုအမည်ရှိသောမင်းသည် မင်းပြုသည်ရှိသော် ဘုရားအလောင်းတော်လည်း အာရက္ခ အမည်ရှိသော သင်္ဘောဆိပ်၌ သင်္ဘောသူကြီးသားဖြစ်၍ သုပ္ပါဒကဟူသော အမည်ကိုရ၏" ဟု အစချီလျက် ကောဒသနိပါတ် "သုပ္ပါဒကဇာတ်" ကို ရေးသားထားပါသည်။

> "တစ်ပုံဆိုဦးအံ့။ ။ဘုရားအလောင်းတော်သည် ကျေးမင်းအစစ် ဖြစ်တော်မူသောအခါ"[၁၅] ဟု အစချီလျက် နဝကနိပါတ် မဟာသုဝရာဇဇာတ်ကို ရေးဖွဲ့ပါသည်။

ဒုတိယ တင်ပြမည့်အဖွဲ့မှာ တစ်ရံရောအခါ မင်းကြီးမင်းခေါင်သည် ရခိုင်ပြည်ကို စစ်ကစားလိုသောကြောင့် မင်းရာဇာကို ခေါ်တော်မူ၍ အလိုနည်းခြင်းသည် ကောင်းမကောင်းကို မေး၏။ မင်းရာဇာက —

"အရှင်မင်းကြီး၊ အခိုက်အတန့်သာလျှင်ကောင်း၏။ အရှင့်သား၊ ရဟန်း သူတော် ဖြစ်လျက် အလိုကြီးလျှင်လည်း မကောင်း၊ ရေမြေရှင်မင်းဖြစ်လျက် အလိုနည်းလျှင်လည်း ပျက်စီးအံ့သောအကြောင်းတည်း" ဟု အစချီလျက် မူးမတ်၊ ရဲမက်၊ ပညာရှိသူများသည် အကျပ်အတည်း ကြုံသောအခါ ပညာ အရေးဖြင့် လွတ်မြောက်အောင်ကြံကြရပုံများကို ပုံဆောင်၍လျှောက်ထားလေ၏။

"ဘုရားအလောင်း မျောက်မင်း ဖြစ်တော်မူသောအခါ အရံငါးရာနှင့်တကွ ဟိမဝန္တာတောတွင် နေတော်မူသည်" အစချီလျက် ဒုကနိပါတ်လာ တိန္ဒုကဇာတ်။

"ဘုရားမြတ်စွာ အလောင်းတော်သည် ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မင်း၏သား ပဥ္စာဝုဓမင်းသား ဖြစ်သောအခါ" အစချီလျက် ဧကနိပါတ်လာ ပဥ္စဝုဓဇာတ်။

"မိမိတို့ ဘေးရောက်သောအခါ အဟိတ်တိရစ္ဆာန်ပင်ဖြစ်သော်လည်း သေဘေးမှ လွတ်အောင် ကြံဖူးလေ၏။ ကြံဖူးကြောင်းကား။ ။ဘုရား မြတ်စွာ အလောင်းတော်သည် မျောက်မင်း ဖြစ်တော်မူသောအခါ ဂင်္ဂါမြစ်သို့ ရေသောက်မည် ဆင်း၍"[၁၆] ဟု အစချီလျက် စတုက္က နိပါတ်လာ ဝါနရဇာတ်တို့ဖြင့် ရေးသားခဲ့လေသည်။

မင်းရာဇာ၏ လျှောက်ထုံးတိုင်းကို အထက်ဖော်ပြပါ ပုံစံအတိုင်း ဇာတ်တော်များ၊ ရာဇဝင်များဖြင့် ဝေဝေဆာဆာ ရေးဖွဲ့ခဲ့လေသည်။

စကားပြေကျမ်းများအဖြစ် နောက်ဆုံးတင်ပြလိုသည့် ကျမ်းမှာ မုံရွေး ဇေတဝန် ဆရာတော်၏ ရာဇောဝါဒကျမ်း ဖြစ်ပါသည်။ ဆရာတော်သည် ဘကြီးတော်မင်းတရားထံသို့ –

"ဣန္ဒဝဇီရာဘိလင်္ကာ သိရိမဇ မဟာဓမ္မရာဇာဓိ ရာဇဂုရု တံဆိပ်တော်ခံ" အစချီသောမေတ္တာစာတစ်စောင်ကိုဆက်သွင်းခဲ့လေသည်။

ဤမေတ္တာစာ၏အဖွင့်ကို ဆရာတော်ကိုယ်တိုင်ရေးခဲ့ပါသည်။ ယင်းအဖွင့်ကျမ်းသည် ရာဇောဝါဒ ကျမ်းဟူ၍ ကုန်းဘောင်ခေတ်တွင် ထင်ရှားခဲ့သော ကျမ်းတစ်ဆူဖြစ်ပါသည်။ ရာဇောဝါဒကျမ်းတစ်စောင်လုံးသည် ဇာတ်တော်များဖြင့် ဝေဝေဆာဆာ ရေးသားထားသောကျမ်းဖြစ်ပါသည်။ မေတ္တာစာမူရင်းကပင်လျှင် ဇာတ်တော်များကိုအနှစ်ချုပ်သွင်း၍ ဆိုးမထားသော မေတ္တာစာဖြစ်သဖြင့် ယင်းအဖွင့်ကျမ်းသည် ဇာတ်တော်အချုပ် ကျမ်းကဲ့သို့ ဖြစ်နေပေသည်။

"သိန်းမ၊ သိန်းဖို၊ ဝန်လိုရေလိပ်တို့၊ ရန်နှိပ်သော ခြသေ့်မင်းနှင့် တသီး" ဟူသော မေတ္တာစာပုဒ်ရင်းကို ဆရာတော်က ဖြေဆိုပေးပါသည်။ ဆရာတော်၏ အဖြေနိဂုံးတွင် —

"သိန်းလင်မယားလည်း ယခု ဒါယကာ လင်မယား၊ လိပ်ငယ်လည်း ရာဟုလာ၊ အဘလည်း မောဂ္ဂလာန်၊ ဝန်လိုလည်း သာရိပုတြာ၊ ခြသေ့်မင်းလည်း ငါဘုရားဖြစ်၏ဟု ဇာတ်တော်ကိုပေါင်းခြင်းနှင့် ပြည့်စုံသော မဟာဥက္ကုသဇာတ်၌ လာသော ထုံးကဲ့သို့" ဟူ၍ ထည့်သွင်းထားပါသည်။ [၁၇]

"လိပ်ကြီးကမ္ဘာ၊ ခေါက်ရှာသမင်" ဟူသောပုဒ်ကိုလည်း ပြည့်ပြည့်စုံစုံ ဖြေဆိုတော်မူပြီးနောက် အဖြေ၏ နိဂုံးကို....

"မုဆိုးသည် ဒေဝဒတ်၊ ခေါက်ရှာငှက်သည် သာရိပုတြာ၊ လိပ်သည် မောဂ္ဂလာန်၊ ဆတ်မင်းသည် ငါဘုရားဖြစ်၏ဟု ဇာတ်တော်ကိုပေါင်းခြင်းနှင့် ပြည့်စုံသော ကုရုင်္ဂမိဂရာဇဇာတ်၌ လာသော ထုံးကဲ့သို့"[၁၈] ဟူ၍ ထည့်သွင်း ရေးဖွဲ့ထားပါသည်။

"ကျီးယင်ငှက်ဘား" ဟူသောပုဒ်ကိုလည်း ဖြေဆိုပြီး ဤသို့နိဂုံးချုပ်ထားပါသည်။

"တစီးသောဆင်ကား ဒေဝဒတ်။ ဆင်မင်းကား ငါဘုရားဖြစ်လာ၏ဟု ဇာတ်ကို ပေါင်းပြအပ်သော လဋုကိကဇာတ်၌ လာသော ထုံးကဲ့သို့ ဟူလိုသည်"[၁၉]

ဤမျှကြည့်ခြင်းဖြင့် ရာဇဝင်ဒါကျမ်းတွင် ဇာတ်တော်များပါဝင်နေမှုကို ခန့်မှန်းနိုင်လောက်ပေသည်။

ထို့ကြောင့် မြန်မာစာပေသမိုင်းရှိ စကားပြေကျမ်းများ တွင်လည်း ဇာတ်တော်များကို အလေးအမြတ် ထည့်သွင်း ရေးဖွဲ့ကြကြောင်း သိနိုင်လေသည်။ အချုပ်ဆိုရလျှင်အင်းဝခေတ်မှကုန်းဘောင်ခေတ်တိုင် ရေးဖွဲ့ခဲ့သော စကားပြေကျမ်းများအနက် ရှင်လူအများလိုက်နာကြရန် တိုက်တွန်းရေးသားထားသော ကျမ်းများတွင် ဇာတ်တော်များဖြင့် ဝေဝေဆာဆာရှိနေကြောင်း တွေ့ရပါသည်၊ သို့ကြောင့် ဇာတ်တော်နှင့်မြန်မာ့ဓလေ့ ဆိုးမချက်များကို ခွဲခြား၍မရနိုင်ကြောင်း တွေ့ရသည်။

## (၂) ပြဇာတ်နှင့် ငါးရာ့ငါးဆယ်

မြန်မာစာပေလောကတွင် ပြဇာတ်ဟူသောအဖွဲ့တစ်မျိုး ရှိလေသည်။ ပြဇာတ်စာပေ၏ အရှိန်အဟုန်အင်အားသည် တစ်ချိန်က ကြီးမားကျယ်ပြန့်ခဲ့သည်။ ပြဇာတ်နှင့်ပြဇာတ်စာပေများသည် ပညာရှင်များလက်ထဲတွင်သာမက ပြည်သူလူထု၏လက်ထဲအထိ ရောက်ခဲ့သည်။ ပြည်သူနှင့်အရင်းနှီးဆုံးစာပေကို ပြပါဟုဆိုလျှင် ပြဇာတ်စာပေကို မဆိုင်းမတွ ပြမိပေလိမ့်မည်။ ယနေ့ကာလတွင် ပြဇာတ်စာပေ မှေးမှိန်နေသော်လည်း တစ်ချိန်က စည်ပင်ဝေဆာခဲ့သည်။ ပြဇာတ်စာပေ၏ ခရီးလမ်းအစကို ပညာရှင်များ စူးစမ်းခဲ့ကြသည်။ ပုဂံခေတ်၊ အင်းဝခေတ်ကာလတို့တွင် ဇာတ်လမ်းဇာတ်ကွက်နှင့် ကခဲ့ခြင်းရှိမရှိကို မခန့်မှန်းနိုင်ကြသေးချေ။ ညောင်ရမ်းခေတ်တွင် ဝန်ကြီးပဒေသရာဇာ၏ မဏိကက်ပြဇာတ်ဟူ၍ ပေါ်လာပြီးနောက် ပြဇာတ်များ အဆက်မပြတ်ပေါ်ထွက်လာခဲ့သည်။

မြန်မာပြဇာတ်စာပေ၏ သမိုင်းကိုတင်ပြကြရာတွင် ဒေါက်တာထင်အောင်က မြန်မာပြဇာတ်ခေတ်ကိုခြောက်ပိုင်းခွဲခြားထားပါသည်။ ယင်းခေတ်ခြောက်ပိုင်းမှာ....

(၁) နိပါတ်ခင်းကာလ (အေဒီ ၁၅၃၁ မှ အေဒီ ၁၇၅၂ အထိ)
(၂) အေဒီ ၁၇၅၂ မှ အေဒီ ၁၈၁၉ ကြားကာလ ပြဇာတ်ခေတ်။
(၃) ဦးကြင်ဥ(အေဒီ ၁၈၁၉ မှ အေဒီ ၁၈၅၃ အထိ)ခေတ်။
(၄) ဦးပုည(အေဒီ ၁၈၅၃ မှ အေဒီ ၁၈၇၈ အထိ) ခေတ်။
(၅) အေဒီ ၁၈၇၈ မှ အေဒီ ၁၈၈၆ အထိခေတ်နှင့်
(၆) အေဒီ ၁၈၈၆ အထိ နှောင်းခေတ် [၂၀]

ဟူ၍ ဖြစ်ပါသည်။ ဤခြောက်ခေတ်ကို ကြည့်လျှင် မြန်မာပြဇာတ်များ၏ လမ်းစသည် နိပါတ်ခင်းပွဲမှ စခဲ့ကြောင်းတွေ့ရပါသည်။

နိပါတ်ခင်းပွဲနှင့်ပတ်သက်၍ ဦးမင်းနိုင်က ပြည်ထောင်စု အကပဒေသာစာအုပ်တွင် "နိပါတ်ခင်းပွဲသည် ရှေးကျသော ပြဇာတ်ပုံသဏ္ဌာန် ရှိသည်။ နိပါတ်ခင်းပွဲ၏သဘောမှာ ငါးရာ့ငါးဆယ်၊ ဇာတ်ကြီးဆယ်ဘွဲ့တို့မှ ဇာတ်လမ်းဇာတ်ကွက်တစ်ခုခုကို ထုတ်နုတ်၍ သရုပ်ဆောင် ကပြခြင်း ဖြစ်သည်"[၂၁] ဟူ၍ ဖော်ပြထားပါသည်။

ဦးသိန်းဖေမြင့်က သူတို့ငယ်စဉ်က ပွဲကြည့်ရပုံများအကြောင်းကို ဤသို့ ဖော်ပြဖူးပါသည်။

> "ကျွန်တော်တို့ငယ်စဉ်အခါက ရပ်ကွက်တွင် ဘုရားပွဲရှိလျှင် အမေလုပ်သူက မုန့်ဆီကြော်၊ ငါးပေါင်းကြော်တို့ကို ကြော်ကြပါသည်။ ကျွန်တော်တို့က အိမ်နားနီးချင်းများကို လိုက်ပြီး ဝေငှရပါသည်။ (ဘုရားတင်ရန်နှင့် သဃ်ာတော်များ လှူဒါန်းရန် ချန်ထားပြီးမှ ဝေငှရပါသည်။) မုန့်ဝေနေစဉ်တွင် လှည်းဇာတ်ကိုလည်း ကြည့်ရပါသည်။ လှည်းဇာတ်ဆိုသည်မှာ လှည်းတစ်စီး ဇာတ်တစ်ခန်း ကရသည့် ဇာတ်ဖြစ်ပါသည်။ လှည်းလေးငါးစီးနှင့် ဇာတ်ထုပ် တစ်ထုပ်ဖြစ်သွားပါသည်။ ပုဂံဘုရားများတွင် စဥ့်ကွင်းတစ်ကွင်း ဇာတ်ခန်းတစ်ခန်းဖွဲ့ပြီး လေးငါးခြောက်ကွင်းဖြင့် ဇာတ်ထုပ်တစ်

ထုပ် ခင်းခဲ့သည့် အစဉ်အလာသည် လှည်းပေါ်သို့ တက်လာခြင်း ဖြစ်ဟန်တူပါသည်"[၂၂]

ဆရာဦးသိန်းဖေမြင့် ကြည့်ရသော လှည်းဇာတ်မှာ နိပါတ်ခင်းဇာတ်သဘောပင် ဖြစ်ပါသည်။ ဆရာဦးသိန်းဖေမြင့်က အထက်ပါအကြောင်း တင်ပြသည့်အချိန် (၁၉၇၀ ပြည့်နှစ်) တွင် ဆရာတို့၏ ရွာ၌ ဤလှည်းဇာတ်များမရှိတော့ဟု ဆိုပါသည်။ ရှေးဟောင်းသုတေသန ညွှန်ကြားရေးဝန်၏ ၁၉၅၈–၅၉ ခုနှစ်၊ နှစ်ချုပ်အစီရင်ခံစာတွင် ရှေးဟောင်းစာပေနှင့် ယဉ်ကျေးမှု(တိုင်းရင်းသား)ဌာနအတွက် အစီရင် ခံထားသည်များအနက် နိပါတ်ခင်းပွဲနှင့်ပတ်သက်၍ ဤသို့အစီရင်ခံထားပါသည်။

"ထိုနှစ်ဒုတိယပိုင်းတွင် ပြည်ခရိုင်ကျေးလက်ဒေသများသို့ သွားရောက်လှည့်လည်၍ မြန်မာတို့၏ရှေးရိုးစဉ်လာ ပွဲသဘင်တစ်ရပ်ဖြစ်သည့် နိပါတ်ခင်းခေါ် နိပါတ်တော်လာအကြောင်းအရာတို့အား သရုပ်ဖော်ကပြသည့် အကအခုန်များကို ဓာတ်ပုံရိုက်ကူး မှတ်တမ်းတင်ခဲ့ပါသည်။ ၎င်း နိပါတ်ခင်းမှာ ပြည်ခရိုင်နှင့် ပခုက္ကူတို့တွင်သာ ကြွင်းကျန်လျက်ရှိတော့သည့် ရှေးဟောင်းအကအခုန်တစ်မျိုး ဖြစ်ပါသည်။"[၂၃]

ဤဖော်ပြချက်များကို ထောက်၍ ငါးရာ့ငါးဆယ်သည် မြန်မာပြဇာတ်စာပေနှင့် မြန်မာဇာတ်သဘင်၏ တိုးတက်ဖွံ့ဖြိုးမှုအတွက် အရေးပါခဲ့ကြောင်း တွေ့ရပါသည်။

ညောင်ရမ်းမင်းတရား သမီးတော်ကို ဆံထုံးထုံး နားထွင်းမင်္ဂလာဆောင်တော်မူသောအခါ အမိန့်တစ်ခု ထုတ်ပြန်ခဲ့ပါသည်။ ထိုအမိန့်တွင်....

"သမီးတော် ပန်ထွာမင်းသမီး ဆံထုံးထုံး၊ နားထွင်းမင်္ဂလာဆောင်မည်။ ရွှေတော်ပြေးမှူးနှင့် လူဦးရေ ၉၀၊ မိန်းမစည်၊ မိန်းမစောင်း၊ မိန်းမညင်းအစုံ ကိန္နရာဇာတ်၊ မနော်ဇာတ်၊ ဝိဓူရဇာတ်၊ ကုမ္မာဘယဇာတ်၊ အန္တရဒေဝီဇာတ်များကိုလည်း စာရင်းနှင့်တင်၍ အသင့်ရှိစေ"[၂၄] ဟူ၍ တွေ့ရပါသည်။ ဤ

အမိန့်တော်ပါ ပြဇာတ်များကို စာရင်းမျှသာ တွေ့ရပါသည်။ ထိုဇာတ်စာရင်းအရကြည့်လျှင် ဝိဓူရဇာတ်သည် မဟာနိပါတ်လာ ဝိဓူရဇာတကကိုဖွဲ့ထားသော ဇာတ်ဖြစ်ကြောင်း သေချာပါသည်။ ကိန္နရဇာတ်ကိုကား မပြောသာပါ။ ငါးရာ့ငါးဆယ်တွင်လည်း ကိန္နရ ပါဝင်သောဇာတ်တော်များရှိသည်။ ဇင်းမယ်ပဏ္ဏာသ ကျမ်းများတွင်လည်း ကိန္နရပါဝင်သော ဇာတ်ရှိသေးသည်။ သို့ရာတွင်ဇင်းမယ်ပဏ္ဏာသလာ ကိန္နရပါဝင်သည့် မနော်ဇာတ်ဟူသည့် စာရင်းကို တွေ့ရသဖြင့် အမိန့်တော်တွင်ပါသော ကိန္နရာဇာတ်သည် ငါးရာ့ငါးဆယ်လာ ကိန္နရဇာတ်တစ်ခုခု ဖြစ်နိုင်ဖွယ်ရှိလေသည်။ မည်သည့်ဇာတ်တော်ဟု မခန့်မှန်းသာချေ။ ကုမ္မာသဇာတ်ကား ဇင်းမယ်ပဏ္ဏာသကျမ်းလာ ဇတ်ဖြစ်သည်။ မည်သို့ဆိုစေ မြန်မာပြဇာတ်သမိုင်းဦးခေတ်မှ ပြဇာတ်များတွင် နိပါတ်တော်လာဇာတ်တော်များကို ပြဇာတ်ရေးဖွဲ့နေကြပြီဖြစ်ကြောင်း တွေ့ရပါသည်။

ဦးကြင်ဥလက်ထက်တွင် နိပါတ်တော်ထွက် ပြဇာတ်များအဖြစ် မဟော်ဇာတ်–၁ (အမရာဒေဝီနှင့် လက်ထပ်ခန်း)၊ မဟော်ဇာတ်–၂၊ (ဥမင်ခန်း) နှင့် ဝေဿန္တရာဇာတ်များကို တွေ့ရပါသည်။ ဦးပုညကလည်း ကုသဇာတ်၊ ဂင်္ဂမာလ (ရေသည်) ပြဇာတ်၊ စူဠပဒုမပြဇာတ်၊ မဟော်ဇာတ်၊ ဝေဿန္တရာ ပြဇာတ်များကို ရေးခဲ့ပါသည်။ နှောင်းခေတ်တွင် ငါးရာ့ငါးဆယ်ဇာတ်တော်များကို ပြဇာတ်များရေးခဲ့သည်ကို ဆက်လက်တွေ့ရှိရပါသည်။

ဗြိတိသျှခေတ် ပုံနှိပ်စက်များ ပေါ်ပေါက်လာချိန်တွင် ပြဇာတ်စာပေများ တွင်ကျယ်ခဲ့ကြောင်း မှတ်တမ်းများအရ သိရပါသည်။ ထိုခေတ်တွင် တွေ့ရသော ပြဇာတ်များမှာ ကပြရန်ထက် ဖတ်ရန်ရည်စူး၍ ရေးသားကြခြင်း၊ တစ်ဦးနှင့်တစ်ဦး အပြိုင်ရေးသားကြခြင်းတို့ကြောင့် ဇာတ်လမ်းများ အဆန်းတကျယ် ရေးသားလာကြသဖြင့် ငါးရာ့ငါးဆယ်ဇာတ်တော်များထက် ထိုးဇာတ်ဟုခေါ်သည့် စိတ်ကူးဇာတ်လမ်းများဖြင့် ရေးသားလာကြသည်ကို တွေ့ရပါသည်။

မြန်မာ့သဘင်လောကတွင် နိပါတ်တော်လာ ပြဇာတ်များကို စင်တင် ကပြသည်ဟုဆိုရာတွင် အမြင့်သဘင်ခေါ် ရုပ်သေးသဘင်တွင်သာ ကပြကြခြင်းဖြစ်သည်။ လူပုဂ္ဂိုလ်များအနေဖြင့် မကပြဝံ့ကြသေးချေ။ နိပါတ်တော်များကို လူပုဂ္ဂိုလ်များဖြင့် ကပြရာတွင် ဦးဘိုးစိန်ကြီးကတီထွင်ခဲ့ကြောင်း မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီမှထုတ်ဝေသည့် မြန်မာ့ဇာတ်သဘင်တစ်ခေတ်ပြောင်းလဲရေးတွင်ဖော်ပြထားပါသည်။[၂၅] ဦးဘိုးစိန်က မိမိ၏သဘင်ပညာ တီထွင်မှုအကြောင်းကို ၁၉၃၃ ခု ဧပြီလ သင်္ကြန်အထူးထုတ်မြန်မာ့အလင်းသတင်းစာတွင် ရေးသားခဲ့လေသည်။ ဤဆောင်းပါးတွင် ဦးဘိုးစိန်ကိုယ်တိုင်က ဤသို့ရေးသားခဲ့ပါသည်။

"ရှေးမင်းသားများသည် ဇာတ်ကြီး ၁၀ ဘွဲ့၊ ၅၅၀ တို့ကို မကပြသဖြင့် ဘုရားဟောဇာတ်များသည် ရဟန်းတော်များထံ၌သာတည်ရှိကြောင်း သိရလေသည်။ သို့အတွက် ဘုရားဟောဇာတ်များကို ရဟန်းတော်များထံသို့ သွားရောက် နာကြားရသည်ဖြစ်ရာ တရားနာသွားသူများလည်း အများအားဖြင့် လောကကို ငြီးငွေ့သူများ ဖြစ်သည့်အတွက် ထိုကဲ့သို့ ငြီးငွေ့သူများ အလွန်နည်းပါးပြီးလျှင် ဇာတ်၊ ရုပ်သေး၊ ပွဲသဘင်တို့ဖြင့် ခင်မင်ပျော်ရွှင်လျက်ရှိသောသူများက အလွန်များပြားလျက်ရှိကြောင်း သိရလေသည်။

သို့အတွက်ကြောင့် ဤသို့သော အကြောင်းကို စဉ်းစားမိသဖြင့် ထိုကဲ့သို့ များပြားသောသူများအား အဆိုမှအကောင်းတွက်ကာ တရားသံဝေဂ ရနိုင်သလောက်ရနိုင်စေရန် ရည်ရွယ်ပြီးလျှင် ကျွန်တော်ကိုယ်တိုင် ဆရာတော်၊ သံဃာတော်များကို လျှောက်ထားတိုင်ပင်၍ ၅၅၀ နိပါတ်တော်နှင့် ဇာတ်ကြီး ၁၀ ဘွဲ့တို့ကို သရုပ်ပေါ်လွင်အောင် ကပြအသုံးတော်ခံခဲ့ပါကြောင်း"[၂၆]

ဤအစဉ်အလာမှစ၍ ယနေ့ဇာတ်သဘင်များတွင် ငါးရာ့ငါးဆယ်ဇာတ်တော်များကို ကပြနေကြလေသည်။ အချုပ်ဆိုရသော် မြန်မာ

ပြဇာတ်စာပေနှင့် မြန်မာ့ဇာတ်သဘင်လောက တိုးတက်ဖွံ့ဖြိုးလာမှုတွင် ငါးရာ့ငါးဆယ်ဇာတ်တော်များသည် များစွာအရေးပါခဲ့ကြောင်း တွေ့ရလေသည်။

## (၃) တေးဂီတနှင့် ငါးရာ့ငါးဆယ်

မြန်မာနိုင်ငံသား အများစုသည် ဗုဒ္ဓဘာသာကို ယုံကြည်ကိုးကွယ်ကြသူများ ဖြစ်ကြသည်။ ဗုဒ္ဓဘာသာဝင်များအဖို့ ဗုဒ္ဓ၏ အဆုံးအမများကို အထူးလေးစား လိုက်နာကြသည်။ ဗုဒ္ဓသာသာဝင် သံဃာတော်များ တရားဟောသောအခါ အသံကို နှစ်မတြာခွဲထက် ပို၍ ဆွဲငင် မရွတ်ဆိုရ။ နှစ်မတြာခွဲထက်ပို၍ အသံရှည်ဆွဲငင်ရွတ်ဆိုလျှင် ဂီတဖြစ်သည်။ ဗုဒ္ဓဘာသာသည် ဂီတကို အားမပေးချေ။ ဂီတသည် သံသရာမှ ကျွတ်လွတ်စေတတ်သော အရာမဟုတ်။ ကာမဂုဏ် အာရုံခံစားမှုအရာသာ ဖြစ်သည်ဟူ၍ ဆုံးမချက်များရှိသည်။

"အလှူမပီ၊ တရားဖီသည်၊ ပန်းချီကချေ၊ သေ ဥဿဘ၊
မိန်းမလည်းဟူ၊ ငါးပါးမူကား၊ အလှူမဝင်၊ ကုသိုလ်ပြင်တိ"[၂၇]

ဟူ၍ ဥမ္မာဒန္တီပျို့တွင် ရေးဖွဲ့ခဲ့ပါသည်။ ဤငါးပါးသည် လှူ၍အကျိုးမရသော အလှူမျိုး ငါးပါးဖြစ်ကြောင်း ပရိဝါပါဠိတော်တွင် ပါရှိပါသည်။[၂၈] လုံးတော်ဆရာတော်၏ ပုစ္ဆာပကိဏ္ဏကကျမ်းတွင် ဤအလှူငါးပါးအနက်....

သမဇ္ဇဒါနကို ကချေသဘင် တီးမှုတ်မျိုးဟူသော အလှူ[၂၉] ဟု အဓိပ္ပာယ်ပေးပါသည်။ ဤအကြောင်းများ တင်ပြနေသည်မှာ ဗုဒ္ဓဘာသာသည် ဂီတကို အားမပေးကြောင်း တင်ပြလိုရင်းဖြစ်ပါသည်။ ထို့ပြင် ဗုဒ္ဓဘာသာဝင် လူပုဂ္ဂိုလ်များသည် အခါကြီးရက်ကြီးများတွင် အဋ္ဌင်္ဂသီလ (ခေါ်) ရှစ်ပါးသီလစောင့်ထိန်းလေ့ ရှိကြသည်။ ထိုရှစ်ပါးသီလတွင်....

"နစ္စ၊ ဂီတ၊ ဝါဒိတ၊ ဝိသုက၊ ဒဿန၊ မာလာဂန္ဓ၊ ဝိလေပန၊ ဓာရဏ၊ မဏ္ဍန၊ ဝိဘူသနဋ္ဌာနာ ဝေရမဏီ သိက္ခာပဒံ သမာဒိယာမိ"

ဟူသော သိက္ခာပုဒ်တစ်ပုဒ်ပါဝင်ပါသည်။ ဤသိက္ခာပုဒ်ကို ဆရာတော် အရှင်ဇနကာ ဘိဝံသက ရတနာ့ဂုဏ်ရည်ကျမ်းတွင် ဤသို့ အဓိပ္ပာယ် ဖွင့်ဆိုပြထားပါသည်။

| | | |
|---|---|---|
| နစ္စ | = | ကိုယ်တိုင်ကခြင်း၊ သူတစ်ပါးကို အကခိုင်းခြင်း။ |
| ဂီတ | = | ကိုယ်တိုင်သီဆိုခြင်း၊ သူတစ်ပါးကို အဆိုခိုင်းခြင်း။ |
| ဝါဒိတ | = | ကိုယ်တိုင်တီးမှုတ်ခြင်း၊ သူတစ်ပါးကို တီးမှုတ်ခိုင်းခြင်း။ |
| ဝိသူကဒဿန | = | သူတစ်ပါးကို အလိုအလျောက်သော်လည်းကောင်း၊ အခြားသူက ခိုင်း၍သော်လည်းကောင်း၊ က ဆို တီး မှုတ်နေသည်ကို တမင်သွား၍ ကြည့်ရှုနားထောင်ခြင်း။[၁၀] |

ဤသိက္ခာပုဒ်အရ ကခြင်း၊ သီဆိုခြင်း၊ တီးမှုတ်ခြင်းကို မိမိကိုယ်တိုင်ပြုလုပ်ခြင်း၊ သူတစ်ပါးကို ပြုလုပ်ရန် စေခိုင်းခြင်းအပြင် နားထောင်ခြင်းပင် မပြုရဟု ပညတ်ထားကြောင်းကို တွေ့ရသဖြင့် ဗုဒ္ဓဘာသာသည် သဘင်မှုများကို အားမပေးကြောင်း တွေ့ရမည်ဖြစ်ပါသည်။

ဗုဒ္ဓ၏ အဆုံးအမသည် သဘင်မှုကို အားမပေးသဖြင့် ဗုဒ္ဓ၏အဆုံးအမဖြစ်သော ပိဋကတ်ဝင် တရားတော်များကို တေးဂီတရေးဖွဲ့ရန်မှာ မဝံ့ရဲကြသောကိစ္စ ဖြစ်လေသည်။ တေးဂီတရေးဖွဲ့သည်ကို ထားဘိဦး၊ ပျို့ကဗျာဖွဲ့ဆိုကြသော အရှင်မဟာသီလဝံသနှင့် အရှင်မဟာရဋ္ဌသာရတို့ကိုပင် ထိုခေတ် သံဃာတော်များက သံဃကိစ္စများတွင် အတူမဆောင်ရွက်လိုကြကြောင်းဖြင့် သာသနာလင်္ကာရ စာတမ်းတွင်....

"ဒုတိယမင်းခေါင် သိမ်သမုတ်သည်ကာလ အခြားဆရာသံဃာများက သီချင်းသည်တို့ပါလျှင် ငါတို့ မလာမလိုက်

ပြုဆိုသောကြောင့် ရှင်မဟာသီလဝံသ၊ ရှင်မဟာရဋ္ဌသာရတို့ သိမ်သမုတ်ရာမပါဝင်ရဟူ၍ ဆရာစဉ်ဆက် ပြောဆိုကြသည်"[၁၁] ဟူ၍တွေ့ရပါသည်။

အထက်ပါအကြောင်းတို့ကို ထောက်၍ ဗုဒ္ဓ၏ အဆုံးအမတရားများကို တေးဂီတတွင် ကျယ်ကျယ်ပြန့်ပြန့် မတွေ့နိုင်ဟု ဆိုရပေမည်။ သို့ရာတွင် ထူးခြားသည်မှာ မြန်မာ့တေးဂီတ၏ အစသည် ဗုဒ္ဓ၏ အကြောင်းအရာများနှင့် ဆက်စပ်နေကြောင်း တွေ့ရခြင်းပင်ဖြစ်သည်။

မြန်မာနိုင်ငံ ပျူမင်းများခေတ်တွင် တရုတ်နိုင်ငံသို့ သံအဖွဲ့တစ်ဖွဲ့ စေလွှတ်ခဲ့ဖူးလေသည်။ ထိုသံအဖွဲ့ကို ပျူမင်း၏ သားတော် သုနန္ဒာ အပြင် အမတ်ကြီးနှစ်ဦးဖြစ်သော နာကျကုဋ္ဌနှင့် မဟာသေနတို့ကို သံအဖွဲ့အား ဦးဆောင်စေလျက် စေလွှတ်ခဲ့သည်။ ပျူမင်းသည် အနုပညာရှင် ၃၅ ဦး ပါဝင်သော ဂီတအကအဖွဲ့ကို ချန်အန်မြို့သို့စေလွှတ်လိုက်၏။ ခရစ်နှစ် ၈၀၂ ခု ဖေဖော်ဝါရီလ ၁၃ ရက်နေ့တွင် ချန်အန်သို့ ရောက်သည်။

ထိုအနုပညာအဖွဲ့တွင် တူရိယာ ပစ္စည်းများအပြင် တေးသီချင်း ၁၂ ပုဒ် ပါသွားသည်။ ထိုတေးသီချင်း ၁၂ ပုဒ်မှာ သုတ္တန်ကျမ်းများနှင့် သျှတ္တရကျမ်းများကို ရှင်းလင်းဖော်ပြထားခြင်း ဖြစ်သည်ဟု အဆိုရှိသည်။[၁၂] ထိုသီချင်း ၁၂ ပုဒ်၏ အနှစ်သာရမှာ ဗုဒ္ဓဝါဒ အနှစ်သာရ ဖြစ်သည်ဟူ၍လည်း မှတ်သားရလေသည်။ ထို့ကြောင့် မြန်မာ တေးဂီတ၏ အစသည် ဗုဒ္ဓ၏အဆုံးအမများမှ စတင်ခဲ့ကြောင်း တွေ့ရပါသည်။

နောက်ပိုင်းတွင် ကုန်းဘောင်ခေတ်မတိုင်မီထိ တေးသီချင်းများ၌ ဗုဒ္ဓဘာသာနှင့် စပ်လျဉ်း၍ ရွှေပလ္လင်တည်ကြိုး၊ ရွှေပလ္လင်တက်ကြိုး၊ ရွှေပလ္လင်အောင်ကြိုး စသည့်ကြိုးသီချင်းများ ပေါ်ခဲ့ဖူးကြောင်း တွေ့ရပါသည်။ သိသာနိုင်ရန် ရွှေပလ္လင်အောင်ကြိုးကို အောက်တွင်ဖော်ပြပါသည်။

"လှဲ့လှဲ့စိမ်းရောင်၊ ဗောဓိညောင်၊ အတောင်တရာသာစွလေ။ သာသည်ညောင်အောက်၊ ပလ္လင်ပေါက်၊ မြောက်ခွင်ရွှေယွန်း၊ ပလ္လင်ဝန်းဝယ်၊ မြတ်ဘုန်းကြွယ်၊ ခြောက်သွယ်ရောင်ခြည်ဖြာစွလေး။ ရောင်တော်ခြောက်ပါး၊ မြတ်ဘုရား၊ နတ်သားမာရ်မင်း၊ ရန်ငြိုးပြင်း၊ ရန်တင်းထောင်မည် လာစွလေး။ ဝသုန္ဒရေ၊ ဆံရေစက်စက် မြေကထွက်၊ ဘုရားဘုန်းလူ မာရ်နတ်သားကို အောင်တော်မူ၊ နတ်လူကောင်းချီးငြာစွလေး"[၃၃]

ဤကြိုးသီချင်းမှာ မြတ်စွာဘုရား ဗောဓိပင်နှင့် ရွှေပလ္လင်အောင်တော်မူခန်း ဖြစ်ပါသည်။ ထိုကာလအထိ ငါးရာ့ငါးဆယ်ဇာတ်တော်တေးသီချင်းများဟူ၍ ပီပီပြင်ပြင် မတွေ့ရသေးချေ။

ကုန်းဘောင်ခေတ်တွင် ငါးရာ့ငါးဆယ် ဇာတ်တော်ထွက် တေးသီချင်းများကို စတင်တွေ့စ ပြုလာပါသည်။

ပထမဦးစွာ တင်ပြလိုသည့်သီချင်းမှာ ငါးရာ့ငါးဆယ်ဇာတ်တော်တစ်ခုခုကို ရေးဖွဲ့သည့် သီချင်းမဟုတ်သော်လည်း ငါးရာ့ငါးဆယ်၏ ဩဇာလွှမ်းမိုး ခြင်းခံရသည့် သီချင်းတို့ကို သဘောမျှတင်ပြပါမည်။

မြန်မာ့ဂီတလောကတွင် ထင်ရှားသော ပပဝင်းဝင်း ပတ်ပျိုးနှစ်ပုဒ်တွေ့ရရာ ပထမပတ်ပျိုးမှာ "မြမြမောင်းမောင်း" အလိုက် မယ်ဘွဲ့ပတ်ပျိုးဖြစ်ပါသည်။

"ပပငယ်လေဝင်းဝင်း၊ မှန်ရဝေဆောင်၊ ကိုယ်ရောင်ထိုက်ခန်းလင်း"[၃၄] ချီပတ်ပျိုးဖြစ်ပြီး၊ ဒုတိယပတ်ပျိုးမှာ တဲ့ဖက်ရုံးစာရေး မောင်တာရေးသော မယ်ဘွဲ့ပတ်ပျိုးဖြစ်ပါသည်။

"ပပငယ်လေဝင်းဝင်း၊ ညာပင်တိုင်ဝေမြိုင် ဆောင်လုံးလင်း" ချီ ပတ်ပျိုးဖြစ်ပါသည်။ [၃၅]

ဤပတ်ပျိုးနှစ်ပုဒ်အနက် မြမြမောင်းမောင်း အလိုက်ပတ်ပျိုးမှာ ပို၍ထင်ရှားပါသည်။ ထိုပတ်ပျိုးနှစ်ပုဒ်လုံးသည် မယ်ဘွဲ့ပတ်ပျိုးချည်းဖြစ်သည်။ ချောကြောင်း လှကြောင်းကို ဖွဲ့ရာတွင် ပပဝတီနှင့်တူညီကြောင်း ဖွဲ့သည်။ ပပဝတီသည် အချောအလှတွင် စံတင်ထင်ရှား

သော သတို့သမီးဖြစ်သည်။ သတ္တတိနိပါတ်တော်လာ ကုသဇာတ်မှ ပပဝတီ၏အလှကို ဇာတ်တော်တွင် ဤသို့တွေ့ရပါသည်။

"ထိုသာဂလေမြို့၌ မဒ္ဒရာဇ်မင်း၏ သမီးတော်ရှစ်ယောက်တို့သည် မြတ်သောအဆင်းကို ဆောင်ကုန်၏။ နတ်သမီးနှင့်တူကုန်၏။ ထိုရှစ်ယောက်သော မင်းသမီးတို့တွင် အလုံးစုံသော မင်းသမီးတို့ထက် အကြီးသည် ပဘာဝတီအမည်ရှိ၏။ ထိုပဘာဝတီမင်းသမီး ကိုယ်မှ တက်သစ်သောနေလုလင်ကဲ့သို့ အရောင်တို့သည် ပြိုးပြိုးပြက် ထွက်ကုန်၏။ ထိုအရောင်သည် အမိုက်၌လည်း လေးတောင်ရှိသော တိုက်ခန်း၌ ဆီမီးထွန်းခြင်းကိစ္စသည် မရှိ။ အလုံးစုံသောတိုက်ခန်းသည် တခဲနက်အရောင်ဖြင့် ထွန်းလင်းသည်သာလျှင် ဖြစ်၏"[၃၆]

ပပဝတီသည် ကိုယ်ရောင်တိုက်ခန်းလင်းသူဖြစ်သည်။ ဤအလှဘွဲ့နှင့် ပတ်ပျိုးကိုချီထားသည်။ ထို့ကြောင့် ပပဝင်းဝင်းပတ်ပျိုးတို့သည် ကုသဇာတ်၏ ဩဇာအောက်မှပေါက်ပွားလာသော အလှဘွဲ့အတွေးတို့ဖြင့် တန်ဆာဆင်ထားသော တေးသီချင်းဖြစ်သည်။

ဆက်လက်တင်ပြလိုသည့်တေးမှာ "ထောင်ရောင်နေ"ချီ အမရပူရနန်းဘွဲ့ကြိုး၊ ဦးလွန်ပြေရေး "ရွှေနန်းအောင်ချာ"ချီ အောင်ပင်လယ်ကြာချပ်ကြီးကြိုးနှင့် မြဝတီမင်းကြီးဦးစရေးသည့် "ဆဒ္ဒန်အိုင်သာ"ဘွဲ့တစ်ချက်လွတ် သီချင်းခံတို့မှ ဖြစ်ပါသည်။

"ထောင်ရောင်နေ" ချီ သီချင်းတွင် အမရပူရမြို့ကို ဝန်းရံနေသည့် တောင်သမန်၊ ဇောင်းကလော၊ အောင်ပင်လယ် ကန်ကြီးများအကြောင်းကို ဤသို့ တင်စားထားပါသည်။

"သာမျိုးသာမျိုးပတ်ရံ၊ တောင်တည့်တောင်သမန်။ ။
ဆဒ္ဒန် ဆဒ္ဒန် ဆဒ္ဒန်ကြာတော၊ ရေကြည်ဇောင်းကလောငယ်နှင့်လေး"[၃၇]

"ရွှေနန်းအောင်ချာ" ချီ "အောင်ပင်လယ်ကြာချပ်ကြီး"ကြိုးတွင်လည်း အောင်ပင်လယ်ကန်မှ ကြာများ ဖူးပွင့်နေပုံကို ဤသို့ ရေးဖွဲ့ထားပါသည်။

"ရွှေကြာနီ၊ ရွှေကြာဖြူ၊ ကြူရရှုငယ်လေ၊ သင်းသင်းနှံ့ ရှင်းရှင်း၊ အိုင်မင်း အိုင်မင်း ဆဒ္ဒန်၊ တူတည့်တူမောဟန်၊ ပုံသဏ္ဌာန်လေမကွဲ၊ ပြိုင်မသာလေဘဲ"[၃၇] ဟုဖြစ်သည်။

ဘိုးတော်မင်းတရားလက်ထက် သမိုင်းမှတ်တမ်းများအရ ဆင်ဖြူတော်ငါးစီးရရှိသည်ဟု သိရပါသည်။ ထိုဆင်များနေရန်နှင့် ရေကစားရန် ရေကန်ကြီးတည်ဆောက်သည်။ ထိုရေကန်ကြီးအကြောင်းကို မြဝတီမင်းကြီး ဦးစက "ဆဒ္ဒန်အိုင်သာ၊ ရွှေကြာညီးလို့လင်း" ချီသီချင်း ရေးသားလေသည်။ ဤသီချင်းတွင် ဆဒ္ဒန်အိုင်၏ သာယာပုံ၊ ကြာမျိုးအစုံပွင့်ပုံ၊ ငှက်ပေါင်းစုံမြူးကြပုံ၊ ကြာစွယ်၊ ကြာရင်း၊ ကြာဝတ်မှုန်များကို လိပ်ပြာများစားသုံးကြပုံတို့ဖြင့် အိုင်ကြီး၏သာယာပုံကို ရေးဖွဲ့ထားပါသည်။[၃၈]

ဤသီချင်းသုံးပုဒ်တွင်ပါဝင်သော ဆဒ္ဒန်အိုင်ကို တိံသ နိပါတ်တော်လာ ဆဒ္ဒန္တဇာတ်တော်တွင် တွေ့ရပါသည်။ ဆဒ္ဒန်ဆင်မင်းနေထိုင်ရာ ဆဒ္ဒန်အိုင်သည် ကြာမျိုးငါးပါးဖြင့်တင့်တယ်၏။ ကြာမျိုးငါးပါးအနက် ကြာတောတစ်တောစီ၏တင့်တယ်လှပသာယာပုံကို ဆဒ္ဒန္တဇာတ်တော်တွင် အကျယ်တဝင့် တွေ့ရပါသည်။ ဦးပုညကလည်း ဆဒ္ဒန်ဆင်မင်းဝတ္ထုတွင် ကြာတောတစ်ထပ်ချင်း၏အလှကို အနုစိတ်၍ ရေးခြယ်ခဲ့ပြီးဖြစ်ပါသည်။

ဤသီချင်းသုံးပုဒ်လုံးသည် ဆဒ္ဒန်ဆင်မင်းဇာတ်တော်ကို ရေးဖွဲ့သော သီချင်းများမဟုတ်ချေ။ ဆဒ္ဒန်ဆင်မင်း၊ မဟာသုဘဒ္ဒါ၊ စူဠသုဘဒ္ဒါ၊ သောနုတ္တိုရ်မုဆိုးတို့၏အကြောင်းကိုမပြော။ ဆဒ္ဒန်အိုင်၏အလှကိုသာ ဖွဲ့သည်။ အခြားအင်းအိုင်များ၏အလှကို ဆဒ္ဒန်အိုင်၏အလှနှင့် နှိုင်းသည်။ တင်စားသည်။ အောင်ပင်လယ်၊ ဇောင်းကလောအင်းများ၊ ကန်များမှ ကြာတောကို ဆဒ္ဒန်အိုင်၏ကြာတောနှင့် ယှဉ်ပြသည်။ ထို့ကြောင့် ဤသီချင်းများသည်လည်း ဇာတ်တော်၏ သြဇာ တစ်စိတ်တစ်ဒေသ လွှမ်းနေသော သီချင်းများဖြစ်သည်ဟု ဆိုနိုင်ပါသည်။ ဤတွင် အလျဉ်းသင့်သဖြင့်တင်ပြရသော် မြန်မာများသည် ကြာမျိုးငါးပါးဖြင့် တင့်တယ်လှပနေသောကန်၊ အင်းအိုင်များ၏

အလှကို ဖွဲ့ကြလျှင် ဆဒ္ဒန်အိုင်သာနှင့်သာ နှိုင်းယှဉ်တင်စားလေ့ ရှိကြလေသည်။

အချစ်သီချင်းတွင် ပဲ့နင်း ဦးနေဦး ရေးသည့် ချစ်သမျှကိုပတ်ပျိုးသည် ထင်ရှားပါသည်။ ယင်းသီချင်း၏ သဖြန်ပိုဒ်တွင် —

"ယှင်းစေဝသုန်၊ ငွေစန်းသော်တာယုန်သို့၊ ကမ္ဘာကုန် ကျယ်သရွေ့ငယ်မှာ၊ ဘယ်မေ့လိမ့်လဲ"[၄၀] ဟူသော အပိုဒ် တစ်ပိုဒ် ပါပါသည်။

ထိုနည်းတူမြဝတီမင်းကြီးဦးစရေးသည့်"မဏိကဋ္ဌန"ချီပတ်ပျိုးတွင်

"နှစ်နန်း ငွေလယုန်၊ ရွှေဘုံခညောင်း"[၄၁] ဟူသောအပိုဒ် ပါပါသည်။ "ငွေစန်းသော်တာယုန်" "ငွေလယုန်" ဟူသောအသုံးမှာ လမင်းကို ဆိုခြင်းဖြစ်သည်။

လမင်းတွင် ယုန်ရုပ်ရှိသည်ဟူသော အယူအဆကို စတုက္ကနိပါတ်တော်လာ သသပဏ္ဍိတ ဇာတ်တွင် တွေ့ရပါသည်။ ဖျံ၊ မြေခွေး၊ မျောက်နှင့် အလောင်းတော်ယုန်မင်းတို့ထံသို့ သိကြားမင်းက ပုဏ္ဏားယောင်ဆောင်ပြီး အလှူခံသည့်ဇာတ်ဖြစ်ပါသည်။ အလောင်းတော်ယုန်မင်း၏ သဒ္ဒါတရားကို သိကြားမင်းက ကြည်ညိုလှန်း၍ ဂုဏ်ပြုသည့်အနေဖြင့် လပေါ်တွင် မြေဆီဖြင့် ယုန်ရုပ်ရေးသားထားရာ ယနေ့တိုင် လပေါ်တွင် ယုန်ရုပ်တွေ့ရသည်ဟု ယုံကြည်နေကြပါသည်။

ဆက်လက်တွေ့ရသော တေးသီချင်းမှာ ကိန္နရာချောင်းခြားပတ်ပျိုးများ ဖြစ်ပါသည်။ ယနေ့ထိ ကိန္နရာချောင်းခြားပတ်ပျိုးငါးပိုဒ် တွေ့ရပါသည်။

"ဖြေနိုင်ပေါင်၊ တွေမှိုင်ယောင်၊ တောသာတဲ့ သည်မြိုင်ချောင်" ချီပတ်ပျိုး[၄၂]

"မယ်သေချင်လိုက်ပါဘိ၊ မကိုဋ္ဌ်ကေညွှန့်သွန်းရွှေစင်" ချီပတ်ပျိုး"[၄၃]

"မြူဝန်းလို့ခို၊ အလိုဘယ်ဝယ်"[၄၄] ချီ ပတ်ပျိုး

"ဟေဝန်စုံမြိုင်၊ သင်းကြိုင်ငယ်"[၄၅] ချီပတ်ပျိုး

"အာကာယံတဲ၊စံမြဲမြန်းလို့၊ နန်းဖလ်ဆောင်"[၄၆] ချီပတ်ပျိုးတို့ဖြစ်ပါသည်။

ဤသီချင်းများရေးဖွဲ့ရာ ဇာတ်ကွက်မှာ "ဝိသတိနိပါတ်" လာ "ဘလ္လာတိယဇာတ်" ဖြစ်ပါသည်။

ကိန္နရီ၊ကိန္နရာမောင်နှံတို့သည် မိုးရေကြီးသဖြင့် ချောင်းရေလျှံခြားသွားသောကြောင့် တစ်ညတာမျှ ကွဲသွားခဲ့ကြသည်။ ဤအဖြစ်ကိုတွေးပြီး နှစ်ပေါင်း ၇၀၀ ငိုသည့်အကြောင်း ဖြစ်ပါသည်။ အချစ်အကြောင်း ဖွဲ့ဆိုရာတွင်လည်းကောင်း၊ ချစ်သူနှင့်ကွေကွင်းသဖြင့် ပူဆွေးရပုံများကို တင်စားရာတွင်လည်းကောင်း ဤဇာတ်တော်သည် စံပြုမှတ်ဖြစ်သော ဇာတ်တော်ဖြစ်ပါသည်။ ငါးရာ့ငါးဆယ်ဇာတ်တော်ကို သီချင်းရေးဖွဲ့ခြင်းများသည် ရှားရှားပါးပါး ဖြစ်နေသော်လည်း ဘလ္လာတိယဇာတ်ကို ငါးပုဒ်အထိရေးဖွဲ့ကြောင်း ထူးခြားစွာတွေ့ရလေသည်။

မြန်မာ့တေးဂီတနယ်တွင် မျောက်မင်းအူသံဟူသော သီချင်းတစ်ပုဒ်ရှိပါသည်။ ဤတေးသီချင်းကို ဒုမင်္ဂလာအခမ်းအနားများတွင် တီးမှုတ်လေ့ရှိပါသည်။မျောက်မင်းအူသံသီချင်းမှာ ဤသို့ဖြစ်ပါသည်။

> "အိုပင်အိုကံ၊ ညဥ့်ယံသာလို့ကဲတော့တယ်၊ မောင့်ခြေယ်လေကျိုးကျိုး၊ မောင့်လက်ကယ်လေကျိုးကျိုး၊ မိုးမင်းဘယ်တော့သောက်ပါ့မယ်၊ ပန်းဘဲဘယ်တော့ခါက်ပါ့မယ်။ ဘလုပ်ငှက်ကစီစီ၊ ရောင်နီလာချင်းချင်း၊ မိုးပင်သာမိုးသောက်လင်းပါလို့လေး၊ ရှင်ရင်းကြွချိန်တန်လေ၊ တန်ချည့်လေ၊ ရှင်ရင်းကြွချိန်တန်လေ တန်ချည့်လေ"[၄၇]

ဟူ၍ ဖြစ်ပါသည်။ မူကွဲများလည်း ရှိပါသေးသည်။ ဤမျောက်မင်းအူသံသီချင်းသည် သတ္တကနိပါတ် မဟာကပိဇာတ်လာ အလောင်းတော်မျောက်မင်း၏ အကြောင်းကို ဖွဲ့ထားသော တေးသီချင်းဖြစ်သည်။ ဘုရားအလောင်းမျောက်မင်းသည် မျောက် ၈၀,၀၀၀ ခြံရံလျက် ဟိမဝန္တာ၌နေ၏။ ဘုရားအလောင်းနှင့်မျောက်အပေါင်းသည် ဂင်္ဂါမြစ်ကမ်းပါးရှိ သရက်ပင်မှ သရက်သီးကိုစားကြ၏။ တစ်နေ့တွင်

ဗာရာဏသီမင်းသည် ဂင်္ဂါမြစ်မှမျောလာသော သရက်သီးကို စားရသောအခါ သရက်ပင်ရှိရာသို့သွားလေ၏။ ညအချိန်သရက်ပင်သို့ရောက်သော် မင်း၏လေးသမားများက မျောက်များကိုပစ်ရန် လေးတင်စဉ် ဘုရားအလောင်းမျောက်မင်းသည် ဂင်္ဂါမြစ်တစ်ဘက်ကမ်းသို့ နွယ်ကြိုးပစ်ပြီး သစ်ပင်တွင် ချည်ထားခဲ့ကာ သရက်ပင်သို့ ခုန်ကူးရာ ကြိုးတိုနေသဖြင့် မမီချေ။ ထိုအခါ အလောင်းတော်မျောက်မင်းသည် ကြိမ်နွယ်ကိုခါးတွင်ချည်လျက် မိမိကိုယ်ကိုတံတားပြုပြီး သရက်ကိုင်းတစ်ခုကို လက်ဖြင့် မြဲစွာကိုင်ထားလျက် မျောက်များကို မိမိကိုယ်ပေါ်မှ ကူးစေ၏။ အခြားမျောက်များက ဘုရားလောင်းကိုဦးချ၍ ကူးသော်လည်း ဒေဝဒတ်အလောင်းမျောက်က ဘုရားအလောင်းကျောပေါ် ခုန်ချလေရာ ဘုရားအလောင်းမျောက်မင်း နှလုံးကွဲ၍ ဝေဒနာပြင်းစွာ ခံစားရလေ၏။ ဘုရားလောင်းမျောက်မင်း၏ ဝေဒနာကြောင့် ညည်းညူသံကိုအကြောင်းပြု၍ ဤသီချင်းပေါ်လာရသည်ဟု အဆိုရှိလေသည်။

အခြားတွေ့ရသမျှသော ဇာတ်တော်တေးသီချင်းများမှာ....

"တောင်ဝက်ပါ၊ မာလာကြိုင်လှိုင် မွှေးပျံ့သင်း၊ ဇာမရီဏော် ကိန္နရီ ကိန္နရာ ဝိဇ္ဇာတပသီ ဇော်ဂီပျော်စံခင်း"[၄၇] ချီဝေသန္တရာဘွဲ့ ယိုးဒယား။

"ဆုကြီးကိုမှီ၊ မယ်မဒ္ဒီသက်နှင်း၊ လောင်းဝေသန်၊ မင်းမြတ်သည်းချာ"[၄၈] ချီ ဝေဿန္တရာ သိင်္ဂါသံ။

"မင်္ဂလမ်းကိုယူ၊ လောင်းဒုကူ၊ စံခင်းပါရိကာ၊ မင်းမြတ်သည်းချာ၊ သားသုဝဏ္ဏာ"[၅၀] ချီ သုဝဏ္ဏသာမသိင်္ဂါသံ။

"ငွေရွက်ကယ်မြိုင်မြိုင်၊ သုံးပင်တိုင်ထွေဆန်းတယ်၊ ဆောင်ဝေယန်ခန်းမှာလှ"[၅၁] ချီ ဦးပုညရေးသည့် ဇနကသဘော်လှင့်ချင်း။

"တိုင်းမိဓိလာ၊ ဇေယျာဘွေ့စံခန်း"[၅၂] ချီ သာယာဝတီဦးဘိုင်း_ရေးသည့် ဇနကချိုး လှေတော်သံ။

"ဆဒ္ဒန်အိုင်၊ နှစ်ခိုင်ရွှေပန်းခက်ကယ်နှင့်လေး၊ မောင်နှင့်မယ်၊ ရွှေးဝယ်ဆင်မင်းဆက်ကယ်ကလေး"[၅၃] ချီ ဆဒ္ဒန်ချိုးယိုးဒယားသီချင်းတို့ ဖြစ်ပါသည်။ ဤသီချင်းများမှာ မဟာဂီတဟု သတ်မှတ်ကြသည့် တေးသီချင်းများထဲတွင် ပါဝင်နေသော ငါးရာ့ငါးဆယ်ဇာတ်တော် တေးများဖြစ်ပါသည်။

ပါတော်မူပြီးနောက် ဗြိတိသျှတို့ အုပ်စိုးသောကာလတွင် မြန်မာ့တေးဂီတ၏ အသွင်သဏ္ဌာန်များ ပြောင်းလဲကုန်ရာ ငါးရာ့ငါးဆယ်ဇာတ်တော်တေးများလည်း ခေတ်ပေါ်တေးဂီတနယ်သို့ ရောက်လာကြသည်။

ဇာတ်ပြားလောကဖြစ်သည့် တေးဂီတနယ်တွင်လည်း ဇာတ်တော်တေးများ ရေးသားသီဆိုကြသည်ကို တွေ့ရပါသည်။

၁၉၃၅ ခုနှစ် ဇွန်လတွင် ရွှေတိုင်ညွန့်ရေးပြီး မတင်အုန်းသီဆိုသည့် "တောဟိမဝါ၊ သေလာသိမ်မွှေစရာ" ချီ သုဝဏ္ဏသျှံပေါ်ခဲ့ပါသည်။ ထိုထက်စောသော ဇာတ်တော်တေးများလည်း ရှိနိုင်ပါသေးသည်။ ထိုသီချင်းနောက်တွင် သဟာယဆရာတင်ရေးပြီး မလှရွှေသီဆိုသည့် စန္ဒကိန္နရီ၊ ဆရာညွှာရေးပြီး မေရှင်သီဆိုသည့် တေမိယ၊ ရွှေတိုင်ညွန့်ရေးပြီး စိန်ပါတီသီဆိုခဲ့သည့် ကောသလ၊ သုဝဏ္ဏသာမ၊ ခင်မောင်ရင်သီဆိုခဲ့သည့် မဟာဇနက၊ အေဝမ်းဆရာညွှာ ရေးပြီး ရင်ရင်သီဆိုခဲ့သည့် မဟာဇနက စသည်တို့ကို တွေ့ရပါသည်။[၅၄]

မတင်အုန်း သီဆိုခဲ့သည့် သုဝဏ္ဏသျှံကို နောင်တွင် စောင်းဦးဘသန်းကလည်းကောင်း၊ ရင်ရင်သီဆိုခဲ့သည့် မဟာဇနကကို နောင်တွင် မစိန်မြင့်လတ်ကလည်းကောင်း ပြန်လည်သီဆိုထားသည်ကို ကြားရပါသည်။

ရွှေတိုင်ညွန့်သည် "တေ၊ ဇ၊ သု၊ နေ၊ မ" အမည်ဖြင့် မဟာနိပါတ်တော်လာ ဇာတ်ကြီးငါးဇာတ်ကို သီချင်းတစ်ပုဒ်တည်းတွင် ထည့်သွင်းစပ်ဆိုခဲ့ပါသည်။ ထိုသီချင်းကို မကြည်အောင်သီဆိုခဲ့ပါသည်။ စာပေအမှတ်အသား မှတ်တမ်းတင်ခြင်းမရှိခဲ့သောကြောင့် ပျောက်ပျက်ကုန်သော ဇာတ်တော်တေးများလည်း ရှိတန်ရာပါသည်။ မြန်မာ့တေး

ဂီတ စာရင်းနှင့် နှိုင်းယှဉ်ကြည့်လျှင်ကား ဇာတ်တော်တေးများသည် အရေအတွက် နည်းလှပါသည်။

## (၄) ပန်းချီ၊ ပန်းပု၊ သုခုမပညာနှင့် ငါးရာ့ငါးဆယ်

မြန်မာ့ရိုးရာ ပန်းပညာရပ်များ၏ အခြေခံများကို ပုဂံခေတ်မတိုင်မီ ကပင်တွေ့ရပြီးဖြစ်ပါသည်။ သရေခေတ္တရာဗိဿနိုးမြို့များတွင် တူးဖော် ရရှိပြီးသော ရှေးဟောင်းအဆောက်အအုံများနှင့် ပစ္စည်းများ ကျန်ရှိ နေသေးသော သာသနိကအဆောက်အအုံများကို ကြည့်ခြင်းဖြင့် သိ နိုင်ပါသည်။ သို့ရာတွင် ငါးရာ့ငါးဆယ်နှင့် သက်ဆိုင်သည်တို့ကိုသာ တင်ပြလိုရင်း ဖြစ်သဖြင့် ပုဂံခေတ်ကိုပင် တင်ပြပါမည်။

ပုဂံခေတ် ငါးရာ့ငါးဆယ်ဇာတ်တော် အုတ်ခွက်များ တွေ့ရပြီး ဖြစ်ကြောင်း ဖော်ပြခဲ့ပြီး ဖြစ်ပါသည်။ အုတ်ခွက်ဆိုသည်မှာ မြေကြီး ဖြင့် မိမိတို့အလိုရှိရာပုံကို သွန်းလုပ်၍ မီးဖုတ်ထားသော ရုပ်ကြွပုံများ ဖြစ်ပါသည်။ ရုပ်ကြွပုံသည် မိမိတို့သွန်းလုပ်ထားသည့် သို့မဟုတ် ထွင်းဖောက်လှီးဖြတ်ထားသည့် ပုံများသည် ရုပ်လုံးနီးပါး ပေါ်လွင် ထင်ရှားနေစေကာမူ နောက်မှီကို အခြေကပ်၍ထုလုပ်ရသော ပုံမျိုး ဖြစ်သည်။ အုတ်ခွက်များကို လေ့လာကြည့်သောအခါ ငါးရာ့ငါးဆယ် အုတ်ခွက်များ မပေါ်သေးမီက တွေ့ရသော အုတ်ခွက်များမှာ ဆင်း တုတော် အုတ်ခွက်များ၊ ဗုဒ္ဓဝင်ရှစ်ခန်း၊ ကိုးခန်းပါသော အုတ်ခွက် များဖြစ်သည်။ ပုဂံခေတ်တွင်မှ ငါးရာ့ငါးဆယ်အုတ်ခွက်များကို တွေ့စ ပြုလာပါသည်။ ထိုအုတ်ခွက်များတွင် စဉ်ရေသုတ်ထားပါက စဉ့်ကွင်း များဟုလည်း ခေါ်ကြသေးသည်။

ရှေးဟောင်းသုတေသန ဦးစီးဌာနမှ သုတေသီတစ်ဦးဖြစ်သော ဦးဗို ကေက ပုဂံမှ ငါးရာ့ငါးဆယ်ရုပ်ချပ်များနှင့် ပတ်သက်၍ ဤသို့မှတ် ချက်ချထားပါသည်။

> "အထက်ပါစေတီတော်ကြီးများနှင့်ဂူတော်ကြီးတို့မှ ဇာတက
> အစရှိသော ရုပ်ပုံချပ်များ ကပ်ထားပြုလုပ်ခဲ့သည့် လက်ရာမှာ

အလွန်စိတ်ဝင်စားဖွယ် ကောင်းလှပေသည်။ ထိုလက်ရာမျိုးကို ပင်းယခေတ်၊ စစ်ကိုင်းခေတ်၊ ကုန်းဘောင်ခေတ်များတွင် တု၍ ပြုလုပ်ကြသေးသည်။ သို့သော် ပုဂံခေတ်လက်ရာကိုကား မမီနိုင်တော့ပါ”၅၅

ပုဂံခေတ် စဉ့်သုတ်လုပ်ငန်း၏ အရည်အသွေးကို ဤစဉ့်ကွင်းရုပ်ချပ်များကို အခြေပြုအမှီထားပြီး ပညာရှင်များက များစွာချီးကျူးကြပါသည်။ ဆရာကြီး ဒဂုန်နတ်ရှင်က ....

“အာနန္ဒာစေတီတော် အရှေ့မုခ်မှ လက်ဝဲလက်ယာတွင် ကပ်ထားသော နတ်သမီးနတ်သား ရုပ်ပုံပေါင်း ၂၇၆ ခုတို့ကို တွေ့ရပါသည်။ အထက်ပစ္စယာတွင်လည်း ၅၅၀ ဇာတ်တော်ကို သရုပ်ဖော်ထားသော စဉ့်ကွင်းပေါင်း ၉၀၀ ကျော် ပြုလုပ် စီမံထားရာ ပါဠိတော်ကို ဘာသာပြန်သူတို့မှာ ဝေါဟာရ မကွဲမပြားရှိသောအခါ ထိုစဉ့်ကွင်းများကို အထောက်အထားပြု၍ ကြည့်ရှုကြရသည်ဟု ရာဇဝံသဇာလိနီ၌ တွေ့ရှိရပါသည်။ ထိုကဲ့သို့ စဉ့်ရည်သုတ် ဝတ္ထုပစ္စည်းပေါင်း များစွာတို့ကို တွေ့မြင်ရခြင်းဖြင့် ပုဂံခေတ် အနုပညာတစ်ရပ်ဖြစ်သော ယင်းလုပ်ငန်းများသည် လွန်စွာ တိုးတက် ဖွံ့ဖြိုးခဲ့သည်ဟု မှတ်ယူရပါမည်” ဟု သုံးသပ်ပြီး ဤဇဉ့်အုတ်ခွက်များသည်....

“စိမ်းစိမ်းစိုစိုနှင့် ဖိတ်ဖိတ်တောက်နေသော ကျောက်စိမ်းရောင်စဉ့်မျ းမှာ ယခုကာလပြုလုပ်သော စဉ့်သုတ်ပစ္စည်းများ၏အရောင်နှင့် မနှိုင်းယှဉ်သာအောင် ကောင်းမွန်လှသည်ကို တွေ့ရပါသည်။”၅၆ ဟု မှတ်ချက်ချပါသည်။

ဆရာဒဂုန်နတ်ရှင်သည် သူ၏မှတ်ချက်အပြင် ီရန်နိုင်ငံမှ ကြွေထည်လုပ်ငန်းအင်ဂျင်နီယာ မစ္စတာဒယ်လိုစထရိုလိုဂို (Mr. Deilo Strologo)၏ ပုဂံ စဉ့်ပညာအရည်အသွေး မှတ်ချက်ကိုလည်း အောက်ပါအတိုင်း ထည့်သွင်းဖော်ပြထားပါသည်။

“ပုဂံခေတ်အဆောက်အအုံတို့သည် နှစ်ပရိစ္ဆေဒအားဖြင့် ရာစုနှစ်များစွာကြာမြင့်ခဲ့ကြသော်လည်း စဉ့်ရည်သုတ် မျက်နှာ

ပြင်တို့သည် အိုမင်းဟောင်းနွမ်းခြင်းမရှိ။ မနေ့တစ်နေ့ကပင် လုပ်ကိုင်ထားသကဲ့သို့ သစ်လွင်လတ်ဆတ် တောက်ပလျက် ရှိနေပါသေးသည်။”၅၇

ထိုနည်းတူရှေးဟောင်းသုတေသနဌာနခွဲ၊ ပြည်ထောင်စု ယဉ်ကျေးမှု ဌာနမှ ထုတ်ဝေသည့် ရှေးရိုး မြန်မာပန်းချီတွင် ငါးရာ့ငါးဆယ် ဇာတ်တော် ရုပ်ကြွများ လက်ရာကို –

“စဉ့်ရည်မသုတ်သောရုပ်ကြွများမှာအလွန်လက်ရာမြောက်၏။ ပန်းချီဆေးရေး ဇာတ်ကွက်များမှာမူ ရုပ်ကြွအုတ်ချပ်များထက် သေးငယ်သဖြင့် အနုစိတ်ခြယ်မှုန်းမှုများ မပြုလုပ်နိုင်ချေ။ ထို့ကြောင့် စဉ့်ကွင်းအုတ်ချပ်များကဲ့သို့လက်ရာမမြောက်ချေ။”၅၈ဟု ရုပ်ကြွများ လက်ရာကို သုံးသပ်ထားပါသည်။

ဤသည်တို့မှာ စဉ့်ကွင်းများ၏ အနုပညာနှင့် စဉ့်သုတ် လုပ်ငန်း လက်မှုပညာ၏ အဆင့်အတန်း အရည်အသွေးမြင့်မားမှုကို ဝေဖန်ထားသော မှတ်ချက်များ ဖြစ်ပါသည်။ စဉ့်ကွင်းရုပ်ကြွများသည် ပန်းပုပညာနှင့် ပန်းတော့ပညာကို လိုက်ဖက်ညီညီ မျှ၍အသုံးပြုပြီး လုပ်ဆောင်ရသော အနုပညာရပ်ဖြစ်ပါသည်။ ငါးရာ့ငါးဆယ်ဇာတ်တော်များသည် အရေအတွက်ကများနေသဖြင့် စဉ့်ကွင်းများ များစွာပြုလုပ်ရသည်။ ကြိမ်ဖန်များစွာ ပြုလုပ်ခြင်းသည် အလေ့အကျင့်များစေသည့်သဘော ဖြစ်ပါသည်။ အလေ့အကျင့်များခြင်းသည် ကျွမ်းကျင်မှု အတတ်ပညာ တိုးတက်သာပြီး အရည်အသွေးမြင့်မားမှုတွင် များစွာအဓိကကျ၍ အထောက်အကူပေးနိုင်လေသည်။ ထို့ကြောင့်ပင် ပုဂံခေတ် စဉ့်ကွင်းအနုပညာနှင့် စဉ့်သုတ်လုပ်ငန်း၏ အရည်အသွေးသည် ယနေ့တိုင် အဆင့်မီနေခြင်းဖြစ်သည်ဟု ယူဆပါသည်။

ငါးရာ့ငါးဆယ်ဇာတ်တော်တို့သည် မြန်မာ့ပန်းချီပညာ၏ အရည်အသွေး အဆင့်အတန်း လက်ရာတို့ကိုလည်း မြှင့်တင်ပေးလေသည်။ မြန်မာနိုင်ငံ နံရံပန်းချီရေးဆွဲခြင်းအတတ်ကို ပြဒါးလင်းဂူတွင် စတင်တွေ့ရှိရသည်။ ပြဒါးလင်း ဂူရှိ ပန်းချီလက်ရာသည် ကျောက်ခေတ်ပန်းချီ အဆင့်အတန်းမျှသာ ရှိသေးကြောင်း သုတေသီများက မှတ်ချက်ချ

ကြပါသည်။ ပန်းချီပညာ၏သဘောဖြင့် ရေးဆွဲခဲ့သော နံရံဆေးရေး ပန်းချီကို ပုဂံခေတ် ဂူ၊ ဘုရား၊ သိမ်၊ ကျောင်းတို့၌ အစောဆုံး စတင်တွေ့ရှိရပါသည်။ နံရံဆေးရေး ပန်းချီဟု ဆိုသော်လည်း ပန်းချီပညာရပ်များ၏ အစသည် နံရံဆေးရေးပန်းချီမှပင် သန္ဓေတည်ခဲ့ကြခြင်းဖြစ်သည်။ ထို့ကြောင့် ပုဂံရှိ နံရံဆေးရေးပန်းချီများသည် မြန်မာ့ပန်းချီ၏ သမိုင်းအစဟုပင် ဆိုရပါမည်။ ပုဂံခေတ် ကျောက်စာများဖြစ်သော သက္ကရာဇ် ၅၇၅ ခုနှစ်ထိုး အမတ်ကြီးမင်းအနန္တသူ ဇနီးမောင်နှံ၏ ကျောက်စာတွင်....

"ဇာတ်ငါးရာလည်း အတင့်အတယ်ရေး၏"[၅၉] သက္ကရာဇ် ၅၉၇ ခုနှစ်ထိုး မင်းမတ်ဉာဏပိစည် ကျောက်စာတွင်....

"ကူဆေးရေးသကား တန်ခူးလဆန်း ၁၀ ရက် သောကြာနေ့ ကူပရှာ ၁၄၆၁၉ ယောက်၊ ဇာတ် ၅၅၀ ၁၂ ရက် တန်နင်းလာနေ့ပြီး၏"[၆၀] ဟူ၍လည်းကောင်း တွေ့ရသဖြင့် ဇာတ်တော်များ ပန်းချီရေးဆွဲခြင်းကို အထူးပြုလုပ်ကြကြောင်း တွေ့ရလေသည်။

ပန်းချီပညာရှင်များကိုလည်း ထိုက်တန်သည့် ဉာဏ်ပူဇော်ခ ပေးကြောင်း မင်းမတ် ဉာဏပိစည် ကျောက်စာတွင်....

"ပန်းချီသမ္မာ စိတ္တရာမိစည်လေ ဆင်ဟိုင် ၁ စီ မြင်း ၁ စီ ခ ဆိဖျင်ပွယ် ၂ စုံ ပန်းခီ ၄ မျက်နှာသော ၄ စီ"[၆၁]

ဟူ၍လည်းကောင်း၊ သက္ကရာဇ် ၅၉၇ ခုနှစ်ထိုး အသဝတ်ဓမ္မာ သင်းချိုင်းဂူဘုရား ကျောက်စာတွင်....

"ကူရေးသော ပန်းခီပေးသလေ ၇။ ကျောင်းရေးသော ပန်းခီပေးသလေး ၁၂၀"[၆၂] ဟူ၍လည်းကောင်း တွေ့ရပါသည်။

ပုဂံ၌ မြင်းကပါဂူပြောက်ကြီးရှိ ငါးရာ့ငါးဆယ် ဇာတ်တော်ပန်းချီတို့မှာ အစောဆုံးတွေ့ရသော ဇာတ်တော်ပန်းချီဖြစ်သည်။ ပုဂံရှိ ဂူ၊ ဘုရား၊ ကျောင်း၊ တန်ဆောင်းတိုင်းမှာလိုပင် နိပါတ်တော်များကို နည်းများမဟူ ရေးခြယ်ထားကြလေသည်။ နံရံနေရာ ကျယ်ကျယ်ပြန့်ပြန့်ရှိလျှင် ဇာတ်တော်အလုံးစုံသရုပ်ဖော်ရေးသည်။ ရေးခြယ်ကြရာတွင် စတုရန်းတစ်ကွက်လျှင် နှစ်လက်မခွဲမှ ငါးလက်မအထိသာကျယ်

၏။ ဇာတ်တော်ကို သိသာရန် အောက်၌ မွန် သို့မဟုတ် မြန်မာ စာတို့ဖြင့် ဇာတ်အမည်နှင့် အဖြစ်တော်ကို အတိုချုံးရေးလေ့ရှိသည်။

ငါးရာ့ငါးဆယ် ဇာတ်တော်များကို တစ်ဇာတ်လျှင် ပန်းချီကား တစ်ကွက်သာ နေရာပေး၍ သရုပ်ဖော်သော်လည်း ဇာတ်ကြီးဆယ်ဘွဲ့ ကိုမူ တစ်ဇာတ်လျှင် ၁၀ ခန်းမှ အခန်း ၂၀ အထိ ရေးဆွဲလေ့ရှိ၏။

ရှေးရိုးမြန်မာပန်းချီစာစောင်တွင် စလေမြို့ ရေလယ်ရွာ ရှင်ပင်စာ ကြို ဘုရားတစ်ဆူအတွင်းရှိ ပုဂံခေတ် နံရံဆေးရေးပန်းချီမှ ဝေဿန္တရာ ဇာတ်တော် ရေးဖွဲ့ပုံကို ဤသို့ သုံးသပ်ထားပါသည်။

"ဘုရားလောင်း ဝေဿန္တရာမင်းကြီး ဆင်ဖြူ လှူခန်း၊ ပုဏ္ဏား ဆင်စီး၍သွားခန်း၊ ဆင်၊ မြင်း၊ နွား၊ ရထားလှူခန်း၊ ရထားလှူပြီးသော် မင်းလေးပါး ခြေလျင်သွားခန်း၊ ဝင်္ကပါ တောင်၌နေဟန်၊ ဇာလီနှင့် ဂဏှာဇိန်ကိုလှူခန်း၊ မဒ္ဒီဒေဝီအား တော၌ ခြင်္သေ့၊ သစ်ကျားတို့တားခန်း၊ မဒ္ဒီဒေဝီကို ပုဏ္ဏား ဟန်ဆောင်သော သိကြားအားလှူခန်း စသည်တို့ကို ခုနစ် လက်မပတ်လည် စတုရန်းကွက်ငယ်များတွင် အစီအစဉ်ပြေပြစ် စွာ တွေ့မြင်ရသည်။ ဤအခန်းများ၌ အခြားအခြားတိရစ္ဆာန် များထက် ဆင် ရေးဆွဲထားပုံများမှာ သဘာဝကျလှပေသည်။ တောင်၏ သဘာဝကို ပေါ်လွင်စေရန် အငူအထွတ်များတန်း လျက်လည်းကောင်း၊ ဆင့်လျက်လည်းကောင်း ပုံစံဖော်ထား ၏"။ [၆၃]

ပန်းချီများတွင်ရေးဆွဲသည့် ဆေးရောင်များကို လေ့လာသောအခါ ပုဂံခေတ်ဦးပိုင်း၌ ရေးခြယ်သည့် ဇာတ်ကွက်များမှာ ကောက်ကြောင်း အနက်အတွင်း၌ အညိုရောင်၊ နီသာရင့်ရောင်နှင့် နီသာနုရောင်တို့ကို အသုံးပြု၍ တည်ငြိမ်သော အသွင်ကိုဆောင်၏။ ပုဂံခေတ်နှောင်းပိုင်း တွင် အဝါရောင်၊ အဖြူရောင်တို့ကို ရောစပ်သုံးစွဲသဖြင့် အရောင်လွင် လျက်ရှိ၏။ ဦးဗိုကေက ပုဂံခေတ် ပန်းချီဆေးရောင်များမှာ ယနေ့ အသုံးပြုနေသည့် အရောင်မျိုးစုံကို အသုံးပြုခဲ့၏။ အရောင် တောက်ပ သည်။ အနီဆိုလျှင် ကြက်သွေးရောင်၊ ဟင်္သာပြဒါးရောင်များကဲ့သို့

ရဲရဲနီ၏။ အပြာရောင်ဆိုလျှင် မဲနယ်ရောင်ရင့်ရင့်၊ ကောင်းကင်ပြာပြာ၊ ကြည်ပြာပန်းရောင် အမျိုးမျိုးရှိသည်။ အဝါဆိုလျှင် နနွင်းရောင် အနုအရင့်ရှိသည်။ အစိမ်းဆိုလျှင် သစ်ရွက်စိမ်း၊ ဖက်ဖူးရောင်၊ ဒုတ္တာစိမ်း အမျိုးမျိုးရှိသည်။ အချုပ်ဆိုရသော် သဘာဝ မြင်တွေ့ရသော အရောင်မျိုးစုံကိုရအောင် ပန်းချီဆေးများ ဖော်စပ်အသုံးပြုနိုင်သည်[၆၄] ဟူ၍ သုံးသပ်ပြပါသည်။

ပန်းချီရေး စုတ်တံမှာလည်း အလွန် သေးငယ်သော အရေးအကြောင်းကိုပင် ရေးဆွဲနိုင်သော အမျိုးအစားကိုသုံးနိုင်ကြ၏ ဟူ၍ တင်ပြထားပါသည်။ မြန်မာ့ရိုးရာ ပန်းချီရေးနည်း လေးမျိုးရှိသည်။ ယင်းတို့မှာ ကနုတ်၊ နာရီ၊ ကပိ၊ ကဇာဟူ၍ရှိလေသည်။ ဤဇာတ်တော် ငါးရာ့ငါးဆယ်သည် ယင်းပန်းချီလေးမျိုးကို စုံအောင်ရေးဆွဲရသဖြင့် မြန်မာ့ပန်းချီပညာ တိုးတက်မှုအတွက် ဇာတ်တော်များဖြင့် အပြည့်အဝလေ့ကျင့် ရေးခြယ်ခွင့် ရရှိခဲ့ကြလေသည်။

နန္ဒာမညာ ဂူဘုရားအတွင်း ရေးဆွဲထားသော ပန်းချီများတွင် တန်ဆာဆင်မှုလက်ရာ၊ အကြောင်းဖွဲ့စည်းမှု၊ သရုပ်ဖော်ခြင်း၊ ဆေးရောင်သွင်းခြင်းတို့တွင် လက်သားကျနေပြီး အလွန်တရာ ကျွမ်းကျင်သော ပညာရှင်ကြီးများ ရေးဆွဲခြင်းဖြစ်ကြောင်း သိနိုင်သည်။ ဂူအပေါ်အမိုးတွင် ရေးဆွဲထားသော ပန်းချီများမှာ ကောင်းမွန်ပြီး လက်ရာမြောက်လှသည်။ ဂူအမိုးတွင် ရေးဆွဲရသဖြင့် ရေးဆွဲသူသည် အောက်မှဆောက်ထားသော ငြမ်းပေါ်၌ ပက်လက်လှန်ကာ သို့မဟုတ် ဦးခေါင်းမော့ကာ ရေးဆွဲရသဖြင့် အလွန်ပင်ပမ်းသည်။ ဤသို့ ရေးဆွဲရသော ပညာရှင်၏ အရည်အချင်းကို ခန့်မှန်းသိနိုင်သည်ဟု သုတေသီများက သုံးသပ်ကြပါသည်။ အမိုးမျက်နှာကျက်တွင် ပက်လက်ရေးဆွဲရသဖြင့် ပြန်လည်ဆန်းသစ်သောခေတ်က ဥရောပ ပန်းချီပညာရှင်များက ဘုရားကျောင်း မျက်နှာကျက်များတွင် ရေးဆွဲကြသည့်နည်းထက် မလျော့နိုင်ချေ။ ဤသို့ ကပ်သီးကပ်သပ် လက်ရာမြောက်စွာ ရေးဆွဲခဲ့သဖြင့် မိုက်ကယ်အင်ဂျယ်လို ကျော်ကြားခြင်း ဖြစ်လေသည်။

ထို့ကြောင့်ပင် ဆရာမင်းသုဝဏ်က ၁၁ ရာစုခေတ်၏ ဘုရားလိုဏ်ဂူပန်းချီလက်ရာများသည် ခေတ်အရ ပြိုင်မည်ဆိုက အနောက်တိုင်းလက်ရာများနှင့် ကောင်းစွာ ယှဉ်ပြိုင်နိုင်သော အဆင့်တွင် ရှိသည်[၆၅] ဟူ၍ ရေးသား တင်ပြခဲ့ခြင်း ဖြစ်ပေသည်။ အချုပ်ဆိုသော် ငါးရာ့ငါးဆယ်ဇာတ်တော်များသည် မြန်မာ့ပန်းချီတိုးတက်မှုအတွက် များစွာအလေ့အကျင့် ဖြစ်စေပြီး များစွာ အရေးပါသော အခြေခံကောင်းအမွေများကို ပေးခဲ့ပေသည်။

ဤသို့ ငါးရာ့ငါးဆယ် ဇာတ်တော်များကို ပန်းချီပန်းပုပညာဖြင့်တင်ပြသဖြင့် ပြည်သူလူထုအများစုပိုမိုသိခွင့်ရလာသည်။ ပန်းချီပန်းပုပညာဖြင့် ပေါင်းစပ်လိုက်သောအခါ လူအများစု သိခွင့်မှာ စာပေထက်ပိုမိုကျယ်ပြန့်လာခဲ့သည်ဟု သုံးသပ်မိပါသည်။

## (၅) ငါးရာ့ငါးဆယ်ဇာတ်တော်များမှ စကားပုံများ

ဘာသာစကားတစ်ခုကို ဘာသာဗေဒနည်းဖြင့် လေ့လာကြသောအခါ စကားပုံများကိုလည်းလေ့လာကြရလေသည်။ မည်သည့်ဘာသာစကားတွင်မဆို စကားပုံများ အနည်းနှင့်အများ တွေ့ရလေ့ရှိပါသည်။ စကားပုံကို မြန်မာအဘိဓာန် အကျဉ်းချုပ် အတွဲ ၁ တွင် "အနက်အဓိပ္ပာယ်နှင့် ပြည့်စုံ၍ လူအများ စံပြု ပုံခိုင်း ပြောဆိုလေ့ရှိသော စကား"[၆၆] ဟု အဓိပ္ပာယ် ဖွင့်ပြပါသည်။

မြန်မာ့စွယ်စုံကျမ်း အတွဲ ၃ တွင် "စကားပြောဆိုရာတွင် ပိုမိုထိရောက်စေရန် ခိုင်းနှိုင်းပြောဆိုလေ့ရှိသော စကားမျိုး ဖြစ်သည်"[၆၇] ဟူ၍ ရှင်းပြထားပါသည်။

စကားပုံတို့သည် များသောအားဖြင့် စကားလုံး နည်းနည်းနှင့်အဓိပ္ပာယ် လေးနက်သည်က များသည်။ တစ်ခါတစ်ရံ မိမိဆိုလိုသည့်အချက်ကို စကားပုံဖြင့် အစားထိုး၍ ပြောနိုင်သည်။ အချို့စကားပုံများမှာ သတိပြုဖွယ်၊ နာယူဖွယ် ဥပဒေသများ ဖြစ်ကြလေသည်။

ဦးမင်းနိုင်က "စိတ်ပိုင်းယဉ်ကျေးမှုမှ ပေါက်ဖွားလာသည့် စာပေပင်စည်ကြီးမှ အကိုင်းအခက်များ ဝေဖြာ၍ ထွက်ခဲ့သည်တွင် စကားပုံသည်လည်း အကိုင်းအခက်တစ်မျိုးအဖြစ် ပါဝင်လေသည်။ ထို့ကြောင့် စကားပုံကို စာပေယဉ်ကျေးမှုမှ ဖြာထွက်လာခဲ့သည့် အကိုင်းအခက်တစ်မျိုးဟု ဆိုသင့်လေသည်"[၆၈] ဟူ၍ သုံးသပ်ထားပါသည်။ သို့ရာတွင် စကားပုံတိုင်းသည် စာပေမှ မြစ်ဖျားခံလာခြင်း မဟုတ်သည်ကိုလည်း သတိပြုသင့်ပါသည်။

မြန်မာ့စကားပုံများအနက် အချို့ စကားပုံများသည် စာပေမှ ဆင်းသက်လာသော စကားပုံများဖြစ်သည်ကို တွေ့ရပါသည်။ ယခုတင်ပြမည့် စကားပုံများကို ငါးရာ့ငါးဆယ်ဇာတ်တော်မှ ဆင်းသက်လာသော စကားပုံများအကုန်ဟု မယူဆစေလိုပါ။ လက်လှမ်းမီသမျှ တင်ပြခြင်းသာ ဖြစ်ပါသည်။

အရှေ့တိုင်းပညာဌာနမှ ဆရာဦးကြင်လှိုင်က "ဇာတက အဋ္ဌကထာကျမ်းလာ စကားပုံများ" ကို တက္ကသိုလ် ပညာပဒေသာစာစောင်တွင် တင်ပြခဲ့ဖူးပါသည်။[၆၉] ဆရာဦးကြင်လှိုင်၏ တင်ပြချက်ကို အခြေခံ၍ တင်ပြပါမည်။ ဆရာဦးကြင်လှိုင်က ငါးရာ့ငါးဆယ်ဇာတ်တော်များလာ စကားပုံများကို သုံးပိုင်းခွဲခြား၍ တင်ပြပါသည်။ ၎င်းတို့မှာ —

(၁) ဇာတ်လမ်းတစ်ခုလုံးကို အကြောင်းခံ၍ သုံးထားသော စကားပုံများ၊

(၂) ဇာတ်လမ်း တစ်စိတ်တစ်ဒေသကိုသာ အကြောင်းခံ၍ သုံးထားသော စကားပုံများ၊

(၃) ဇာတ်လမ်း၏ ဇာတ်ကြောင်းကိုသာ ယူပြီး အနက်သဘော မပျက်ယွင်းစေဘဲ ပြင်ဆင် သုံးနှုန်းသော စကားပုံများ ဟူ၍ ဖြစ်ပါသည်။

ပထမ အမျိုးအစားဖြစ်သော ဇာတ်လမ်းတစ်ခုလုံးကို အကြောင်းခံ၍ သုံးထားသောစကားပုံများမှာ ကေနိပါတ်တော်လာ သဉ္စိဝဇာတ်ကို အကြောင်းပြု၍ "ကျားသေ အသက်သွင်းသလို" ဟူသောစကားပုံ၊

ပဉ္စကနိပါတ်တော်လာ စူဠဓနုဂ္ဂဟဇာတ်ကို အကြောင်းပြု၍ "သူခိုးခါးရိုးကမ်း" ဟူသောစကားပုံ၊ ဧကနိပါတ်တော်လာ စူဠသေဋ္ဌိဇာတ်ကို အကြောင်းပြု၍ "ကြွက်သေတစ်ခု အရင်းပြု" ဟူသောစကားပုံများ ပေါ်ပေါက်ခဲ့ပါသည်။

ဒုတိယအမျိုးအစားဖြစ်သော ဇာတ်လမ်းတစ်စိတ်တစ်ဒေသကိုသာ အကြောင်းခံ၍ သုံးထားသော စကားပုံများမှာ အသီတိနိပါတ်တော်လာ မဟာသုတသောမဇာတ်ကို အရင်းခံ၍ "မရ ရသကချိုင်" ဟူသောစကားပုံ၊ တိကနိပါတ်တော်လာ ကစ္ဆပဇာတ်ကို အရင်းခံ၍ "နှုတ်ကြောင့်သေ၊ လက်ကြောင့်ကြေ" ဟူသောစကားပုံများ ပေါ်ထွက်ခဲ့ပါသည်။

တတိယ အမျိုးအစားဖြစ်သော ဇာတ်လမ်းသဘောမျှကိုသာယူပြီး ပြင်ဆင် သုံးနှုန်းထားသည့် စကားပုံများမှာ ဒုကနိပါတ်တော်လာ ကစ္ဆပဇာတ်ကို အရင်းခံ၍ "တစ်ရွာမပြောင်း သူကောင်းမဖြစ်" ဟူသောစကားပုံ၊ ဧကနိပါတ်တော်လာ မဟိဠာမုခဇာတ်၊ ဒုကနိပါတ်တော်လာ ဂိရိဒတ္တဇာတ်ကို အရင်းခံ၍ "အတုမြင် အတတ်သင်" ဟူသောစကားပုံ၊ ဧကနိပါတ်တော်လာ မိတ္တဝိန္ဒကဇာတ်၊ ပဉ္စကနိပါတ်လာ မိတ္တဝိန္ဒကဇာတ်နှင့် ဒသကနိပါတ်တော်လာ စတုဒ္ဒွါရဇာတ်တို့ကို အရင်းခံ၍ "ငရဲပန်းကိုနတ်ပန်းထင်" ဟူသောစကားပုံများ ပေါ်ပေါက်ခဲ့ပါသည်။

ဇာတ်တော်လာ စကားပုံများမှာ အကုန်အစင်မဟုတ်ပါ။ သဘောသိလွယ်ရုံ တင်ပြခြင်းသာ ဖြစ်ပါသည်။ မြန်မာ့စကားပုံများအနက် စကားပုံအချို့သည် ငါးရာ့ငါးဆယ် ဇာတ်တော်များမှ ဆင်းသက်လာကြကြောင်း သိသာရုံမျှသာ တင်ပြရခြင်း ဖြစ်ပါသည်။

ဇာတ်တော်လာအကြောင်းအရာများနှင့် ခိုင်းနှိုင်းတတ်ကြကြောင်းလည်းတွေ့ရသည်။ အလှူအတန်းရက်ရောသူကို "ဝေဿန္တရာ"၊ စကားမပြောသူ၊ စကားနည်းသူ၊ ရှေ့နှုတ်ပိတ်နေတတ်သူကို "တေမိ"၊ အတောင်းအရမ်းများသူ "မာဒဂ်" စသည်ဖြင့် တင်စားပြောဆိုတတ်ကြလေသည်။

# (၆) ငါးရာ့ငါးဆယ်နှင့် ဝေဒပညာ

ငါးရာ့ငါးဆယ် ဇာတ်တော်လာ **ဘုရားအလောင်းတော်၏** ဘဝများသည် လောကီလူသားများအတွက် ရှောင်ရှားဖွယ်များ၊ အားကျဖွယ်ရာများအဖြစ် စံတစ်ခုအနေဖြင့် သတ်မှတ်ကြသည်။ ဝေဒပညာရှင်များကလည်း ဇာတ်ကြီးဆယ်ဘွဲ့နှင့် ညှိနှိုင်း၍ ဟောပြောသည့်နည်းများကို ပြုစုလာကြသည်။ အဗျင်းကျောင်းကြီး ဆရာတော် ရေးသားပြုစုတော်မူခဲ့သည့် ဗေဒမကုဋမာလာ အမည်ရှိကျမ်းတွင် ဇာတ်ကြီးဆယ်ဘွဲ့အဟောကို တွေ့ရလေသည်။ ယင်းကို ဗုဒ္ဓဗေဒင်ဟု ရဟန်းရှင်လူတို့က ခေါ်ဝေါ်ကြောင်း ဆိုလေသည်။

**(က) ဗုဒ္ဓဗေဒင်နည်း။** ။ဤဗေဒင်ဟောနည်းမှာ နည်းလမ်းနှစ်မျိုးဖြင့် ဟောတတ်သည်။ ပထမတစ်နည်းမှာ မေးလာသူ၏ စကားလုံးရေကို တွက်၍ဟောနည်းဖြစ်သည်။ မေးသူ၏ စကားလုံး အရေအတွက်ကိုတည်၊ ၁၀ နှင့်စား၊ အကြွင်းကို "တေ၊ ဇ၊ သု၊ နေ၊ မ၊ ဘူ၊ စံ၊ နာ၊ ဝိ၊ ဝေ" ၁၀ ခုတွင် ကျရာက ဟောရသောနည်းဖြစ်သည်။ တစ်ခုကြွင်းလျှင် "တေ" တေမိမင်းအဟော၊ နှစ်ခုကြွင်းလျှင် "ဇ" ဇနကမင်းအဟော ဖြစ်သည်။

ဥပမာ ဗေဒင်မေးသူက "အလုပ်အကိုင် တိုးတက်ပါ့မလား" ဟု မေးလာလျှင် စကားသံ ကိုးလုံးရသည်။ ကိုးလုံးကိုတည်၊ ၁၀ နှင့်စား။ မစားလောက်သဖြင့် အကြွင်းကိုး ရသည်။ ထိုအခါ ကိုး ကျရာသည် "ဝိ" ဖြစ်၍ "ဝိဓူရ" အဟောကို ဟောရသည်။

အခြားတစ်နည်းမှာ မေးလာသူ၏ မွေးသက္ကရာဇ် အစွန်းဂဏန်းကို ကြည့်၍ဟောနည်း ဖြစ်သည်။

ဥပမာ ၁၂၆၈ ခုဖွားဆိုလျှင် အစွန်းဂဏန်း "၈" ဖြစ်၍ ရှစ်ကျရာသည် "နာ" ဖြစ်သောကြောင့် "နာရဒ" ဇာတ်တော်နှင့်ညှိ၍ ဟောခြင်းဖြစ်သည်။ မူကွဲတစ်ခုမှာ မေးလာသူ၏ မြန်မာသက္ကရာဇ်ကိုတည်၍ ရောက်ဆဲသက္ကရာဇ်နှင့်ပေါင်း၊ ပေါင်းရကိန်းကို ၁၀ နှင့်စား၍ အကြွင်းကို အထက်နည်းအတိုင်း ဟောရသောနည်း ဖြစ်သည်။

ဇာတ်ကြီးဆယ်ဘွဲ့အဟောကို အောက်ပါအတိုင်း ကဗျာဖြင့် ရေးဖွဲ့ထားသည်။

တေ–အကျ၊ ထွေလှတဲ့ကုသိုလ်ကံ၊
အကျိုးပေးပေတဲ့၊ အေးဆေးစွာ မစံရ၊
ဒုက္ခပူပန်။
ကိုယ့်ဌာနီနေရင်းက၊ ကွေ့ကွင်းဖို့ကိန်းရောက်ပြန်၊
ကေန္တမလွဲ။
အသစ်ကိုမြင်၊ အဟောင်းသူမကြင်လို့၊
အလုပ်ခွင် တစ်ဖုံပြောင်းမယ်၊ အောက်မေ့ကြံဆဲ။
ဇ–အကျ၊ အာဂကွယ့် ယောကျ်ားပါ။
ပင်လယ်တွင်း၊ သင်္ဘောတော် တစ်ချီပျက်ပေတဲ့၊
သက်မသေ ပြေကိုရသည့်နှယ်၊ ကိန်းကဖန်လာ။
အစဆိုးပေတဲ့၊ မြမျိုးကွယ့်သဏ္ဍာန်ပမာ၊
ညှို့မှာပင်နှစ်အုံး။
ရောင်မမှိန်၊ ပြောင်ထိန်ထိန် ဝါဝါဝင်းလို့ငယ်၊
လင်းမယ့်ရွှေဘုန်း။
သု–ဝဏ္ဏ၊ သာမတဲ့ ကိန်းအလို၊
ဝမ်းရင်မှာ ဥပဒ်မျှားငယ်၊ ပွားတတ်သကို။
စီးပွားလမ်းမှာဖြင့်၊ မှန်းတိုင်းပါ ပေါက်မယ်ဆို၊
ကြံလိုကကြံဖို့။
ကြံပေ၊ စီးပွားရွှေငွေတို့၊
ဒီရေလို အလိုလိုတိုးလိမ့်မယ်၊ ကျိုးကသန်လို့။
နေ–မိမင်း၊ မှန်ကင်းသို့ ယောကျ်ားပါ၊
သူ့သီလာ၊ အာစာရငယ်ကြောင့်၊
သက္ကဒေဝါက၊ မနေသာ ပြေရွှာပင့်တယ်၊
ကိန်းဖြင့်ကြုံလာ။
လူကြီးမိဘတို့၊ မစလိမ့် အခါခါ၊
မျက်နှာကပွင့်လန်း။

ကြုံလိုရာ၊ နှောင့်နှေးဘယ်မကြာနှင့်၊
မင်္ဂလာဇေယျတုငယ်၊ အောင်ဆုထွတ်ပန်း။
မ–မဟော်သဓ၊ အကျော်ရ မြတ်ပညာ၊
စကားအတွက်ကယ်ကြောင့်၊
တခြားထွက်ရန် ကိန်းပုံဆိုက်ချေငဲ့၊
နားစိုက်လိုက်ပါ။
ခဏမုန်းပေတဲ့၊ မြဘုန်းရှဲပုံပမာလို၊
ကြာလျှင်ဖြင့် အချစ်ထူး။
ကိုယ်စကား၊ တရားတွေအကုန်အောင်လို့၊
လှူဘောင်မှာ ဂုဏ်ရည်နှစ်ကယ်၊ သစ်သစ်ထိန်မြူး။ ။
ဘူ–အကျ၊ ပူရလိမ့်အခါခါ၊
ဘယ်လိုပင်သည်းခံငြားစေတော့၊
အများ နှိပ်စက်ညှဉ်းတတ်တယ်၊
သွင်းမှတ်လိုက်ပါ။
တရပ်ကယ်တရွာ၊ ထွက်ခွါရပါလိမ့်အုံး။
မယားတကွဲရယ်နှင့်၊ သားခွဲကာတကိုယ်တည်းငယ်၊
ဟီးချခွေနှုန်း။ ။
စံ – အကျ၊ အမှန်ပါ့ဟောလိုက်မည်။
တစ်ပါးသူမျက်မာန်ထောင့်ပါလို့၊ နှောက်ယှက်တတ်သည်။
အချုပ်ခန်း၊ ထောင်တန်းတဲ့ ကျလိမ့်မည်၊
တည်တည်ကွယ့် မှတ်စွဲ။
ကြည်မပြောင်၊ သည်တောင်ကို ကျော်အောင်တက်နိုင်က၊
အနန္တရတနာမျိုးငယ်နှင့်၊ တန်ဘိုးရှိန်တေဇာတို့၊
ဝေဆာဆာ သေချာကောင်းပါလိမ့်မကွယ်၊
လောင်းစန္ဒပဲ။ ။
နာ – ရဒ၊ ဇာတာက ကိန်းအလို၊
တန်ခိုးဂုဏ်တေဇာမျိုးငယ်၊ တိုးလိမ့်မကို။
ကိုယ့်သဘောရယ်နှင့်၊ ပြောတိုင်းပါ့လိုက်မယ်ဆို၊

ထိုထိုကသွယ့် လူအများ။
မြန်တိုင်းဘောင်၊ ကြံတိုင်းအောင် ဆောင်လျှင်မြောက်မယ်၊
ဘုန်းတောက်ယောကျ်ား။ ။

ဝိ – မူရ၊ ဇာတာက ရောက်ခဲ့ပြန်၊
အထင်လွဲသော်ကြောင့်၊ တနဲကသွယ် အပူတွေ့တတ်တယ်၊
ဟောလေ့ဝေဖန်။
သို့ပင်ဖြစ်သော်လဲ၊ မညစ်တဲ့ ဂုဏ်အလျှံ၊
တန်တန်ကသွယ့် တောက်မည်စွဲ။
ကြွကြွငယ်ဆူ၊
ခဏပူသည်သဘောငယ်၊
ပြောပလောက်ပဲ။ ။

ဝေ—ဝေဿန္တရ၊ ဇာတကကိန်းအလာ၊
တရပ်ကယ်တဌာန၊ ပြောင်းရလိမ့်မှာ။
နဂိုအလုပ်ကိုလဲ၊ ဖြုတ်မယ်လို့ကြံသည်သာ၊
နေရာတဲ့ရှာတုန်း။
အများလူ၊ မကြည်ဖြူ မျက်မာန်နှော၊တယ်၊
တောထွက်တဲ့ဘုံး။ ။[20]

**(၁) မဟာဝိသုဒ္ဓ လက္ခဏာကိန်း။** ။နောက်တစ်နည်းမှာ မဟာဝိသုဒ္ဓလက္ခဏာကိန်းနည်းဖြစ်ပါသည်။ မဟာဝိသုဒ္ဓလက္ခဏာကိန်းမှာ ဗုဒ္ဓဝင်ဇာတ်တော်များ၌ ပါရှိသော ဘုရားလောင်းနှင့်တကွ သူတော်ကောင်းတို့၏ ဖြစ်စဉ်ဖြစ်ရပ် အကြောင်းအရာများအပေါ် မှီငြမ်းပြု၍ ဟောကိန်းဆင်ထားခြင်း ဖြစ်ပါသည်။

* ရောက်ရှိသောအသက်ကိုတည်၍ ၇ ဖြင့် စားပါ။

* အကြွင်းဂဏန်းနှင့်တူရာ ရုပ်ပုံကိန်းများကိုကြည့်၍ ၎င်းကိန်းအတိုင်း မိမိတို့၏ ကံကြမ္မာကို အဖြေထုတ်နိုင်ပါသည်။

**တစ်ခုကြွင်းအဟော။**

ဝိသုဒ္ဓကာယဝဏ္ဏာနေ .... (စင်ကြယ်သော ကိုယ်၏အသွင်သဏ္ဍာန်ကြန်အင်လက္ခဏာဟုဆိုအပ်သော အလေ့အလာသည် .... )

ဤဟောကိန်းမှာ တေမိမင်းသည် ခမည်းတော်မယ်တော်တို့အား တရားဟောနေသောအခန်းကို ညွှန်းဆိုပါသည်။

"အလောင်းတော်မြတ်တေမိ၊ မှတ်စေဘိကိန်းသာ၊ ဇာတ်ဖွေညှိကြိမ်းအလာ၊ တိမ်းမကွာစေရ။ ရွှေပြည်မြတ်ထွက်ခန်းဝါကို၊ မင်္ဂလာလမ်းရှာ တောသို့ဝင်ကြွ။ အိုးအိမ်ပစ်လှမ်းကာခွာသည်၊ ချမ်းသာရာဌာန၊ မှန်းရာဟာ တခါကျသည်သို့၊ ပမာဏကိုယ်ကိုယ်။ မမျှားထင် ကြင်သူပစ်ကြလို့၊ ပြုံလူသစ်ပေါင်းလေပေါ့ကို၊ မြောက်ရပ်က ဖျက်ဆီးညိုသည် သက်မီးလိုဖို့ကြွဖို့၊ ပျိုအလှ ကွင်းလို့ဖယ်၊ ငြင်းစို့နှင့်မယ်၊ တရားရ ဤလနှယ်၊ သီလသယ်လုပ်ခန်းပလေး။

× × × ×

**နှစ်ခုကြွင်းအဟော။**

"မဇ္ဈိမဇာတကဖလေ" (မယုတ် မမြတ် အလတ်၏အကျိုးကို ပေးတတ်သော ဇာတသရုပ အကြောင်းသည်....)

ဤဟောကိန်းမှာ ဂဠုန်၊ နဂါး၊ သိကြားမင်း ကောရဗျမင်းတို့ အလံထူ၍ သီလပြိုင်သောအခန်းကို ညွှန်းသည်။

"ပြည်ဇမ္ဗူလောကတ္ထ၊ ကောရဗ္ဗကြိမ်းပါ၊ ဟောအပ်စွကိန်းလာငယ်၊ တိမ်းမကွာစေရ၊ ယိုမယုတ်စီးပွားနေမှာ၊ ကြီးမားချေ ပေးခွင့်ပေပ၊ စောင့်သီလ လက်မကွာလျှင်၊ အနဂ္ဃတေဇ။ ပျက်ပါရင်ဆွေအလှ၊ ဝေဒနာ့ရောက်ရာ၊ နောက်နှင့်တောင်သေန်ရပ်ဆီက၊ ကေဆံဖြတ် နှောက်ယှက်မည်သာ။ ခိုကိုတော့နေ့သောကြာကို၊ တွေ့ထောက်ကာ အမှန်ရပါလိမ့်နံ့အင်္ဂ စနေဂြိုဟ်၊ ဆည်ကပ်ဖို့ကို၊ သောရီနတ်စသွယ်ကျိုးသည်၊ မမယ်အို စောင့်တုန်းပလေး။"

**သုံးခုကြွင်းအဟော။**

"ပဏ္ဍိတလက္ခဏာသုခေ" (မြတ်သော ဒဗ္ဗပုည အဆောက် အအုံခိုင်ခံ့သော၊ ချမ်းသာခြင်းလက္ခဏာရှိသည်....)

ဤဟောကိန်းမှာ "ဒုကူလ" နှင့် "ပါရိက" "သုဝဏ္ဏသျှံ" ရွှေအိုး ထမ်း၍လာသော အခန်းကို ညွှန်းဆိုသည်။

"မင်းဒုကူမယ်ပါရိ၊ ငယ်ဇာတိခြိုးခြံ၊ နွယ်သာကီဆဒိုးမှန်၊ အဖိုးတန်ရငြား၊ ပူဒုက္ခ တဖန်ကြွယ်၊ အမှန်ကယ်ထူး၍ဆင့် ပွား။ ဝါသဝ သိကြားလာသည်၊ သနားစွာချင့်ငြား၊ စကား လျှာ ဖွင့်ကြားလို့၊ အင်အားလိုက်လျော်စွာ၊ စက္ခုမှာ ဝေဖြိုး၊ သားရွှေအိုးထမ်းလျက်ရောက်လာ၊ ကျိန်းအလိုက် ကိန်းဆိုက် ပါတယ်၊ တိမ်းစိုက်ရာကွာဝေးလို့၊ ကြာမနှေး မှန်းရာစုံ၊ ချမ်း သာမည့်ပုံ၊ ဇာတိက ခေတ်ဖြင့်ကြုံပြီ၊ လှစ်ဖွင့်စုံ ရွှေထီး ပလေး"

**လေးခုကြွင်းအဟော။**

ဟိနောအင်္ဂသာ ဝုစ္စတေ (ယုတ်ညံ့တန်ခိုး၊ အကျိုးမဲ့ဖွယ် ညှိုးငယ် တိမ်မြုပ်သော အင်္ဂါအဆိုသည်....)

ဤဟောကိန်းမှာ "ပုဏ္ဏက" ဘီလူးက ဝိဓူရအမတ်ကြီးအား မြင်း ဖြင့် သယ်ဆောင်သွားပြီး တောင်စောင်းနှင့် တိုက်သောအခန်းကို ညွှန်းဆိုသည်။

"ကံကုသိုလ်နှိပ်စက်လို့၊ စိတ်ပျက်ဖို့ကြီးအောင်၊ ထိပ်ထက် သို့မီးလောင်သည်၊ ညီးညီးပြောင်ပြောင်တောက်ပွား၊ ဇာတာ ညံ့အဟောကြုံသည်၊ သဘောကုန် တွေးလို့သနား၊ ဘုရားနှင့် သိကြားကယ်ပါ၊ ပွားမကျယ်စကား၊ များအလယ်တခြားမို့၊ တရား၌နှိုင်းရှည်။ မတ်ဝိဓူ ဂုဏ်မကြွသာဘု၊ ပုဏ္ဏကမြင်းမိုက်၊ နှင့်နှင်၊ လောင်းဗုဒ္ဓထွင့်ရှုတင်အောင်၊ မလွတ်ချင်သေငြား လို့၊ ထွေပြားတဲ့မှုအနေ၊ တွေးရှုသံဝေ၊ ဟိနသာပျက်ပစေကို လက္ခဏေကျရင်းမို့လေး"

ငါးခုကြွင်းအဟော။

ဝိသေသဒိပကမူလေ (ထူးမြတ်သော ဂုဏ်အရောင် ဆိမ်း တန်ဆောင်တို့ဖြင့် ထွန်းတောက်စိုက်ထားသော မူလသတင်း ကျော်စောခြင်းရှိသည်....)

ဤအဟောကိန်းမှာ နေမိမင်းကြီးအား မာတလိနတ်သားက ရထားနှင့်တင်ဆောင်သောအခန်းကို ညွှန်းဆိုသည်။

"ကောင်းရာမှာကောင်းတဆင့်၊ ကောင်းလာခွင့်ကြိမ်ကြုံ၊ ကောင်းရှာခြင်းကိန်းအဟုန်တွင်၊ ကိန်းအခြုံလွှန်လို့၊ ကောင်း မချို၊ ဘောင်းဖို့တွေမှာ၊ ကောင်းတိုးဝေ ကဲကြပါစို့၊ ကောင်း သမျှ ကောင်းညွှတ်ဝင်အောင်၊ ကောင်းလွှတ်စင်ဟာမို့၊ ကောင်းထွန်ရှတင်ပဏာကြွံကြုံကြရ၊ ပမာသို့ထူးစွာ၊ နေမိဆွေ စကြာမောင်းပါလို့၊ ထွက်လာကြောင်း ကောင်းတဲ့မူရာ၊ ကောင်းအချက် ကောင်းဘက်ကွာသည်၊ ကောင်းထက်သာအို ကောင်းလို့ နဂိုကောင်းတန်ခိုးထင် ဆိုးဖို့မမြင်။ ဇာတာမြတ် ကောင်းဟိတ်ရှင်တယ်၊ ကောင်းထိပ်တင်လွှန်ကဲလို့လေး"

ခြောက်ခုကြွင်းအဟော

"မန္ဒာနုရူပလဟုတော" (နုနှံ့နဲ့သောတန်ခိုး၊ ကဲမိုးသော ခန္တီ ဗလအစွမ်းအားဖြင့် အဆန်းတကြယ် လီဆယ်နှိပ်စက်ခံရ ခြင်းသည်....)

ဤဟောကိန်းမှာ ဘူရိဒတ်နဂါးမင်းကို အလမ္ဗာယ်ဆရာ ဖမ်းမိ သောအခန်းကို ညွှန်းဆိုသည်။

"အလောင်းတော် ရေနာဂ၊ မြွေရာဇလေးစွာ ပြေဌာနဝေး ကွာသည်၊ စေရာမရှိ၊ ဒေဝဒတ်လက်ထဲမှာကြုံသည်၊ ခက်ခဲပုံ ဘေးတွေကဖိ၊ သည်ကိန်းရောက်သောအခါဆိုင်သည်၊ ဇာတာ တိုင်နေထိ၊ ကြမ္မာရိုင်ခွေအိသို့၊ ကြွေမချိသည်းမှာ။ မီးခိုးသူ ယခုမှားပါလို့၊ အမူအားများမည့်မကြာ၊ ကျွဲပျောက်နှင့် ကျွန်

ကွာ၊ လွန်တရာရှုပ်ထွေး၍ နွတ်ရေးကြောင့်ရန်ခိုက်မြင်၊ ထိန်းစောင့်စေချင်၊ ဘူနှိပ်စက်ကံစငင်သည်၊ ခံရအင် လွတ်ခဲလိမ့်လေး”

ခုနစ်ကြွင်းအဟော

“စောရာဒိဂုစိဥ္စဘာဝေ” (သူခိုးတို့၏ အလို ငြိုငြိုငြင်ငြင်မကြည်လင်သောဆန္ဒ အငတ်တန်လှုပ် ဖျက်ဆီးတတ်သောမနောအယူအဖို့သည်....)

ဤဟောကိန်းမှာ အင်္ဂလိမာလ ခိုးသူကြီး၌ ဘေးအန္တရာယ်မကျရောက်စေရန် မိခင်က လိုက်၍သွားသောအခန်းကို ညွှန်းဆိုသည်။

“ကံကုသိုလ်မတည့်ခိုက်၊ အရွဲတိုက်ပစ်မယ်၊ တကယ့်သိုက်ခေတ်လယ်မှာ၊ မြစ်သဖွယ်ယိုစီး၊ နေ့ရက်ဆက် ငွေကြေးကုန်သည်၊ ပေဆေးပုံ မီးတောက်ကကြီး၊ ကပ်ရောဂါ ထက်ကြပ်မီသည်၊ သက်ပြတ်မည် အနီး၊ ဘက်စပ်သည်အကြီးဟု၊ တသီးပ ထိုသူ၊ ပျောက်မပြေ ကြောက်ပေကြလေတော့၊ နောက်မွေစကင်းလို့မပြူ၊ မှုဒုက္ခစစထူသည်၊ တသပူငန့်ရေးပ၊ ပျှမွေး၍သတင်းလာ၊ ကောင်းရမည်သာ။ စောင့်သိလကိုယ်မကွာလျှင်၊ ဆိုစရာ လွတ်ကင်းလိမ့်လေး”၇၁

ဤမဟာဝိသုဒ္ဓ လက္ခဏာကိန်း ဟောနည်းမှာ တွေ့ရှိသည့်အတိုင်း အပြည့်အစုံ ဖော်ပြခြင်းဖြစ်ပါသည်။ ခုနစ်ခုကြွင်းအဟောမှာ ဇာတ်တော်များနှင့် မဆိုင်ချေ။ တစ်ခုကြွင်းမှ ခြောက်ခုကြွင်းအထိသည် မဟာနိပါတ်တော်ဖြစ်သော ဇာတ်ကြီးဆယ်ဘွဲ့မှ တေမိဇာတ်၊ ဝိဓူရဇာတ်၊ သုဝဏ္ဏသာမဇာတ်၊ နေမိဇာတ်နှင့် ဘူရိဒတ်ဇာတ်တို့မှ ဖြစ်ကြောင်း တွေ့ရပါသည်။ အခြားနည်းများလည်း ရှိနိုင်ပါသေးသည်။ ဝေဒပညာရှင်များ ဆက်လက်ဖော်ထုတ်ပေးသင့်ပါကြောင်း မေတ္တာရပ်ခံလိုပါသည်။

အခန်း ၈

# ငါးရာ့ငါးဆယ်နှင့် မြန်မာ့ကိုယ်ကျင့် တရားများ

မြန်မာနိုင်ငံ မြို့ပြခေတ် စကတည်းကပင် ဗုဒ္ဓဘာသာ ရောက်ရှိနေကြောင်း သမိုင်းအထောက်အထားများ တွေ့ရပါသည်။ မြန်မာနိုင်ငံ၏ သမိုင်းဦးတွင် အခြားယုံကြည်ကိုးကွယ်မှုများ ရှိကြသော်လည်း ဗုဒ္ဓဘာသာကိုးကွယ်မှုက ပိုမိုကျယ်ပြန့်နေပါသည်။ ပုဂံခေတ်တွင် ဗုဒ္ဓဘာသာကိုးကွယ်မှုသည် ပိုမို ခိုင်မာလာကြောင်း တွေ့ရပါသည်။ ထို့ကြောင့် မြန်မာ့ လူမှုရေးများတွင်ပင် ဗုဒ္ဓ၏ အဆုံးအမများကို ကိုယ်ကျင့်တရားများအဖြစ် လိုက်နာ ကျင့်သုံးလာကြသည်။ ငါးရာ့ငါးဆယ် ဇာတ်တော်များသည် ဗုဒ္ဓ ဟောကြားတော်မူသော သုတ္တန် ဒေသနာတော်များအဖြစ် ဗုဒ္ဓဘာသာဝင်များက ယုံကြည်ကြပါသည်။ ဤငါးရာ့ငါးဆယ်ဇာတ်တော်များလာ အဆုံးအမများကိုလည်း အလေးအနက်ထား၍ လိုက်နာ ကျင့်သုံးကြသည်။ မြန်မာ့လူမှုရေး ကိုယ်ကျင့်တရားများအနက် ငါးရာ့ငါးဆယ် ဇာတ်တော်များလာ အဆုံးအမများကို ဆက်လက် တင်ပြပါမည်။

## (၁) မင်းတို့၏ ကိုယ်ကျင့်တရားများ

မြန်မာနိုင်ငံတွင် သမိုင်းဦး မြို့ပြခေတ်ကတည်းက မင်းများ အုပ်စိုးလာခဲ့သည်မှာ သီပေါမင်း ပါတော်မူသည့်အချိန်ထိ ဖြစ်သည်။

နှစ်ပေါင်း ၁၇၀၀ ကျော်ကြာကြာ မင်းများအုပ်စိုးခဲ့သည်။ ရှေး မြန်မာမင်းများသည် တိုင်းပြည်အုပ်ချုပ်ရာတွင် မင်းကျင့်တရားနှင့် အညီ အုပ်ချုပ်သည်ဟူသော သတင်းဖြင့် ထင်ပေါ်ရခြင်းကို များစွာ နှစ်လိုကြသည်။ မင်းအဖြစ် လျာထားခံရသူ နန်းလျာများ၊ မင်း၏ သားတော်များကို မင်းများ လိုက်နာကျင့်သုံးအပ်သည့် တရားများ၊ ကိုယ်ကျင့်များကို အကြီးတော်ဆရာများက သွန်သင်ညွှန်ပြ ဆုံးမကြ သည်။ ဤမင်းကျင့်တရားများသည် ဗုဒ္ဓ၏အဆုံးအမ ဒေသနာတော် များလာ တရားတော်များပင် ဖြစ်ပါသည်။ ဖော်ပြပါ မင်းတို့နှင့် သက်ဆိုင်သည့် ကိုယ်ကျင့်တရားများမှ ငါးရာ့ငါးဆယ် ဇာတ်တော် လာ အဆုံးအမများကို တင်ပြပါ သည်။

ပုဂံခေတ်တွင် ကျစွာမင်းသည် အမိန့်တော်ပြန်တမ်း တစ်စောင် ထုတ်၍ ပြည်ရွာအနှံ့ စိုက်ထူထားပါသည်။ ကျစွာမင်း၏ အမိန့်တော် ပြန်တမ်းတွင် ဤသို့တွေ့ရပါသည်။

> "လူများတကာတို့၊ ဤလူတွင်သော ချမ်းသာ (တမလွန် သော ချမ်းသာ) ကို လိုသောသူကား ဤငါ့စကားကို ရိုသေ သော (ယုံသောမူ၍) လှမစောက် နားထောင်၍ နာအပ်၏။ (အဘယ်ကြောင့်) နှေးဟူမူကား၊ အကြင်ကြောင့် ဤငါ့ စကားကား မိမိ(ကိုပညာ)ဖြင့် ကြံ၍ဆို (သော)မဟုတ်စွာ။ မြတ်စွာသော (ဘုရားသခင် သဗ္ဗညု) စကားကို မှီ၍ ဆို သတေး။"၁

ဟူ၍ မိမိထုတ်ပြန်သော အမိန့်တော်ပါ စကားတို့သည် မိမိ၏ ပင်ကိုပညာဖြင့် ဆိုခြင်းမဟုတ်။ မြတ်စွာဘုရား၏ အဆုံးအမစကား ကိုမှီ၍ ဆိုရခြင်းဖြစ်ကြောင်း ရေးထိုးထားပါသည်။

ကုန်းဘောင်ခေတ်ဦးတွင် မြန်မာပြည်ရွာသည် အကွဲကွဲအပြားပြား ဖြစ်နေလေသည်။ အလောင်းဘုရားသည် မြန်မာနိုင်ငံကို ပြန်လည် စည်းရုံးထူထောင်ရသော မင်းဖြစ်သည်။ မင်းအဖြစ်ရသော် ပြည်ရွာ လူထု၏ ယုံကြည်မှုကို ရရန် လိုအပ်လေသည်။ ပြည်ရွာ၏ ယုံကြည်

မှုကိုရရန် စည်းရုံးသောအနေဖြင့် အမိန့်တော်ပြန်တမ်းများ ထုတ်ပြန်လေသည်။ အမိန့်တော်ပြန်တမ်း တစ်စောင်တွင်....

> "ငါဘုရားအလောင်းသည်ကား ဘုရားရှေ့မျက်နှာတော်ကို ကြည့်၍ ၁၀ ပါးသော တရားဓမ္မ၊ လောကတရား ၇ ပါး၊ သင်္ဂဟတရား ၄ ပါး၊ ၅ ပါးသော ပဋိညာဉ်၊ ၄ တန်သော စကား၏ အင်္ဂါ၊ ယမမင်းကဲ့သို့ ၄ ပါးသော ဂတိကို မငဲ့မူ၍ သတ္တဝါအပေါင်းတို့အား ၅၂၈ ပါးသော မေတ္တာနှင့် ရတနာ သိင်္ခ ကုန်းဘောင် ရွှေမြို့တော်ကြီးကို တည်ထောင်၍ ပြုစု သိမ်းမြန်းတော် မူလျှင်...."၂

ဟူ၍ တွေ့ရပါသည်။ ကျစွာမင်း၊ အမိန့်တော် ပြန်တမ်းပါ "မြတ်စွာသော ဘုရားသခင် သဗ္ဗညုတစကားကို မှီ၍ ဆိုသတေး" ဟူသောစကားနှင့် အလောင်းဘုရား၏ အမိန့်တော်ပြန်တမ်းပါ"ဘုရားရှေ့မျက်နှာတော်ကိုကြည့်၍" ဆိုသော စကားတို့ကို ကြည့်ခြင်းဖြင့် ဗုဒ္ဓ၏ အဆုံးအမများကို ကိုယ်ကျင့်တရားများအဖြစ် လိုက်နာကျင့်သုံးကြကြောင်း တွေ့နိုင်လေသည်။

မြန်မာမင်းများလက်ထက်တွင် မုဒ္ဓါဘိသိက္ကမင်းနှင့် သာမညမင်း ဟူ၍ရှိရာ မင်းနှစ်ပါးခြားနားပုံကို ကန့်စစ်ကဲ မင်းထင်ရာဇာက ဤသို့ ခွဲခြားပြထားပါသည်။

> "ကျမ်းဂန်ထုံးစံနှင့်အညီ ဦးထိပ်နှိုက် သွန်းအပ်သော အဘိသိက်ရှိသော မင်းသည် မုဒ္ဓါဘိသိက္ကမင်း မည်၏။ ဆိုအပ်ပြီးသော နည်းဖြင့် ဦးထိပ်၌ သွန်းလောင်းအပ်သော အဘိသိက် မရှိသောမင်းသည် သာမညမင်း မည်၏။ ထို သာမညမင်းကား မုချအားဖြင့် မင်းဟူသောဝေါဟာရကို မရချေ"၃

ဤအရေးအသားကိုထောက်၍ မင်းတိုင်းမင်းတိုင်း မုဒ္ဓါဘိသေက ခံယူတော်မူတတ်ကြကြောင်း သိနိုင်လေသည်။ မုဒ္ဓါဘိသိက် မခံယူပါက မင်းအဖြစ် အုပ်စိုးနေသော်လည်း မင်းဟူ၍ မသမုတ်ကြချေ။ ထိုပြည်ကိုလည်း မင်းသုဉ်းနေသောပြည်ဟူ၍ ခေါ်ဝေါ်တတ်ကြသည်။

သဒ္ဒနီတိကျမ်း၌လည်း မုဒ္ဓါဘိသိက်ကိုခံယူမှ မဟာရာဇ မည်သင့်ကြောင်းကို ဆိုသည်။[၄]

မင်းတိုင်း မုဒ္ဓါဘိသိက် ခံယူသော်လည်း မှတ်တမ်းများမတွေ့ရချေ။ တွေ့ရသော မှတ်တမ်းများအနက် သာလွန်မင်းတရားကြီး၏ ရာဇဘိသေက မုဒ္ဓါဘိသိက်ခံ စာတမ်းတွင်....

"ဤအဘိသိက်ခံသည်ကို ပြုခြင်း၌ အဘိသိက်အစီရင်ကိုလည်း ဤသို့ သိအပ်၏။ အဘိသိက်မင်္ဂလာ ပြုအံ့သောငှာ တန်ဆာဆင်ခြင်းနှင့် ယှဉ်သော မဏ္ဍပ်၏ အတွင်း၌ ပြုအပ်သော ရေသဖန်းခက်ဖြင့် ပြုအပ်သော မဏ္ဍပ်၏ အလယ်၌ ကောင်းစွာ ပြုအပ်သော ရေသဖန်းအင်းပျဉ်၌ အဘိသိက်ခံခြင်းငှာ ထိုက်သော အမျိုးမြတ်သော ရေမြေသခင်မင်းကို နေစေ၍ ....ထိုမင်းကြီး၏ ဥက္ကောင်းထက်၌ ရှိသေစွာစိုက်၍ ထိုခရုသင်းဖြင့် ထိုမင်းကြီး၏ထိပ်၌ အဘိသိက်ရေကို အဘိသိက်သွန်း၏"[၅]

ဟူ၍ တွေ့ရပါသည်။ အဘိသိက်ခံသောမင်းသည် ရေသဖန်းပျဉ်ပေါ်တွင် ထိုင်ရခြင်း၊ မင်း၏ ဦးခေါင်းတော်၌ ရေသွန်းလောင်းခြင်း အစဉ်အလာကို လေ့လာသောအခါ ပကိဏ္ဏကနိပါတ် ကိုးခုမြောက် တစ္ဆသုကရဇာတ်၏ အစဉ်အလာရဖြစ်ကြောင်း ဆီးဘန်းနီ ဆရာတော်က မိန့်ဆိုတော်မူပါသည်။[၆]

ညောင်ကန်ဆရာတော်ကမူ "တိကနိပါတ် အဗ္ဗန္တရဝဂ်လာ၊ ဝစ္ဆကီ သူကရ ဇာတ်တော်တွင် ဝစ္ဆကီ သူကရ ဝက်ပျိုမင်းကို ဝက်အပေါင်းက ခရုသင်းနှင့် အဘိသိက်သွန်း၍ မင်းပြုသည်မှစ၍ ယနေ့တိုင် မင်းတို့ကို ရေသဖန်းပျဉ်၌ နေစေ၍ ခရုသင်း သုံးခုတို့ဖြင့် အဘိသိက်သွန်းကုန်သတည်း...."[၇] ဟူ၍ မိန့်ကြားခဲ့ပါသည်။

အထက်ဖော်ပြပါ ဇာတ်တော်အကျဉ်းချုပ်မှာ –

ဗာရာဏသီပြည်မှ လက်သမားတစ်ဦးသည် ငယ်စဉ်ကပင် မိမိမွေးထားသော တစ္ဆသုကရ မည်သောဝက်ကို ချမ်းသာစေရန် တော၌ လွှတ်ထား၏။ ထိုဝက်သည် အပေါင်းအဖော်ဝက်များနှင့် အတူနေ၏။

ထိုတော၌ ကျားတစ်ကောင်သည် ရသေ့စဉ်းလဲနှင့်ပေါင်း၍ ဝက်များကို သတ်ဖြတ်စားသောက်နေ၏။ တစ္ဆသုကရဝက်ပျိုသည် ဝက်အပေါင်းနှင့် စုပေါင်းပြီး ကျားကို ရင်ဆိုင်တိုက်ခိုက်သတ်ဖြတ်၏။ ကျားသေသော အခါ ရသေ့စဉ်းလဲကိုလည်း သတ်ဖြတ်၏။ ဝက်အပေါင်းတို့သည် အလုံးစုံရန်အောင်ပြီးသောအခါ တစ္ဆသုကရ ဝက်မင်းကို ဝက်ပျိုမ တစ်ကောင်နှင့်အတူ ရေသဖန်းတုံးထက်တွင်တင်၍ ရသေ့စဉ်းလဲ ရေ သောက်သော ခရုသင်းဖြင့် ရေကိုဆောင်ယူပြီး ဦးထိပ်ထက်မှ ရေစင် သွန်း၍ မင်းအဖြစ် မြှောက်ကြလေ၏။ ဝဍ္ဎကီ သုကရ ဇာတ်သည် လည်း ဤအတိုင်းပင် ဖြစ်ပါသည်။

ဤအစဉ်အလာအတိုင်း မင်းများကို အဘိသိက်ခံသော အခါတွင် လည်း ရေသဖန်းပျဉ်ထက်တွင် အဘိသိက်ရေ သွန်းလောင်းခြင်းဖြင့် မုဒ္ဓါဘိသေကကို ခံယူစေလေသည်။ ထို့ကြောင့် ငါးရာ့ငါးဆယ် ဇာတ် တော်တို့သည် အဘိသိက်တင်မြှောက်ရာတွင်လည်း ဩဇာသက်ရောက်မှု ရှိလာသည်ကို တွေ့ရပါသည်။

မင်းများအုပ်စိုးသောခေတ်ဘွင် မင်း၏ကိုယ်ကျင့်တရား ကောင်း မွန်ခြင်းသည် နိုင်ငံ တိုးတက်ရေး အတွက် အဓိက အရေးပါသော အကြောင်းတစ်ရပ်ဖြစ်ပါသည်။

"လူတကာ၏၊အချုပ်ဦးခေါင်း၊သူတော်ကောင်းမူ၊အပေါင်း စင်စစ်၊ သူကောင်းဖြစ်၏။ မွေးရစ်သာမော၊ အင်ကြင်းတော ဝယ်၊ သဘောကျေးဇူး၊ ဂုဏ်ရည်ထူးသား၊ စန္ဒကူးကြိုင်မွှန်း၊ တပင်ထွန်းက၊ရုံဝန်းပတ်ကုံး၊တောအလုံးလည်း၊လွှမ်းဖုံးပျံ့လှိုင်၊ မွှေးမွှေးကြိုင်၏"၈

"ဦးကိုင်ထွတ်ချာ၊ ကျင့်ယုတ်မာက၊ ရပ်ရွာပျော်ပါး၊ ထို ငယ်သားတို့၊ တရားယွင်းလစ်၊ အမူညစ်၏"၉

"တက်မတစ်စင်း၊ခိုပျက်ယွင်းသော်၊တစ်သဘော်လုံး၊ ပျက် သောထုံးသို့၊ ပတ်ကုံးမလှ၊ ပြည်လုံးကြွလိမ့်"၁၀

ဟူ၍ ရေးဖွဲ့ထားသည်များကိုကြည့်၍ မင်းမကောင်းလျှင် ငယ်သား များ မကောင်းနိုင်။ ငယ်သားများမကောင်းလျှင် ပြည်ရွာလူထု ပင်

ပန်းဆင်းရဲ ရလိမ့်မည်။ ပြည်ရွာလူထု ပင်ပန်းဆင်းရဲသော နိုင်ငံသည် တိုးတက်မှုထက် ဆုတ်ယုတ်မှုဘက်သို့ ဦးတည်ရွေ့လျားသွားလေတော့ သည်။ ထိုအကြောင်းများကို ငါးရာ့ငါးဆယ် ဇာတ်တော်များက သတိပေးထားသည်။ တိံသနိပါတ်၊ ဘဏ္ဍုတိဏ္ဍုကဇာတ်တွင် အကျင့် တရား ပျက်ယွင်းနေသဖြင့် ပြည်သူများက မင်းကို ဆဲရေးကြောင်း တွေ့ရပါသည်။

ဆူးစူးသော အဘိုးအို၊ ဟင်းရွက်ခူးစဉ် ချုံပေါ်က လိမ့်ကျသဖြင့် ဒုက္ခရောက်ရသော အမယ်အို၊ ထွန်သွားခြစ်မိသဖြင့် ဒုက္ခရောက်ရသော လယ်သမား၊ နွားကန်ခံရသော နို့ညှစ်သမား၊ နွားငယ် အသတ်ခံရ သည့် ရွာသားများ၊ ကျီးစားခံရသော ဖားအတွက် ဒေါသ ထွက်နေ သော ဖားငယ်၊ ဤခြောက်ဦးက မိမိတို့ ရောက်ရသော ဒုက္ခသည် မင်း ကိုယ်ကျင့်တရားမရှိသောကြောင့် ဖြစ်သည်ဟု ယုံကြည်ပြီး မင်းကို ဆဲရေးသောဇာတ်ဖြစ်ပါသည်။ မိမိတို့ခံရသောဒုက္ခနှင့် မင်း ကိုယ်ကျင့် တရား မရှိပုံ မည်ကဲ့သို့ ဆက်စပ်နေသည်ကို ရှင်းလင်းပြထားသည် များမှာ စိတ်ဝင်စားဖွယ် ကောင်းလေသည်။ ဤဇာတ်တော်ကို အလွယ်မှတ်မိစေရန် မုံတိုင်ပင်ဆရာတော်က ဤသို့ဖွဲ့ပါသည်။

"ကျောက်ကန်တသွယ်၊ နွားငယ်တခြား၊ ကျီးစားတထူး၊
ဟင်းရွက်ခူးနှင့်၊ ဆူးစူးထွန်သွား၊ ခတ်မိငြား၍၊ မင်းအား
မနေ၊ ဆဲရေးလေသည်။ မှတ်လေစကား ဤခြောက်ပါး"၁၁

ဤဇာတ်တော်သည် မင်းတို့ မင်းကျင့်တရား ရှိသင့်ကြောင်း ဆုံး မရာတွင် ဥပမာကောင်းသော ဇာတ်တော်ဖြစ်ပါသည်။

မြန်မာမင်းများ လက်ထက်တွင် မင်းအသုံးအဆောင်အဖြစ် မင်း မြောက်တန်ဆာငါးပါးဟူ၍ ရှိလေသည်။ ဤမင်းမြောက်တန်ဆာ ငါး ပါးဟူသည်မှာလည်း သဋ္ဌိနိပါတ်တော်လာ "သံကိစ္စဇာတ်" တွင် ဖော်ပြထားသော မင်းမြောက်တန်ဆာငါးပါး ဖြစ်လေသည်။

ဇာတ်တော်တွင် –

"ကာသိနံ၊ ကာသိတိုင်းသူတို့၏။ ရဋ္ဌဝဍ္ဎနော၊ တိုင်းပြည် သူအပေါင်းတို့ကို ပွားစေတတ်သော။ ရာဇာ၊ ဗြဟ္မဒတ်မင်းကြီး

သည်။ ဝါဠဗီဇနိ၊ သားမြီးယပ်ကိုလည်းကောင်း။ ဥဏှိသဥ္စ၊ ရွှေသင်းကျပ်ကို လည်းကောင်း။ ခဂ္ဂဥ္စ၊ သန်လျက်ကိုလည်းကောင်း။ ဆတ္တဥ္စ၊ ထီးဖြူကိုလည်းကောင်း။ ဥပါဟနဥ္စ၊ ရွှေခြေနင်းကိုလည်းကောင်း။ ဣတိ၊ ဤသို့။ ပဥ္စက ကုဓာနိ၊ ငါးပါးကုန်သော မင်းမြောက်တန်ဆာတို့ကို။ နိက္ခိပ၊ ထားခဲ့၍....''၁၂ ဟူ၍ တွေ့ရပါသည်။

မင်းတို့မည်သည် မင်းမြောက်တန်ဆာငါးပါးနှင့် ပြည့်စုံရမည့်အပြင် အားငါးပါးနှင့်လည်း ပြည့်စုံရလေသည်။ မင်တို့ပြည့်စုံရမည့် အားငါးပါးမှာ –

(၁) ဗာဟုဗလ = ခွန်အားဗလနှင့် ပြည့်စုံခြင်း။
(၂) ဘောဂဗလ = ကျီကျဘဏ္ဍာတို့နှင့် ပြည့်စုံခြင်း။
(၃) အမစ္စဗလ = မှူးမတ်၊ မှုထမ်းရာထမ်းအပေါင်းနှင့် ပြည့်စုံခြင်း။
(၄) အဘိဇစ္စဗလ = ဘေးဘိုးတိုင် မပြတ် မင်းရိုးမင်းနွယ် ဖြစ်ခြင်း။
(၅) ပညာဗလ = အသိဉာဏ်ပညာနှင့် ပြည့်စုံခြင်း။''၁၃

ဟူ၍ ဖြစ်လေသည်။ ဤငါးပါးသည် စတ္တာလီသ နိပါတ်တော်လာ တေသကုဏဇာတ်တွင် ပါရှိသော အားငါးပါးဖြစ်ကြောင်း တွေ့ရပါသည်။ ဇာတ်တော်တွင် –

"မဟာရာဇ၊ မြတ်သောမင်းကြီး။ လောကေ၊ သတ္တလောက၌။ မဟဂ္ဂတေ၊ မြတ်သောဆန္ဒရှိသော။ ပုရိသသ္မိံ၊ ယောက်ျား၌။ ဗလံ၊ အားသည်။ ကာယ၊ ဘောဂ၊ အမစ္စ၊ ဇာတိ၊ ပညာဗလ စသေန၊ ကိုယ်အား၊ စည်းစိမ်အား၊ အမတ်အား၊ အမျိုးအား၊ ပညာအားတို့၏ အစွမ်းအားဖြင့်။ ပဥ္စဝိဓံ ငါးပါးအပြားရှိ၏....''၁၄ စသည်ဖြင့် တွေ့ရပါသည်။

မင်းတို့ လိုက်နာ ကျင့်သုံးအပ်သော ကိုယ်ကျင့်တရားများတွင် မင်းတို့ချုပ်တည်းအပ်သောအရာဟူ၍ သုံးမျိုးရှိလေသည်။ ၎င်းတို့မှာ –

(၁) မုသာဝါဒ = မမှန်သော စကားဆိုခြင်း။
(၂) ကောဓ = အမျက်ထွက်ခြင်း။
(၃) ဟာသ = ရယ်ရွှင်ဖွယ်စကားပြောခြင်း

ဟူ၍ ဖြစ်ပါသည်။ ဤတရားတို့သည် စတ္တာလီသ နိပါတ်လာ တေသကုဏဇာတ်မှပင် ဖြစ်ပါသည်။ ထို့ပြင် –

"တာတ၊ ခမည်းတော်မင်းမြတ် ဗြဟ္မဒတ်၊ ရာဇာ နာမ၊ မင်းမည်သည်ကား၊ ပဌမမေနေဝ၊ ရှေးဦး မဆွကသာလျှင်၊ ဝိတထံ၊ မမှန်စကား မုသားဆိုခြင်းကိုလည်းကောင်း၊ ကောဓံ အမျက်ထွက်ခြင်းကိုလည်းကောင်း၊ ဟာသံ၊ ပေါ်လွင်ရွှင်မြူး ခြင်းကိုလည်းကောင်း၊ နိဝါရယေ၊ ကြဉ်ရှောင်ရာ၏"[၁၅] ဟူ၍ ဇာတ်တော်တွင် ဖော်ပြထားပါသည်။ ဤသုံးပါးကို အလွယ်မှတ်သား စေနိုင်ရန် မုံတိုင်ပင်ဆရာတော်က သုံးပုံလေ့ကားကျမ်းတွင် ဤသို့ ရေးသားထားပါသည်။

"မုသာဝါဒ၊ ပထမတည့်၊ ဒုတိယမှာ ကောဓလော၏ တဖြာ ဟာသ၊ ဤသုံးဝကို၊ ရှောင်ကြဉ်အပ်စွာ၊ မင်းဝယ်လာသည်။ မက္ခာမြဲတွေ့ စွဲမှတ်လေ"[၁၆]

မင်းတို့ကျင့်သုံးရမည့် တရားများအနက် မင်းကျင့်တရား ၁၀ ပါး သည် ထင်ရှားပါသည်။ မြန်မာမင်းများသည် ဤမင်းကျင့်တရား ၁၀ ပါးကို မည်သည့်ခေတ်ကတည်းက လိုက်နာ ကျင့်သုံးခဲ့ကြောင်း အတိအကျဖော်ပြရန် မလွယ်ကူသေးချေ။ အစောဆုံးအဖြစ် စတု ရင်္ဂဗလ အမတ်ကြီးရေးသည့် "ရွှေဘဝါးတော်အောက်" ချီ ရတုတွင် တွေ့ရပါသည်။ ဤရတု ဒုတိယပိုဒ်၌ –

"မင်း၏တရား၊ ကျင့်ဆယ်ပါးနှင့်၊ မမှားအယူ၊ နတ်လူ ပူဇော်၊ မင်းရဲကျော်ဝယ်" ဟူ၍ တွေ့ရပါသည်။ ဤမင်း ကျင့်တရား ၁၀ ပါးကို ဆက္ကနိပါတ်၊ နန္ဒိယမိဂဇာတ်နှင့် အသီတိနိပါတ် မဟာဟံသဇာတ်တော်တို့တွင် တွေ့ရပါသည်။ နန္ဒိယမိဂဇာတ်တွင် –

"ဒါနံသီလံ ပရိစ္စာဂံ၊ အဇ္ဇဝံ မဒ္ဒဝံတပံ။
အက္ကောဓံ၊ အဝိဟိံသဉ္စ၊ ခန္တိဉ္စ အဝိရောဓနံ။
ဣစ္စေတေ၊ ကုသလေဓမ္မေ၊ ဌိတေပဿာမိ အတ္တနိ။
တတော မေ ဇာယတေ ပီတိ၊ သောမနဿဉ္စ နပ္ပကံ"၁၇

ဟူ၍ တွေ့ရပါသည်။ ဤမင်းကျင့်တရား ၁၀ ပါးကို အသီတိနိပါတ်၊ မဟာဟံသဇာတ်တော်တွင် ညောင်ကန်ဆရာတော်က ဤသို့ အဓိပ္ပာယ် ပြန်ဆိုထားပါသည်။

ဒါနံ = အလှူပေးခြင်းလည်းကောင်း၊
သီလံ = သီလဆောက်တည်ခြင်းလည်းကောင်း၊
ပရိစ္စာဂံ = ပေးကမ်းစွန့်ကြဲခြင်းလည်းကောင်း၊
အာဇ္ဇဝံ = ဖြောင့်မတ်ခြင်းလည်းကောင်း၊
မဒ္ဒဝံ = နူးညံ့ခြင်းလည်းကောင်း၊
တပံ = ဥပုသ်ဆောက်တည်ခြင်းလည်း ကောင်း၊
အကောဓံ = အမျက်မထွက်ခြင်းလည်းကောင်း၊
အဝိဟိံသဉ္စ = သူတပါးကို မညှဉ်းဆဲခြင်း လည်း ကောင်း၊
ခန္တိဉ္စ = သည်းခံခြင်းလည်းကောင်း၊
အဝိရောဓနဉ္စ = ပြည်သူတို့နှင့် မဆန့်ကျင်ခြင်း လည်း ကောင်း။ ဣတိ၊ ဤသို့။ ဧတေကုသလေဓမ္မေ၊ ဤကုသိုလ် တရားတို့ကို။ အတ္တနိ၊ မိမိ၌။ ဌိတေ၊ တည်သည်တို့ကို။ ပဿာ မိ၊ ငါမြင်၏။တတော၊ ထိုသို့မြင်သောကြောင့်။ မေ၊ ငါ့အား။ ပီတိ၊ နှစ်သက်ခြင်းသည်လည်းကောင်း။ အနပ္ပကံ၊ များစွာ သော။ သောမနဿဉ္စ၊ ဝမ်းမြောက်ခြင်းသည်လည်းကောင်း။ ဇာယတေ၊ ဖြစ်၏"၁၈

ဤမင်းကျင့်တရားများသည် မြန်မာဘုရင်များ၏ အထူးထင်ရှား သော မင်းကျင့်တရားများ ဖြစ်ပါသည်။ ထို ၁၀ ပါးအနက် "အဝိ ရောဓန" ဟူသော အကျင့်ကို "ပြည်သူတို့နှင့် မဆန့်ကျင်ခြင်း" ဟူ၍

အဓိပ္ပာယ်ဖွင့်ကြပါသည်။ သက်ဦးဆံပိုင် ဘုရင်စနစ်တွင် ဤမင်းကျင့်တရားသည် မင်းများကို သတိပေးရာ၌ များစွာ ထိရောက်သော တရားတစ်ပါးဖြစ်ပါသည်။ သက်ဦးဆံပိုင် ဆိုသည်ကိုသာ စိတ်စွဲပြီး ပြည်သူ၏ဆန္ဒကို ဂရုမပြုဘဲ ဆန့်ကျင်၍မအုပ်စိုးနိုင်အောင် တားမြစ်ထားခြင်းဖြစ်ကြောင်း တွေ့ရပါသည်။ အဝိရောဓနတရားကို ယောအတွင်းဝန် ဦးဘိုးလှိုင်က ဤသို့ဖွင့်ပြပါသည်။

"ဤအဝိရောဓနတရားကို မကျင့်ဆောင်၊ ပြည်သူတို့နှင့် ဆန့်ကျင်ဘက်ပြုလျှင် ပြည်သူတို့မုန်း၍ အလိုရှိရာ သခင်ရှာပြီးလျှင် မင်းကို ဖျက်ဆီးမည်။ မင်းအားကြီး၍ ပြည်သူတို့က မဖျက်ဆီးနိုင်လျှင်လည်း အခြားနိုင်ငံသို့သွား၍ ပြည်ပျက်သည်။"[၁၉]

ငါးရာ့ငါးဆယ်ဇာတ်တော်တို့တွင် ပြည်သူကို ဆန့်ကျင်သဖြင့် မင်းများကို ပြည်သူများက ပြစ်ဒဏ်ပေးပုံများ တွေ့ရပါသည်။

မဟာနိပါတ်တော်လာ ဝေဿန္တရာမင်းကြီးသည် ပြည်သူများက ဆင်ဖြူကိုမလှူရန် တောင်းပန်ပါလျက် ဆင်ဖြူကို လှူလိုက်သဖြင့် ဝင်္ကဘာတောင်သို့ အနှင်ခံရသည်။

အသီတိနိပါတ် မဟာသုတသောမဇာတ်တွင် ပေါရိသာဒမင်းအား လူသားမစားရန် တောင်းပန်လျက် ပြည်သူကိုဆန့်ကျင်သဖြင့် ပြည်မှနှင်ထုတ်ခံရသည်။

ဧကနိပါတ်၊ သစ္စံကိရဇာတ်တွင် ဒုဋ္ဌကုမာရမင်းသားသည် ရုန့်ရင်းကြမ်းတမ်းသဖြင့် အစေအပါးများက မြစ်ထဲတွန်းချပြီး စွန့်ပစ်ခဲ့၏။ တစ်ဖန် မင်းဖြစ်လာသော် ကျေးဇူးရှင်ရသေ့ကို သတ်ရန်ကြံစားသဖြင့် ပြည်သူများက ဘုရင်ကို အမျက်ထွက်ပြီး သတ်လိုက်ကြလေသည်။

နဝကနိပါတ် ပဒကုသလဇာတ်တွင် ဘုရင်သည် ပစ္စည်းကို ကိုယ်တိုင်ဝှက်ထားပြီး သူခိုးကို အတင်းဖော်စေရမည်ဟုဆိုပြီး မတရားပြုကျင့်သဖြင့် ဘုရားအလောင်းက ပြည်သူများအား စည်းဝေးစေပြီး

မတရားအကျင့်များကို ဖော်ထုတ်သဖြင့် ပြည်သူတို့က မင်းအားသတ်လိုက်ကြလေ၏။

ဤဇာတ်တော်တို့သည် အဝိရောဓနတရား၏ သဘောကို မသိသောမင်းများ သတိမူသင့်သည့် ဇာတ်တော်များဖြစ်လေသည်။

လောကနီတိတွင် "ရဋ္ဌသုညံအရာဇကံ"[၂၀]ဟု တွေ့ရပါသည်။ "မင်းမရှိသောပြည်သည် ဆိတ်ညံ၏"ဟု အဓိပ္ပာယ်ပြန်ကြပါသည်။ ပြည်နိုင်ငံတွင် မင်းကိုအဓိကထားသည့် အယူအဆဖြစ်ပါသည်။ ယနေ့ ဥပဒေသိပ္ပံပညာတွင် နိုင်ငံတစ်နိုင်ငံဖြစ်ရန် "နယ်မြေဒေသ၊ လူ၊ အစိုးရ(မင်း)နှင့် အချုပ်အခြာအာဏာ"[၂၁]ဟူ၍အင်္ဂါလေးရပ် ပြည့်စုံရမည်ဟု ရေးသားထားကြပါသည်။ မင်းနှင့်ပြည်သူ နှစ်ပါးစုံရှိရန်လိုကြောင်း တွေ့ရပါသည်။ ဤအမြင်တရားကို သတ္တကနိပါတ် ကုက္ကုဇာတ် တွင် တွေ့ရပါသည်။ ဘုရားအလောင်းအမတ်က ဗြဟ္မဒတ်မင်းကိုဆုံးမရာတွင် အထွတ်နှင့်အခြင်ရှိသော အဆောက်အအုံကို ပမာပြု၍ ဆုံးမပါသည်။

> "အထွဋ်မရှိသော် အခြင်တို့သည်၊ မတည်ကုန်။ အခြင်တို့သည် မထောက်ပံ့အပ်ကုန်သည်ရှိသော် အထွဋ်သည်မတည်။ အခြင်တို့သည် ပျက်စီးကုန်သည်ရှိသော် အထွဋ်သည်ကျ၏။ ထို့အတူလျှင် တရားမစောင့်သောမင်းသည် မိမိအဆွေခင်ပွန်းဖြစ်ကုန်သော အမတ်တို့ကိုလည်းကောင်း၊ ဗိုလ်ပါတို့ကိုလည်းကောင်း၊ပုဏ္ဏားသူကြွယ်တို့ကိုလည်းကောင်း၊ မထောက်ပံ့သည်ရှိသော် ထိုသူတို့ ပျက်စီးလတ်သော် ထိုသူတို့မထောက်ပံ့အပ်သည်ဖြစ်၍ အစိုးရခြင်းမှ ယုတ်ရာ၏။ မင်းမည်သည်ကား တရားစောင့်သည်ဖြစ်ရာ၏။"[၂၂]ဟူ၍ ဗြဟ္မဒတ်မင်းကို သိလွယ်

မြင်လွယ်လာအောင် ဥပမာပြု၍ ဟောကြားဆုံးမလေသည်။ ဆက်လက်၍ ဆုံးမထားသည်မှာ –

> "မင်းမြတ်၊ ပညာရှိသောမင်းသည် ရှာနိဂုံးတို့၌ တဏှာ၏အလိုသို့ မလိုက်သည်ဖြစ်၍ မင်းကျင့်တရား ၁၀ ပါးသို့ လိုက်

လျက်ကျင့်၍ ဥစ္စာတို့ကိုစုလျက် ထိုမင်းသည် သူတပါးကို မညှဉ်းဆဲမူ၍ ပွားခြင်းအမှုကိုပြုရာ၏"[၂၃]

အထက်တွင်တင်ပြပြီးသော သာဓကများ၊ ဥပမာများအရ မင်းသည် ပြည်သူလူထုနှင့်ပတ်သက်လာလျှင် မင်းတည်းဟူသောမာနတရားမထားရကြောင်း၊ မင်းကျင့်တရား ၁၀ ပါးလာ အဝိရောဓနတရားကို အထူးလေးစားအပ်ကြောင်း ပညာရှင်များက အကျယ်တဝင့် ဖွင့်ဆိုကြခြင်းဖြစ်ပါသည်။

ဤမင်းကျင့်တရား ၁၀ ပါးအပြင် တစ်နည်းသော မင်းကျင့်တရားဆယ်ပါးလည်းရှိသေးသည်။ ယင်းဆယ်ပါးမှာ –

(၁) အမိအဘတို့ကို လုပ်ကျွေးမွေးမြူခြင်း။
(၂) သားမယားကို လုပ်ကျွေးမွေးမြူခြင်း။
(၃) အဆွေခင်ပွန်း၊ မှူးမတ်ဗိုလ်ပါ၊ တိုင်းသား သူပြည်တို့ကို ပေးကမ်းစွန့်ကြဲခြင်း။
(၄) ဆင် မြင်း ဗိုလ်ပါတို့၌ တရားနှင့်အညီ ကျင့်ခြင်း။
(၅) ရွာ နိဂုံးတို့၌ တရားနှင့်အညီ ကျင့်ခြင်း။
(၆) ပြည် တိုင်းကား ဇနပုဒ်တို့၌ တရားနှင့်အညီ ကျင့်ခြင်း။
(၇) ရဟန်း ပုဏ္ဏားတို့၌လည်း တရားနှင့်အညီ ကျင့်ခြင်း။
(၈) သားငှက်တို့၌ တရားနှင့်အညီ ကျင့်ခြင်း။
(၉) ကောင်းစွာ လေ့ကျင့်အပ်သော တရားသည် ချမ်းသာကို ဆောင်၏။
(၁၀) ကောင်းစွာ တရားကို ကျင့်သောကြောင့် နတ်ပြည်၊ ဗြဟ္မာပြည်သို့ ရောက်၏။[၂၄] ဟူ၍ ဖြစ်ပါသည်။

ဤမင်းကျင့်တရား ဆယ်ပါးတို့ကို –

"ဓမ္မံစရ မဟာရာဇ၊ မာတာပိတု သုခတ္တိယ၊
ဣဓဓမ္မံစရိတွာန၊ ရာဇာသဂ္ဂံ ဂမိဿတိ။[၂၅]

အစရှိသော ဆယ်ဂါထာဖြင့် "စတ္တာလီတ နိပါတ်" "တေသကုနဇာတ်" နှင့် "မဟာနိပါတ်" "သုဝဏ္ဏသာမဇာတ်"[၂၆] တော်တို့တွင် တွေ့ရလေသည်။

မြန်မာမင်းတို့သည် မင်းကျင့်တရား ၁၀ ပါးအပြင် သင်္ဂဟတရား လေးပါး၊ အပရိဟာနိယ တရားခုနစ်ပါး စသည်တို့ကို လိုက်နာကျင့် ကြံရသေးသည်။ ထိုတရားများသည် ဇာတ်တော်များမှ မဟုတ်ဘဲ အင်္ဂုတ္တိုရ် ပါဠိတော်မှ ဖြစ်လေသည်။ မည်သို့ပင်ဖြစ်စေ မြန်မာမင်း များလိုက်နာကျင့်သုံးကြသော ကျင့်ဝတ်များမှာ ဗုဒ္ဓဟောကြားတော် မူသော ကျင့်ဝတ်တော်များဖြစ်ကြောင်း တွေ့ရလေသည်။ ကျစွာမင်း ဆိုသကဲ့သို့ မိမိကိုယ်ပညာဖြင့် ကြံ၍ကျင့်သော အကျင့်တရားများ မဟုတ်ဘဲ သဗ္ဗညုတ မြတ်စွာဘုရားသခင်၏ စကားကိုမှီ၍ ကျင့်သော အကျင့်များဖြစ်ကြောင်း တွေ့ရပါသည်။ အလောင်းဘုရား၏ အမိန့် တော်အတိုင်းပင် ဘုရားရှေ့မျက်တော်ကို ကြည့်၍ ဘုရားမုခပါတ်တော် များအတိုင်း ကျင့်သုံးကြခြင်း ဖြစ်လေသည်။

ငါးရာ့ငါးဆယ်ဇာတ်တော်များအနက် အချို့သော ဇာတ်တော် များသည် မင်းတို့ကို ဆုံးမသော ဇာတ်တော်များဖြစ်ကြောင်း တွေ့ရ လေသည်။ မင်းတို့ ကျင့်သုံးလိုက်နာသင့်သော တရားတော်များကို ဟောကြားထားခြင်းဖြစ်၍ မင်းကျင့်တရားဟု ဆိုနိုင်လေသည်။

ဒုကနိပါတ်၊ ရာဇောဝါဒလာ မင်းနှစ်ပါး၏ သီလကို ရထားထိန်း နှစ်ဦးက မေးမြန်းဖြေဆိုချက်များသည် မင်းတို့ကျင့်အပ်သော တရား များဟု ဆိုနိုင်လေသည်။

ဗလ္လိကမင်း၏ ရထားထိန်းက ဗလ္လိကမင်း၏ အကျင့်သီလကို ဤ သို့ ပြောဆိုလေသည်။

> "ဗလ္လိကမင်းသည် ကြမ်းကြုတ် ခက်ထန်သူ၏ အပေါ်၌ ကြမ်းကြုတ်သော ဒဏ်ကို တင်၏။ နူးညံ့သောသူကို နူးညံ့ သဖြင့် အောင်၏။ ကောင်းသောသူကို ကောင်းသဖြင့် အောင်၏။ မကောင်းသောသူကို မကောင်းသဖြင့် အောင်၏"

ဗာရာဏသီမင်း၏ ရထားထိန်းက ဗာရာဏသီမင်း၏ အကျင့်သီလ ကို ဤသို့ ပြောဆိုလေသည်။

"ဗာရာဏသီမင်းသည် အမျက် ထွက်တတ်သောသူကို မေတ္တာဖြင့်အောင်၏။ မကောင်းသောသူကို ကောင်းသဖြင့် အောင်၏။ စဉ်းလဲသောသူကို ပေးကမ်းသဖြင့် အောင်၏။ မဟုတ်မမှန် ဖောက်ပြန် ယွင်းချွတ်လေ့ရှိသောသူကို အဟုတ် အမှန်ဆိုသဖြင့် အောင်၏။"[၂၇]

ဗာရာဏသီမင်း ရထားထိန်း၏စကားကို ကြားသောအခါ ဗလ္လိက မင်းသည် ရထားမှဆင်းပြီး ဗာရာဏသီမင်းအား လမ်းဖယ်ပေးလေ၏။ ထို့ကြောင့် ဗာရာဏသီမင်း ရထားထိန်း၏ ပြောစကားများသည် မင်းတို့ကျင့်အပ်သော တရားများဖြစ်ကြောင်း ဆိုနိုင်လေသည်။

စတုက္ကနိပါတ်လာ ရာဇောဝါဒဇာတ်တွင်လည်း မင်းအား ဆုံးမ သည့် မင်းကျင့်တရားများကို တွေ့ရပါသည်။ ဘုရားအလောင်းရသေ့ က ဗြဟ္မဒတ်မင်းကြီးအား အောက်ပါတရားများကို ဟောကြားခဲ့ပါ သည်။

"မြစ်ကိုကူးကုန်သော နွားတို့တွင်၊ ရှေ့ဆောင်နွားလား သည် ကောက်စွာ အကယ်၍ သွားအံ့။ ရှေ့ဆောင်နွားလား သည် ကောက်စွာသွားသည်ရှိသော်၊ ခပ်သိမ်းကုန်သော ထို နွားမတို့သည် ကောက်စွာသွားကုန်၏။ ဤအတူသာလျှင် လူတို့တွင် အကြင်မင်းကြီးသည် အမြတ်ဟူ၍ သမုတ်အပ်သည် ဖြစ်၏။ ထိုမင်းသည် အဓမ္မကို အကယ်၍ ကျင့်အံ့။ ဤမှ တပါးသော သတ္တဝါသည် အဘယ်ဆိုဖွယ်ရာဖြစ်အံ့နည်း။ မင်း သည် တရားမစောင့်သည် အကယ်၍ဖြစ်အံ့၊ အလုံးစုံသော တိုင်းသည် ဆင်းရဲစွာ အိပ်ရ၏။ မြစ်ကို ကူးကုန်သော နွား တို့တွင် ရှေ့ဆောင် နွားလားသည် ဖြောင့်စွာ အကယ်၍ သွားအံ့။ ရှေ့ဆောင်နွားလားသည်ဖြောင့်စွာ သွားသည်ရှိသော် ခပ်သိမ်းကုန်သော နွားမတို့သည် ဖြောင့်စွာသွားကုန်၏။ ဤ အတူလျှင် လူတို့တွင် အကြင်မင်းသည် အမြတ်ဟူ၍ သမုတ် အပ်သည်ဖြစ်၏။ ထိုမင်းသည် တရားကို အကယ်၍ကျင့်အံ့၊ မင်း မှတပါးသော သတ္တဝါသည် အဘယ်ဆိုဖွယ် ရှိအံ့နည်း။ မင်း

သည် တရားစောင့်သည် အကယ်၍ဖြစ်အံ့ အလုံးစုံသောတိုင်း သည် ချမ်းသာစွာအိပ်ရ၏။"[၂၈]

မင်းတို့အား ဆုံးမသောတရားများကို ငါးရာ့ငါးဆယ်ဇာတ်တော်များတွင် အများအပြားတွေ့ရပါသည်။ စတ္တာလီသနိပါတ် တေသကုဏဇာတ်တော်တွင် ဗာရာဏသီပြည့်ရှင် ဗြဟ္မဒတ်မင်းကြီးသည် ငှက်သုံးကောင်အား ဤသို့မေးမြန်းခဲ့ပါသည်။

"မင်းအဖြစ်ကိုပြုလိုသောသူသည် အဘယ်အမှုကိုပြုရခြင်း သည်မြတ်သနည်း"

ထိုအခါ မင်းမွေးမြူထားသော ဝေဿန္တရာမည်သော ခင်ပုတ်ငှက်၊ ကုဏ္ဍလိနီ မည်သော ဆက်ရက်ငှက်နှင့် ဇမ္ဗုက မည်သော ဘုရားလောင်းကျေးသားတို့သည် မင်းတို့ ကျင့်ရမည့်တရားများကို ဟောကြားခဲ့ပါသည်။

ပဏ္ဏာသနိပါတ် ဥမ္မာဒန္တီဇာတ်တွင် သိဝိမင်းကြီးက အဘိပါရက စစ်သူကြီးအား မင်းတို့ စောင့်ထိန်းအပ်သည့်တရားများကို ဟောကြားခဲ့ပါသည်။

ထို့နည်းတူ အသီတိနိပါတ်လာ စူဠဟံသဇာတ်၊ မဟာဟံသဇာတ်နှင့် မဟာသုတသောမဇာတ်တို့တွင်လည်း မင်းကျင့်တရားများကို ဟောကြားခဲ့ပါသည်။

မုံရွေးဇေတဝန်ဆရာတော်၏ ရာဇောဝါဒ ကျမ်းသည် ဇာတ်တော်များဖြင့် တန်ဆာဆင်လျက် မင်းကို ဆုံးမခဲ့ပါသည်။ ဆရာတော်၏ ကျမ်းပြုပုံမှာ မင်းအား ဆုံးမလိုသည့် အကြောင်းကို မေတ္တာစာတွင် ထည့်သွင်းရေးဖွဲ့သည်။ ထို့နောက် မေတ္တာစာ၏အဖွင့်ကို ပိဋကတ္တဖြင့် ပြသည်။ ဤပိဋကတ္တကို ဝိတ္ထာရဖြင့် ဋီကာချဲ့ပြန်သည်။ ဋီကာချဲ့ပြီးနောက် ဥပဒေသဖြင့် နိဂုံးချုပ်ထားပါသည်။ အပိုဒ်တိုင်း ဤနည်းဖြင့် ဖွဲ့ဆိုထားပါသည်။ ဥပမာအားဖြင့် တင်ပြရသော်....

ပုဒ်ရင်း။ ။သိန်းမသိန်းဖို၊ ဝန်လို ရေလိပ်တို့၊ ရန်နှိပ်သော ခြင်္သေ့မင်းနှင့် တသီးဟူရာ၌ —

ပိဏ္ဍတ္ထ။ ။သိန်းမ သိန်းဖိုတို့သည် ဝန်လို၊ ရေလိပ်၊ ခြသေ့်တည်း ဟူသော အဆွေခင်ပွန်းတို့၏ ကျေးဇူးကြောင့် မိမိတို့၏သားသမီး အသိုက်အအုံမပျက် ချမ်းသာစွာ နေရလေသည်ဟု ဆိုလိုသည်။

ဤသို့ဖြေဆိုပြီး ဝိတ္တာရအားဖြင့် ပကိဏ္ဏက နိပါတ်တော်လာ မဟာဥက္ကုသဇာတ်ကို အကျယ်တင်ပြပါသည်။ အကျယ်တင်ပြပြီးနောက်....

ဥပဒေသ။ ။ယ ခု အ ခါ အကြင်ကုလပုတ္တဖြစ်သော အမျိုးကောင်းသား ယောကျ်ားမိန်းမတို့သည် ဤသိန်းမ သိန်းဖို ဝန်လို ရေလိပ်၊ ခြသေ့်မင်းတို့၏ ထုံးပုံကို နှလုံးထား၍ အစွမ်းအားလျော်စွာ အခွင့်ရှိက ခင်ပွန်းတို့၏ ဝတ္တရားနှင့်အညီ ကူမထောက်ပံ့ခြင်းကို ပြုအံ့သောခင်ပွန်းကောင်းကို ပေါင်းဖော် မှီဝဲရမည်ဟု ပြအပ်သော ဥပဒေသတည်း”[၂၉]။

ဤပုံစံများဖြင့် ငါးရာ့ငါးဆယ်ဇာတ်တော် အကြောင်းအရာများကိုမှီး၍ မင်းအား ဆုံးမသည့် ရာဇောဝါဒကျမ်းကို ပြုစုခဲ့ပါသည်။ ရာဇောဝါဒကျမ်းကိုမှီး၍ ဆိုရသော် ငါးရာ့ငါးဆယ်ဇာတ်တော်များ အားလုံးသည်ပင် မင်းတို့ကိုဆုံးမသည့် ဇာတ်တော်များအဖြစ် တွေ့ရလေသည်။

## (၂) မင်းမှုထမ်းများ၏ ကိုယ်ကျင့်တရား

မြန်မာနိုင်ငံ၏ အုပ်ချုပ်ရေးသမိုင်းကို လေ့လာသောအခါ ၁၈၈၅ ခုနှစ်အထိကို သက်ဦးဆံပိုင် ပဒေသရာဇ်ခေတ်ဟု မှတ်တမ်းတင်ကြပါသည်။ ပဒေသရာဇ်ခေတ်တွင် မင်းသည် သက်ဦးဆံပိုင်ဖြစ်၏။ သို့ရာတွင် မင်းကို အထောက်အကူပြုပြီး အုပ်ချုပ်ရေးယန္တရားတွင် ပါဝင်နေရသော မင်းမှုထမ်းများလည်း ရှိလေသည်။ ထိုခေတ်က မင်းမှုထမ်းများ၏ ဘဝသည် မလွတ်လပ်ကြပေ။ “မင်းခယောကျ်ား၊ ကမ်းနားသစ်ပင်”ဟူ၍ပင် ပြောစမှတ်ပြုကြသည်။ မင်းခစားတို့ဘဝ မတည်မြဲမှု

သဘောကို ပြောသောစကားဖြစ်သည်။ လောကနီတိကမူ "မသေခင်က သေသူငါးဦး ရှိကြောင်း" ဖော်ပြရာတွင် မင်းခစားကို တစ်ဦးအပါအဝင် ထည့်သွင်း ဖော်ပြထားလေသည်။ ကမ်းနားသစ်ပင်၏ ဘဝကမူ အထည်ကိုယ်ဒြပ်ဖြင့် မျောပါရသေးသည်။ မင်းခစား၏ ဘဝကား မင်းမျက်သင့်လျှင် အထည်ကိုယ်ဒြပ်နှင့် အသက် အတူတကွ မတည်ရှိနိုင်တော့ချေ။ အသက်မဲ့သော ခန္ဓာကိုယ်သည် ငှက်ပျော၊ လက်ပံတုံးလောက်မျှ အဖိုးမတန်ဟု ယုံကြည်ကြသော မြန်မာများအဖို့ မင်းခစားရသောဘဝသည် မသေခင်က သေနေသူဖြစ်၍ ကမ်းနားသစ်ပင်၏ဘဝမျှလောက် မမက်မောထိုက်ဟုလည်း တစ်နည်းတွေးယူနိုင်သေးသည်။ ထို့ကြောင့် မင်းခစားဘဝသည် မိမိ၏ဘဝကို မိမိ၏ဆန္ဒအတိုင်းရပ်တည်ရှင်သန်ခွင့် မရကြောင်း ထင်ရှားလေသည်။

မြန်မာမင်းများ ထုတ်ပြန်သည့် အောက်ပါ အမိန့်တော်ပြန်တမ်းသည် မင်းမှုထမ်းများ၏ဘဝကို အလွယ်တကူ သိမြင်နိုင်လေသည်။

"ငါ့ကိုသာ အရှင်မှတ်။ ငါချစ်ရာချစ်။ ငါမုန်းရာမုန်း။ ငါ့ရန်သူကို ရန်သူမှတ်။ ငါ့သားတော်အစဉ် မြေးတော်အဆက် အရှင်မှတ်။ ဖဝါးကဲ့သို့ကျင့်။ လက်ဝါးကဲ့သို့ မကျင့်နှင့်။ ငါ့အကျိုးစီးပွားတော် ယုတ်လျော့မည့်အကြောင်း တဆံခြည်မျှ မကျင့်ကြနှင့်"[၁]

ဤအမိန့်ပြန်တမ်းသည် လောကနီတိလာ စကားကို ပိုမိုခိုင်မာစေသော ပြန်တမ်းဖြစ်ပါသည်။ စိန္တကျော်သူ ဦးဩ၏ ဩဝါဒထူးပျို့ ပိုဒ်ရေ ၉ တွင် —

"တွေ့ဝေမိုက်မှား၊ နာဖျားညှဉ်းဆဲ၊ ဆင်းရဲပူပင်၊ ကြွေးတင်မြီများ၊ မင်းခစားဟု၊ သည်ငါးယောက်လျှင်၊ မသေခင်က၊ အပင်မတည်၊ သူသေမည်ဟု"[၂] ဟူ၍ စပ်ဆိုထားပါသည်။

မင်းဟူသည်ကား အမျက်ပြင်းထန်တတ်သည်။ "မင်းတို့မျက်စောင်း၊ အကြောင်းမရွေး" ဟူသော စကားသည် ဤသဘော သဘာဝမှ ပေါက်ပွားလာသောစကား ဖြစ်နိုင်လေသည်။ မင်း၏စိတ်ဓာတ်၊ စရိုက်နှင့် မလေ့များကို ဝိဓူရဇာတ်တော်တွင် ဤသို့တွေ့ရပါသည်။

"မင်း မည်သည်ကား ငါ၏ အဆွေခင်ပွန်းသည်လည်း မဖြစ်။ ငါနှင့် လင်မယားလည်း မဖြစ်။ မင်းတို့သည်ကား စပါးဆူးဖြင့် ထိအပ်သော မျက်စိကဲ့သို့ လျင်စွာအမျက်ထွက်ကုန်၏"[၃၃]

ဤမင်းတို့ဓလေ့စရိုက်ကြောင့်ပင် မင်းမှုထမ်းများကို ဆုံးမရာတွင် ရှင်မဟာရဋ္ဌသာရ၏ "ဘူမိပါလ"ချီ အဖြည့်ခံရတုကို စိန္တကျော်သူ ဦးဩက အောက်ပါအတိုင်း ဖြည့်ထားကြောင်း တွေ့ရပါသည်။

"မင်းတို့စိတ်ကို၊ ငင်ချိတ်မထား၊ တဆံဖျားမျှ၊ မမှားစောင့်ပေ၊ မှားမှောက်ချေသော်၊ ကပ်လေမှုပြစ်၊ ဖွဲ့ပြာဖြစ်အောင်၊ ပြစ်ရာဇဝတ်၊ ပေးတို့တတ်၏"[၃၄]

မင်းခယောကျ်ားများ၏ဘဝသည် ဤကဲ့သို့ အပ်ဖျားတွင်တင်ထားသော မုန်ညင်းစေ့ကဲ့သို့ ရှိသော်လည်း မင်း၏ ယုံကြည်ကိုးစားခြင်း ခံရသော် မင်းများက မြတ်နိုးတတ်ကြလေသည်။ မိမိနှင့် ထပ်တူပြုတတ်ကြလေသည်။ ဝိဓူရဇာတ်တော်လာ ပုဏ္ဏကနှင့် ကောရဗျမင်းတို့၏ အောက်ပါစကားများသည် မင်းမှုထမ်းကောင်းများအတွက် ရည်ညွှန်းသောစကား ဖြစ်ပါသည်။

ပုဏ္ဏက။ ။အရှင်မင်းကြီး၊ နိုင်ငံတော်၌ ဆင်၊ မြင်း၊ နွား၊ လား၊ ပတ္တမြားရောင်မောင်း၊ နားတောင်းဝတ်ပြီး သမီးကညာတို့မှ တပါး များစွာသော အရှင်မင်းကြီး၏ ရတနာအပေါင်းတို့တွင် ဝိဓူရအမတ် သုခမိန် တည်းဟူသော ရတနာတပါးသည်သာ အမြတ်ဆုံးတည်း"[၃၅]

ကောရဗျ။ ။ဤဝိဓူရသုခမိန်သည် ငါ၏ကိုယ်ပင် ဖြစ်သည်။ ဝိဓူရသည် ငါ၏ကိုယ်မျှသာမဟုတ်ပေသေး။ ငါ၏ကိုးကွယ်ရာလည်း ဖြစ်ပေ၏။ ကောင်းသောအလားသို့ လားရာလည်း ဖြစ်၏။ မှီရာကျွန်းကြီးသဖွယ်လည်း ဖြစ်၏။ ပုန်းအောင်းရာ လိုဏ်နန်းသဖွယ်လည်း ဖြစ်၏။ လဲလျောင်းရာလည်း ဖြစ်၏"[၃၆]

ဤစကားများကိုကြည့်လျှင် မင်းမှုထမ်းကောင်းများကို မင်းများက မည်မျှအားကိုးအားထားကြောင်း၊ အမြတ်တနိုးပြုကြောင်း တွေ့ရပေသည်။

မင်းမှုထမ်းများ ကျင့်သုံးအပ်သည့်တရားများကိုလည်း ဇာတ်တော်များတွင် တွေ့ရပါသည်။ တိကနိပါတ် သုပတ္တဇာတ်လာ သုပတ္တကျီးမင်း၏ ကျီးစစ်သူကြီး သုမုခနှင့် အသီတိနိပါတ် စူဠဟံသဇာတ်၊ မဟာဟံသဇာတ်လာ ဓတရဋ္ဌဟသာမင်း၏ ဟသာစစ်သူကြီး သုမုခတို့သည် အရှင်မင်းအတွက် အသက် အသေခံဝံ့သော မင်းမှုထမ်းကောင်းများ အဖြစ် ဂုဏ်ပြုတင်စားအပ်သည့် ဇာတ်တော်များ ဖြစ်လေသည်။

မင်းမှုထမ်းများ၏ ကျင့်ဝတ်များနှင့် ပတ်သက်၍ ထင်ရှားသော ဇာတ်တော်မှာ မဟာနိပါတ်တော်လာ ဝိဓုရဇာတ် ဖြစ်ပါသည်။ ဝိဓုရ အမတ်ကြီးသည် ပုဏ္ဏကဘီလူးနောက်သို့ လိုက်ရမည် ဖြစ်သောအခါ ဘီလူးထံမှ အခွင့်သုံးရက်တောင်းပြီး သားများကို ဆုံးမခဲ့လေ၏။ ဤဆုံးမခန်းကို ရာဇဝသတိခန်းဟု မှည့်ခေါ်ထားလေသည်။ ရာဇဝသတိခန်းတွင် ၄၆ ဂါထာဖြင့် မင်းမှုထမ်းများ၏ နေထိုင် ခစားမှု၊ ပြောဆိုမှု၊ ဝတ်ဆင်မှုမှအစ အသေးစိတ် ဟောကြားခဲ့ပါသည်။ တွင်းသင်းမင်းကြီး၏ ဝိဓုရပျို့လာ ရာဇဝသတိခန်းကို ထုတ်နုတ်၍ မင်းမှုထမ်းများ၏ ကျင့်ဝတ်အဖြစ်လည်း ဆုံးမထားတတ်ကြပါသည်။ ကုန်းဘောင်ခေတ် အမှုတော်ရေး ဦးရှင်ကလေး၏ သုတမဉ္ဇူ ဆုံးမစာတွင် ဝိဓုရပျို့လာ ရာဇဝသတိခန်းကို ထည့်သွင်းထားသည်ကို တွေ့ရပါသည်[၃၇]။ တောင်ဖီလာဆရာတော်၏ ယသဝဍ္ဍနကျမ်းတွင် ဤရာဇဝသတိခန်းလာ ဂါထာများကို နိဿယပြန်၍ ဖော်ပြထားပါသည်။ ရှင်မဟာရဋ္ဌသာရ၊ ရှင်မဟာသီလဝံသတို့၏ ရာဇဝသတိ လင်္ကာများသည်လည်း ဤရာဇဝသတိခန်းလာ ဂါထာများကို အခြေခံ၍ရေးထားသော လင်္ကာများ ဖြစ်ကြပါသည်။

အချုပ်ဆိုရသော် ငါးရာ့ငါးဆယ် ဇာတ်တော်များတွင် မင်းမှုထမ်းများကို ဆုံးမရန်၊ မင်းမှုထမ်းများ လိုက်နာရန် ကျင့်ဝတ်များကိုလည်း တွေ့ရမည် ဖြစ်ပါသည်။

## (၃) ပြည်သူများ၏ ကိုယ်ကျင့်တရား

ငါးရာ့ငါးဆယ် ဇာတ်တော်များသည် ဗုဒ္ဓဘာသာဝင်များအတွက် ဆုံးမရာတွင် အကောင်းဆုံးဝတ္ထုများ ဖြစ်လေသည်။ ပြည်သူများအား ဆုံးမခြင်းဟုဆိုသော်လည်း ဗုဒ္ဓဘာသာဝင် လူပုဂ္ဂိုလ်များအားလုံးနှင့် သက်ဆိုင်လေသည်။ မင်းဖြစ်စေ၊ အမှုထမ်းဖြစ်စေ နိုင်ငံသားအားလုံး အတွက် တန်ဖိုးရှိလေသည်။ ဇာတ်တော်အားလုံးသည် သတိမူလိုက်နာဖွယ် ဥပဒေသတစ်ခုခုဖြင့် ဆုံးမထားသည်ချည်းပင် ဖြစ်သည်။

ဤဇာတ်တော်များမှ လူအများ သိသင့်သည့် ကိစ္စရပ်များကိုသာ အကျဉ်းချုပ် တင်ပြပါမည်။

လူတွင် ကိုယ်ကျင့်တရားရှိရန် အရေးကြီးသည်။ ကိုယ်ကျင့်တရား ဆိုသည်ကို ကိုယ်ကျင့်တရားပညာတွင် အောက်ပါအတိုင်း ဖွင့်ဆိုပြထားပါသည်။

> "ကိုယ်ကျင့်တရားတို့သည် လူမှုဆက်ဆံရေးဘဝမှ ပေါက်ဖွားလာပြီး လူသားတို့ ကောင်းစားရေးအတွက် လူသားတို့ကို လိုက်နာ ကျင့်ကြံစေရန် အသိုင်းအဝိုင်းက ပြဋ္ဌာန်းထားအပ်သော ကျင့်စဉ်များ ဖြစ်ကြသည်။ ကိုယ်ကျင့်တရားဆိုသည်မှာ နေ့စဉ်ဘဝတွင် လူတို့လိုက်နာ ကျင့်ကြံနေသော စည်းကမ်းမျိုး ဖြစ်သည်"[၃၈]

ထို့ကြောင့် ကိုယ်ကျင့်တရား ကောင်းမွန်ခြင်းသည် လူမှုစည်းကမ်း လိုက်နာခြင်းတစ်မျိုးပင် ဖြစ်သည်။ လူတစ်ဦးကို ထိုသူ၏ ကိုယ်ကျင့်တရားဖြင့် တန်ဖိုးဖြတ်နိုင်သည်။ ဇာတ်တော်များတွင် ကိုယ်ကျင့်တရား ကောင်းမွန်စေရန် ရည်ညွှန်းထားသောဇာတ်တော် အမြောက်အမြား တွေ့ရပါသည်။

အကျင့်သီလ၏ တန်ဖိုးကို ရှာဖွေသော ဇာတ်တော်ငါးခု တွေ့ရပါသည်။ ဧကနိပါတ်လာ သီလဝီမံသကဇာတ်၊ တိကနိပါတ်လာ သီလဝီမံသကဇာတ်၊ စတုက္ကနိပါတ် သီလဝီမံသဇာတ်၊ သီလဝီမံသနဇာတ်နှင့် ပဉ္စကနိပါတ်လာ သီလဝီမံသဇာတ်တို့ ဖြစ်ပါသည်။

သီလနှင့် ပတ်သက်၍ နှိုင်းယှဉ်ဖော်ပြ စရာများကို ဇာတ်တော်များတွင် တွေ့ရပါသည်။ စတ္တာလီသနိပါတ် တေသကုဏဇာတ်တွင် မင်းတို့၏အားငါးပါးကို ဖော်ပြထားပါသည်။

အားငါးပါးကို ယှဉ်ပြရာတွင် –

"ထိုလေးပါးကုန်သောအားတို့ထက် ပညာအားကို 'အားမြတ်' ဟူ၍ 'အထွတ်အဖျားဖြစ်သောအား" ဟူ၍ဆိုအပ်၏။ အဘယ်ကြောင့် ဆိုအပ်သနည်း။ ပညာအားသည် ထောက်ပံ့အပ်သည်၏အဖြစ်ကြောင့် ပညာရှိသော ပုဂ္ဂိုလ်သည် စီးပွားချမ်းသာခြင်းသို့ ရောက်လေ၏။ ထို့ကြောင့် ပညာအားကို မြတ်သောအား ဟူ၍ အထွတ်အဖျား ဖြစ်သော အား ဟူ၍ ဆိုအပ်၏"[၃၉] ဟူ၍ ဖွင့်ဆိုထားပါသည်။

သီလဝီမံသဇာတ်တော်တွင် –

"သီလံ ကိရေဝ ကလျာဏံ၊ သီလံ လောကေ အနုတ္တရံ။ လောကေ၊ လောက၌။ သီလံဝေ၊ သီလ သည်သာလျှင်။ ကလျာဏံ၊ ကောင်း၏။ သီလံ၊ သီလသည်သာလျှင်။ အနုတ္တရံ၊ အတုမရှိ မြတ်၏"[၄၀] ဟူ၍ သီလမြတ်ကြောင်းကို ဆုံးမထားပါသည်။

ပဉ္စကနိပါတ်တော်လာ သီလဝီမံသဇာတ်တွင် ဘုရားလောင်းပုဏ္ဏားသည် မိမိအား မင်း အလေးအမြတ်ပြုနေသည်မှာ သီလကြောင့်လော၊ မိမိ၏ အကြားအမြင်ပညာကြောင့်လောဟု သိလိုသဖြင့် စုံစမ်းပြီးနောက် မင်းအား သီလတရားကို ဟောကြားရာတွင် –

"မြတ်သောမင်းကြီး၊ အကျွန်ုပ်အား သီလတည်း မြတ်သလော၊ သုတသည်လည်း မြတ်သလော၊ ဤသို့ ယုံမှားခြင်းသည်ဖြစ်၏။ ယခုအခါ၌ သီလသည်လျှင် အကြားအမြင်ထက်မြတ်၏။ ဤသို့အား အကျွန်ုပ်သည် သိအပ်ပြီ။ အကျွန်ုပ်အား ယုံမှားခြင်းသည် မရှိ"

"မြတ်သောမင်းကြီး။ အမျိုးသည်လည်းကောင်း၊ အဆင်းသည်လည်းကောင်း အကျိုးမရှိကုန်။ သီလသာလျှင် မြတ်သတတ်။ သီလနှင့် မပြည့်စုံသောသူအား အကြားအမြင်ဖြင့် အကျိုးသည် မရှိ"[၄၁]

တေသကုဏဇာတ်တွင် ပညာအားသည် အမြတ်ဆုံးဟု ပြသကဲ့သို့ သီလဝီမံသဇာတ်တွင်လည်း သီလသည်သာ အမြတ်ဆုံးဟု ပြပြန်ပါသည်။ ထိုနှစ်ဇာတ်လာ အမြတ်ဆုံးနှစ်ပါးကို ဆန်းစစ်ကြည့်လျှင် တေသကုဏဇာတ်လာ "ပညာအမြတ်ဆုံး" ဟူသော ဆုံးမခြင်းသည် "စွမ်းအင်အကြီးဆုံး" ဟူသော "စွမ်းအား"ကို ဖော်ပြသော အဆုံးအမဖြစ်ပြီး သီလသည် အမြတ်ဆုံးဟူသော ဆုံးမခြင်းသည် "တန်ဖိုးအကြီးဆုံး"ဟူသော တန်ဖိုးကို ဖော်ပြသော အဆုံးအမဖြစ်ကြောင်း သိနိုင်လေသည်။

## (က) ကြီးပွားခြင်းတရား ခြောက်ပါး

လောကီလူသားတို့၏ အကျိုးစီးပွား တိုးတက်ရာ တိုးတက်ကြောင်းများကိုလည်း ဇာတ်တော်များတွင် တွေ့ရပါသည်။ ဧကနိပါတ်တော်လာ စူဠသေဋ္ဌိဇာတ်တော်သည် မြန်မာများ အပြောများကြပါသည်။ ကြွက်သေတစ်ခုကို အရင်းပြုပြီး ကြီးပွားချမ်းသာခဲ့သော သူဌေးဇာတ်ဖြစ်ပါသည်။

"ကြွက်သေတစ်ခု၊ အရင်းပြု၍၊ ကြွယ်မှုတတ်ဆုံး၊ သူဌေးထုံးကို၊ နှလုံးမူလျက်"[၄၂] ဟူသော လောကသာရပျို့လာ အဆုံးအမကြောင့် ပို၍ရင်းနှီးခွင့် ရပါသည်။

လောကီလူသားတို့၏ အကျိုးစီးပွား တိုးတက်စေသည့်အကြောင်း ခြောက်ပါးကို ဧကနိပါတ် အတ္တဿဒွါရဇာတ်တွင် တွေ့ရပါသည်။ ဘုရားအလောင်း ဗာရာဏသီသူဌေးကို သားဖြစ်သူက မေးမြန်းသဖြင့် ကြီးပွားခြင်းအကြောင်း ခြောက်ပါးကို ဟောကြားခဲ့ပါသည်။ ထိုခြောက်ပါးမှာ –

(၁) အနာ မရှိသည်ဟု ဆိုအပ်သော မြတ်သောလာဘ်ကို အလိုရှိရာ၏။
(၂) အကျင့်သီလကိုလည်း အလိုရှိရာ၏။
(၃) ပညာရှိတို့၏ ဩဝါဒကိုလည်း အလိုရှိရာ၏။
(၄) အကြားအမြင်ကိုလည်း အလိုရှိရာ၏။
(၅) သုစရိုက်တရား သုံးပါးကို အစဉ်ကျင့်ခြင်းကိုလည်း အလိုရှိရာ၏။
(၆) မပျင်းမရိသည်၏ အဖြစ်ကိုလည်း အလိုရှိရာ၏။[၄၃]

ဤသို့ ဇာတ်တော်တွင် တွေ့ရပါသည်။ ကြီးပွားရာအကြောင်း ခြောက်ပါးကို မုန်တိုင်ပင်ဆရာတော်က အလွယ်မှတ်သားနိုင်ရန် သုံးပုံလေ့ခါးကျမ်းတွင် –

"သုတ၊ သီလ၊ ဆရာမြတ်လှ၊ ဩဝါဒနှင့်၊ ကင်းထအနာ၊ သုံးဖြာ သုစရိုက်၊ စိတ်ဥဿဖြောင့်သား၊ ဤခြောက်ပါးကြောင့် နှစ်ပါးအတ္တ၊ ဖြစ်လေရသည်၊ ဒွါရတံခါးကဲ့အလား"[၄၄] ဟူ၍ ကဗျာရေးဖွဲ့ခဲ့လေသည်။

## (ခ) မိတ်ဆွေစစ်နှင့်ပေါင်းရန်

လူသည် ပတ်ဝန်းကျင်နှင့် အစဉ်ဆက်ဆံ ပေါင်းသင်းနေရသည်။ ပတ်ဝန်းကျင်နှင့် သီးခြားကင်းလွတ်၍မရ။ ထို့ကြောင့် ကောင်းသော ပတ်ဝန်းကျင်၊ ကောင်းသောမိတ်ဆွေကို ရှာဖွေ ပေါင်းသင်းတတ်ရန် များစွာအရေးကြီးသည်။ အပေါင်းအသင်း မှားသဖြင့် ဆွမ်းခံရင်း ငိုက်သင့်ရသူများကို မပြတ်တွေ့ရတတ်လေသည်။ ဇာတ်တော်များတွင် မိတ်ဆွေများ၏ စရိုက်လက္ခဏာ အင်္ဂါများကို ဖော်ပြထားသော အဆုံးအမများ တွေ့ရပါသည်။ ဇာတ်တော်အဆုံးအမအရ မိတ်ဆွေဖွဲ့ရာတွင် မိတ်ဆွေ၏ အဆင့်အတန်းကို ပဓာန မပြုကြောင်း တွေ့ရပါသည်။ ကေနိပါတ် ကုသနာဠိဇာတ်တွင် –

"ကိုယ်နှင့် တူသောသူသည်လည်း အဆွေ ခင်ပွန်းတို့၏ တရားကိုပြုရာ၏။ ကိုယ်ထက်မြတ်သောသူသည်လည်း အဆွေ ခင်ပွန်းတို့၏ တရားကို ပြုရာ၏"[၄၅]

ဟူ၍ အယုတ်၊ အလတ်၊ အမြတ်မရွေးချယ်ဘဲ အဆွေခင်ပွန်း ဖွဲ့သင့်ကြောင်း တွေ့ရပါသည်။ မုန်တိုင်ပင် ဆရာတော်က –

"အယုတ်၊ အလတ်၊ အမြတ်တတွေ့၊ ဤသုံးထွေကို၊ အဆွေဖွဲ့ရာ၊ ဇာတ်တော်လာသည်၊ မေတ္တာမကင်းစေနှင့်မင်း"[၄၆] ဟူ၍ ရေးဖွဲ့ခဲ့ပါသည်။

ဒုကနိပါတ်လာ မိတ္တာမိတ္တဇာတ်၊ ဒွါဒသနိပါတ်လာ မိတ္တာမိတ္တဇာတ်များသည် မိတ်ဆွေကောင်းနှင့် မိတ်ဆွေတုတို့ကို ခွဲခြားပြသည့် ဇာတ်တော်များ ဖြစ်ပါသည်။ ဒွါဒသနိပါတ်၊ မိတ္တာမိတ္တဇာတ်တွင် ရန်သူ၏ လက္ခဏာ ၁၆ ပါးနှင့် မိတ်ဆွေ၏ လက္ခဏာ ၁၆ ပါးတို့ကို ဟောကြားထားခဲ့ကြောင်း တွေ့ရပါသည်။

ဒွါဒသနိပါတ် မိတ္တာမိတ္တဇာတ်တော်လာ ရန်သူ၏အင်္ဂါ ၁၆ ပါးကို မောင်ဖိုးလာ ဆရာတော်က ဤသို့ အဓိပ္ပာယ်ဖွင့်ဆိုပြပါသည်။

(၁) ထိုသူကိုမြင်၍ မရွှင်ပြ။
(၂) ထိုသူကို မနှစ်လို။
(၃) ထိုသူအား မျက်စိတို့ကိုလည်း မပေး။ (မျက်နှာလွှဲသည်)
(၄) ဆန့်ကျင်ဘက်ကိုလည်း ကျင့်၏။
(၅) ထိုသူ၏ အဆွေခင်ပွန်း မဟုတ်သောသူတို့ကို ဆည်းကပ်၏။
(၆) ထိုသူ၏ မိတ်ဆွေခင်ပွန်းတို့ကို မမှီဝဲ။
(၇) ကျေးဇူးသတင်းကို အလိုရှိသောသူတို့ကို မြစ်၏။
(၈) ဆဲရေးသောသူတို့ကို ချီးမွမ်း၏။
(၉) လျှို့ဝှက်အပ်သော စကားကိုလည်း ထိုသူအား မကြား။
(၁၀) ထိုသူ၏ လျှို့ဝှက်သော စကားကို မလျှို့ဝှက်။
(၁၁) ထိုသူ၏ ပြုသောအမှုကို မချီးမွမ်း။
(၁၂) ထိုသူ၏ ပညာကို မချီးမွမ်း။
(၁၃) ထိုသူ၏ အစီးအပွားမရှိသည်၌ နှစ်လို၏။

(၁၄) ထိုသူ၏ အစီးအပွားရှိသည်ကို မနှစ်လို။
(၁၅) အံ့ဖွယ်သရဲ အစာကိုရ၍ ထိုသူအား အောက်မေ့ခြင်း သည် မဖြစ်။
(၁၆) ထိုသူကို မမြတ်နိုး။ ထိုမှသော်လည်း မရွှင်ပြခြင်းကို ဖြစ်ရာ၏။[၄၇]

ဤရန်သူတို့၏လက္ခဏာ ၁၆ ပါးကို အလွယ်မှတ်ရန်အဖြစ် ရေးသားထားသည်များကိုလည်း ဤသို့တွေ့ရပါသည်။

"မြင်လျှင်မပြုံး၊ နှလုံးမသာ၊ မျက်နှာမပေး၊ ကျင့်ရေးဆန့်ကျင်၊ ရန်တွင်မှိုခို၊ မိတ်ကိုပယ်ရှား၊ မြှောက်စားမလို၊ ဆဲဆိုသူဖက်၊ လျှို့ဝှက်မကြား၊ ဝှက်ထားဖော်ဆို၊ မှုကိုပြစ်ရှာ၊ ပညာပြစ်တင်၊ ပျက်လျှင်ဝမ်းသာ၊ ပွားလာမုန်းထား၊ စားထူးရမေ့၊ ရလေ့မတ၊ ဆယ့်ခြောက်ဝတည့်"[၄၈]

မုန်တိုင်ပင် ဆရာတော်ကလည်း သုံးပုံလှေခါးကျမ်းတွင် ခင်ပွန်းယုတ် လက္ခဏာ ၁၆ ပါးဟူ၍ ရေးဖွဲ့ခဲ့ပါသည်။ ထိုဇာတ်တော်တွင်ပင် မိတ်ဆွေစစ်၏အင်္ဂါ ၁၆ ပါးကို ပြဆိုထားပါသည်။ အချုပ်အားဖြင့် တင်ပြရသော် ရန်သူအင်္ဂါ ၁၆ ပါးနှင့် အပြန်အလှန်ပင် ဖြစ်ပါသည်။

မိတ်ဆွေပေါင်းသင်းရေးနှင့် ပတ်သက်၍ ထင်ရှားသောဇာတ်တော်မှာ စတုက္ကနိပါတ်တော်လာ မဟာအဿာရောဟ ဇာတ်တော် ဖြစ်ပါသည်။

ဇာတ်တော်မှာ ဗာရာဏသီမင်းသည် စစ်ရှုံးသဖြင့် ရှောင်ပုန်းနေရစဉ် တောသားတစ်ဦးက ပြုစုထား၏။ မင်းသည် တိုင်းပြည်သို့ပြန်သောအခါ မိမိကို စောင့်ရှောက်သူအား မြို့သို့ရောက်လျှင် မြင်းဒိုကြီးအိမ်ဟုမေး၍ ကျွန်ုပ်ထံ လာခဲ့ပါဟု မှာခဲ့၏။ တောသားကြီးသည် ရွာသားများ၏ တိုက်တွန်းချက်အရ သူတို့ရွာသို့ အခွန်လျှော့ပေါ့ပေးရန် မြင်းစီးကြီးမှတစ်ဆင့် မင်းထံသို့ ပြောပေးရန် မြို့သို့သွားလေ၏။ မင်းက တောသားကြီးအား ကောင်းစွာ ပြုစုပြီး ပြည်တစ်ဝက်သော စည်းစိမ်ကို ပေးထားရာ မင်းကြီး၏ သားတော်က မကျေနပ်သဖြင့်

မင်းကြီးအား ပြောကြား၏။ ဗာရာဏသီမင်းက သားတော်အား မိတ်ဆွေသဘောတရားများကို ဤသို့ပြော၍ ဆုံးမခဲ့ပါသည်။

(၁) အကြင်သူသည် ပေးအပ်ကုန်သောသူတို့အား မပေး။ မပေးအပ်ကုန်သော သူတို့အား ပေးကုန်သော ထိုသူတို့အား ဘေးရန်ဖြစ်ကုန်သော် ထိုသူသည် ပျက်စီးခြင်းသို့ရောက်သော် အဆွေခင်ပွန်းကို မရ။

(၂) အကြင်သူသည် ပေးအပ်ကုန်သောသူတို့အား ပေး၏။ မပေးအပ်ကုန်သောသူတို့အား မပေးကုန်သော ထိုသူတို့အား ဘေးရန်ဖြစ်ကုန်သော် ထိုသူသည် ပျက်စီးခြင်းသို့ ရောက်သည်ရှိသော် အဆွေခင်ပွန်းကို ရ၏။

(၃) မသူတော်တို့၏ အကျင့်ရှိကုန်သော၊ စဉ်းလဲကုန်သော သူတို့၌ ပြုအပ်သော အတူတကွပေါင်းဖော်ခြင်း၊ အတူတကွ သုံးဆောင်ခြင်း၏ ကျေးဇူးအထူးကို မြင်ရခြင်းသည် ပျက်စီး၏။

(၄) ဖြောင့်ကုန်သော သဘောရှိသော သူတို့၌ အနည်းငယ်သည်လည်း ဖြစ်သော ပြုအပ်သော ကျေးဇူးသည် အကျိုးကြီးသည် ဖြစ်၏။

(၅) အကြင်သူသည် ကျေးဇူးကိုပြု၍ လောက၌ အလွန်ပြုနိုင်သော အမှုကို ပြု၏။ ထိုသူသည် နောက်ကာလ၌ ကျေးဇူး ပြုသည်မူလည်း ဖြစ်စေ၊ ကျေးဇူး မပြုသည်မူလည်း ဖြစ်စေ စင်စစ် ပူဇော်ခြင်းကို ခံထိုက်၏။[၄၉]

မိတ်ဆွေများနှင့် ပေါင်းသင်းဆက်ဆံရေး၊ ကျေးဇူးတရား သိတတ်ရေးအတွက် ထင်ရှားသော အဆုံးအမတစ်ခုမှာ မဟာနိပါတ်တော်လာ ဝိဓုရဇာတ်တော်လာ သာဓုနရတနားလေးပါး ဟုခေါ်သော လူကောင်းလူတော်တရား လေးပါးပင် ဖြစ်ပါသည်။ ဝိဓုရအမတ်က ပုဏ္ဏကဘီလူးအား ဤသို့ တရားလေးပါးကို ဟောကြားခဲ့ပါသည်။

(၁) အကြင်သူသည် အတူတကွ မနေကြဖူး၊ မတွေ့ကြဖူး၊ မမြင်ကြဖူးသည် ဖြစ်၍ မသိမကျွမ်းဘဲလျက် မိမိကို နေရာ ပေးခြင်း၊ ခဲဘွယ်ဘောဇဉ် တည်ကျွေးခြင်း စသော ဝတ်ကို ပြုပေအံ့။ ထိုသို့ပြုပေးသောသူကို မိမိသည်လည်း ထိုသူ ကျင့်သကဲ့သို့ အစဉ်လိုက်၍ ကျေးဇူးတုံ့ကျင့်ရာ၏။ ဤအကျင့်သည်သွားသူနောက်သို့ အစဉ်လိုက်ခြင်း ဖြစ်လေသည်။

(၂) အကြင်သူ၏အိမ်၌ တစ်ညမျှလည်း နေဖူး၊ တည်းဖူးအံ့။ အကြင်သူ၏အိမ်၌ ထမင်း၊ အဖျော် စသော နည်းနည်းများများ တစ်စုံတစ်ခုသောပစ္စည်းကို ရအံ့။ ထိုသူအား စိတ်ဖြင့်မျှလည်း ပြစ်မှားခြင်းကို မပြုအပ်။ အကယ်၍ ပြစ်မှားချေအံ့။ စွတ်သောလက်ကို ပူလောင်စေသည် မည်၏။

(၃) အကြင်သူသည် အကြင်သစ်ပင်၏ အရိပ်၌ နေမူလည်း နေဖူးအံ့။ အိပ်မူလည်းအိပ်ဖူးအံ့။ ထိုသစ်ပင်၏အကိုင်းအခက်ကို မဖျက်ဆီးရာ။ မချိုးဖဲ့ရာ။ သစ်ပင်ကိုမှလည်း တစ်နေ့ တစ်ခဏမျှ တည်းနေ ခိုမှီဖူးပေလျှင် မဖျက်ဆီး၊ မချိုးဖဲ့ရာ ဖြစ်တုံသေး၏။ အသက်ရှိသော လူ၌ကား အဘယ်ဆိုဖွယ်ရှိအံ့နည်း။

(၄) ရမက်စိတ် ဖုံးလွှမ်းသဖြင့် အခွင့်ကို မဆင်ခြင်၊ မတွေးဆ။ မိန်းမအလိုရှိတိုင်း မိန်းမနိုင်ငံသို့လိုက်၍ မကောင်းမှုကို မပြုအပ်။ အကယ်၍ မဆင်မခြင် မိန်းမအလိုသို့ ငင်ရာပါချေငြားအံ့။ စီးပွားမထင် ပင်ပန်းကာမျှ ရှိတတ်ချေသည်။[၅၀]

ဤသည်တို့မှာ ငါးရာ့ငါးဆယ် ဇာတ်တော်များမှ ပေါင်းသင်းဆက်ဆံရေး၊ ကိုယ်ကျင့်တရားတို့နှင့် ပတ်သက်သော အဆုံးအမများ ဖြစ်လေသည်။ ဤအဆုံးအမများသည် အလုံးစုံ အကုန်အစင် မဟုတ်သေးပေ။ သိလွယ် ထင်ရှားသော အဆုံးအမများ ဖြစ်သည်။

မြတ်စွာဘုရား ဟောကြားတော်မူခဲ့သော တရားတော်များတွင် မင်္ဂလသုတ်သည် လောကီလူသားများအတွက် များစွာ အကျိုးရှိစေသော တရားတော်ဖြစ်လေသည်။ မင်္ဂလသုတ်ကို မြန်မာတိုင်း သိနေကြပြီး ဖြစ်ပါသည်။ ငါးရာ့ငါးဆယ်ဇာတ်တော်များ မြန်မာဘာသာပြန်ဆိုခဲ့သည့် ညောင်ကန်ဆရာတော်က အများသိပြီးဖြစ်သည့် မင်္ဂလာတရားတော်များကို "မင်္ဂလတ္ထ ဒီပနီ" ကျမ်းဟူ၍ ဇာတ်တော်များဝေဝေဆာဆာဖြင့် ရှင်းပြထားပါသည်။ အဆိုပါကျမ်းကို ကြည့်ခြင်းအားဖြင့် ဇာတ်တော်များသည် ပြည်သူတို့၏ ကိုယ်ကျင့်တရား ကောင်းမွန်ရေးအတွက် အလွန်တန်ဖိုးရှိကြောင်း တွေ့ရှိနိုင်လေသည်။

အခန်း ၉

# အထွေထွေသိမှတ်ဖွယ်ရာ

## (၁) ဇာတ်တော်များနှင့် ပရိတ်တော်များ

ဗုဒ္ဓဘာသာဝင် မြန်မာများသည် ပရိတ်တော်များကို လေးစားကြည်ညိုစွာ ရွတ်ဖတ်ကြလေသည်။ ပရိတ်ဟူသော ဝေါဟာရ၏ အဓိပ္ပာယ်ကို မြန်မာအဘိဓာန်အကျဉ်းချုပ်၊ အတွဲ ၃ နှင့် ပါဠိသက်ဝေါဟာရ အဘိဓာန်တို့တွင် ....

"ဘေးအန္တရာယ်လုံခြုံရေးအတွက် ရွတ်ဆိုရန်စီစဉ်ထားသည့် ဘုရားဟောစသည့် ပါဠိစု"ဟူ၍ အဓိပ္ပာယ် ဖွင့်ဆိုထားပါသည်။ ပရိတ်တော်များကို ရွတ်ဖတ်ခြင်းကြောင့် ဘေးအန္တရာယ် အပေါင်း ကင်းသည်ဟု ယုံကြည်ကြပါသည်။

သီရိမင်္ဂလာပရိတ်တော်ကျမ်းနိဒါန်းတွင် ရည်ရွယ်ချက်အဖြစ် –

"သတ္တန္တရကပ်၊ ရောဂန္တရကပ်၊ ဒုဗ္ဘိက္ခန္တရကပ်ဟု ဆိုအပ်သော ကပ်ဆိုးကြီးအမျိုးမျိုး၊ ဘေးဥပဒ်အန္တရာယ်အမျိုးမျိုး၊ ဆင်းရဲဒုက္ခ အမျိုးမျိုးတို့နှင့် ရင်ဆိုင်တွေ့ကြုံ ခံစား၍ နေကြရသော တိုင်းသူပြည်သားတို့နှင့် ကမ္ဘာသူကမ္ဘာသား သတ္တဝါအများတို့အား သနားခြင်းကရုဏာ ရှေ့ထားလျက် ကပ်ဆိုး၊ ဘေးဆိုး၊ ဥပဒ်ဆိုး၊ အန္တရာယ်ဆိုး၊ ဆင်းရဲဒုက္ခဆိုးတို့ ကင်းစင်လွင့်ပျောက်ကာ ချမ်းသာသုခကို ရရှိခံစားရ၍ ကျက်သရေ မင်္ဂလာအဖြာဖြာတို့နှင့် ပြည့်စုံရေးကို မြှော်တွေးတောင့်တလျက် ကောင်းမြတ်သော သမ္မာဆန္ဒဖြင့် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တိုင်း၊ ခရိုင်၊ မြို့ရွာ၊

ဒေသအသီးသီးတို့၌ ပရိတ်တော်အဖွဲ့ခွဲများကို ဖွဲ့စည်းတည်ထောင်ကြ၍ အမြဲမပြတ် ရွတ်ဖတ်သရဇ္ဈာယ်ကြရန်”၂

ဟူ၍ တွေ့ရပါသည်။ ဤရည်ရွယ်ချက်သည်ပင် ပရိတ်၏ အကျိုးအာနိသင်များ ဖြစ်ပါသည်။

မြန်မာနိုင်ငံသို့ ပရိတ်တော်များ မည်သည့် ခေတ်ကတည်းက ရောက်ရှိနေကြောင်း အတိအကျ မတင်ပြနိုင်သေးချေ။ အစောဆုံး တွေ့ရသော ပရိတ်တော်မှာ သရေခေတ္တရာမြို့ရိုးဟောင်း ရွှေတံခါးဝမှ တူးဖော်ရရှိသော မောရသုတ်နှင့်မင်္ဂလသုတ်ပါသည့် ကျောက်စာတိုင်ပင် ဖြစ်ပါသည်။

ဤကျောက်စာတိုင်ကိုတွေ့သဖြင့်ရှေးဟောင်းသုတေသနဌာနက....

“သရေခေတ္တရာ ပျူမင်းများကလည်း (သီရိဓမ္မာသောကမင်းကဲ့သို့) မိမိတို့ နိုင်ငံသူနိုင်ငံသား အပေါင်းတို့အား မင်္ဂလာဓမ္မ ကျယ်ကျယ်ပြန့်ပြန့် လိုက်နာကျင့်သုံးကြစေရန် ရည်သန်လျက် ဤကျောက်စာကိုရေးထိုးထားရှိခဲ့လေသလော ဟု အနုမာန မျက်ရမ်းဆ၍ တွေးတောကြရပါသည်။”၃

ဟူ၍ ခန့်မှန်းတင်ပြထားပါသည်။ ဤအထောက်အထားအရ သရေခေတ္တရာခေတ်ကပင် ပရိတ်တော်များ ရောက်ရှိနေကြောင်း တွေ့ရပါသည်။

မြန်မာနိုင်ငံရှိ ပရိတ်တော်များတွင် ပရိတ်ကြီး ၁၁ သုတ်သည် ထင်ရှားပါသည်။ ဤပရိတ်ကြီး ၁၁ သုတ်တွင်လည်း ခန္ဓသုတ်၊ မောရသုတ်နှင့် ဝဋ္ဋသုတ်တို့သည် ငါးရာ့ငါးဆယ်ဇာတ်တော်များမှ ဖြစ်ကြောင်း တွေ့ရပါသည်။ ခန္ဓသုတ်သည် ဒုကနိပါတ် ခန္ဓဇာတ်မှ ဖြစ်ပါသည်။ မောရသုတ်သည် ဒုကနိပါတ် မောရဇာတ်မှ ဖြစ်ပါသည်။ ဝဋ္ဋသုတ်သည် ဧကနိပါတ် ဝဋ္ဋဇာတ်မှပင် ဖြစ်ပါသည်။

**ခန္ဓသုတ်။** ။ မြတ်စွာဘုရား သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်၌ သီတင်းသုံးနေတော်မူစဉ်အခါက ဇရုံးအိမ်(မီးတင်းကုတ်)တံခါး၌ ထင်းခွဲနေသော ရဟန်းတစ်ပါးကို ထင်းပုံကြားမှ မြွေထွက်၍ကိုက်ရာ ထိုဝေဒနာဖြင့် သေဆုံးရလေသည်။ ထိုအကြောင်းကိုသိ၍ မြတ်စွာ

ဘုရားက အဆိပ်ရှိသော သတ္တဝါများ၏ ဘေးရန်မှကင်းစေရန် ဒုက နိပါတ်လာ ခန္ဓဇာတ်ကို အတိတ်ဆောင်၍ ဟောတော်မူလေသည်။[၆]

ခန္ဓသုတ်တွင် ရှစ်ဂါထာပါလေသည်။ အဆိုပါ ရှစ်ဂါထာတွင်....

သဗ္ဗာသီဝိသဇာတိနံ — ချီဂါထာနှင့်

အာဏာကေ္ခတ္တမှိ — ချီဂါထာတို့သည်အမွမ်းဂါထာ များဖြစ်ပါသည်။ ဤအမွမ်းဂါထာများသည် နှောင်းဆရာများ ဖြည့် စွက်ကြသော ဂါထာများ ဖြစ်ပါသည်။ ကျန်ခြောက်ဂါထာဖြစ် သော ....

ဝိရူပက္ခေဟိ — ချီဂါထာ

အပါဒကေဟိ — ချီဂါထာ

မာမံအပါဒကော — ချီဂါထာ

သဗ္ဗေသတ္တာ — ချီဂါထာ

အပ္ပမာဏော — ချီဂါထာ

ကတာမေရက္ခာ — ချီဂါထာ

တို့သည် ဒုကနိပါတ်တော်လာ ဂါထာများဖြစ်ကြပါသည်။

**မောရသုတ်။** ။ ဂေါတမမြတ်စွာဘုရား နုစဉ်အခါက ဥဒေါင်းငှက် မျိုး၌ဖြစ်၍၊ ဟိမဝန္တာ၌ နေထိုင်ကျက်စားလေသည်။ အိပ်တန်းဆင်း ချိန် နံနက်တွင် ဥဒေတယံဂါထာကိုရွတ်၍ အိပ်တန်းတက်ချိန် ညနေ တွင် အပေတယံဂါထာကို ရွတ်အံသောကြောင့် မုဆိုးခုနစ်ဆက် (အနှစ် ၇၀၀) တိုင် ဖမ်းယူသော်လည်း မောရပရိတ် အာနိသင်ကြောင့် ဖမ်းမရဘဲရှိလေသည်။ ဘုရားဖြစ်သောအခါ ထိုမောရသုတ်ပရိတ်တော် ကို တပည့်သာဝကတို့အား ပြန်လည်ဟောကြားတော် မူလေသည်။ ထိုမောရသုတ်၏ ပရိတ်အကျိုးအာနိသင်ကို မာဃဓိသာစည်က ....

"ရာဇဝတ်ဘေး၊ ကင်းလွတ်ရေး၊ ရွတ်ပေးမောရသုတ်"ဟု ရေးဖွဲ့ထားပါသည်။[၇]

မောရသုတ်တွင် ခြောက်ဂါထာရှိပါသည်။ ယင်းခြောက်ဂါထာ တွင်.... "ပူရေန္တံ" ချီ ဂါထာနှင့် "ဝိရဿံ" ချီဂါထာပေါင်း နှစ်ဂါထာ

သည် အမှာ်ဂါထာဖြစ်ပြီး ကျန်လေးဂါထာမှာ ဒုကနိပါတ်တော်လာ မောရဇာတ်မှ ဂါထာများ ဖြစ်ကြပါသည်။

**ဝဋ္ဋသုတ်။** ။ အခါတစ်ပါး မြတ်စွာဘုရားသည် မဂဓတိုင်း ရွာငယ်တစ်ခုတွင် နောက်ပါသံဃာများနှင့်အတူ ဆွမ်းခံပြန်လာရာ တောမီးလောင်မြိုက်ခြင်းနှင့် ကြုံတွေ့ရလေသည်။ မြတ်စွာဘုရား၏ သစ္စာအာနုဘော်ကြောင့် တောမီးငြိမ်းသွားလေရာ ရဟန်းတို့က တအံ့တသြချီးကျူးမဆုံး ရှိကြလေသည်။ ထိုအခါ မြတ်စွာဘုရားက ငုံးမင်း၏သစ္စာကြောင့် မီးကင်းရပုံအကြောင်း ငုံးမင်းဇာတ်ကို ဟောကြားတော်မူခဲ့လေသည်။"[၆]

ငုံးမင်းပရိတ်မှာ ယင်းဇာတ်တော်မှ ဖြစ်သည်။ ဝဋ္ဋသုတ်တွင်လည်း ခြောက်ဂါထာရှိလေသည်။ ထိုခြောက်ဂါထာအနက် "ပူရေန္တ" ချီဂါထာနှင့် "ထေရဿ" ချီ ဂါထာပေါင်းနှစ်ဂါထာသည် ဧကနိပါတ်တော်လာ ဝဋ္ဋဇာတ်မှ ဂါထာများ ဖြစ်လေသည်။

## (၂) ကပ္ပဋ္ဌီတိလေးပါး။

မြန်မာမှုတွင် ကပ္ပဋ္ဌီတိလေးပါးဟူ၍ ရှိပါသည်။ ကပ္ပဋ္ဌီတိဟူသည် ကမ္ဘာတည်နေသရွေ့ တည်ရှိနေသော အရာဝတ္ထုကြီး လေးပါးဟု အနက်ပေးကြပါသည်။ ဤကပ္ပဋ္ဌီတိလေးပါးအကြောင်းကို အတွင်းဝန်တို့မေးလျှောက်သဖြင့် ပထမမောင်းထောင်သာသနာပိုင် ဆရာတော်ဘုရားကြီးက အမေးတော်အဖြေကျမ်းတွင်လည်းကောင်း၊ မုံရွေးဇေတဝန်ဆရာတော်က ရာဇောဝါဒကျမ်းတွင်လည်းကောင်း ရေးသားထားသည်ကို တွေ့ရပါသည်။

ရာဇောဝါဒကျမ်းတွင် ကပ္ပဋ္ဌီတိကို လေးပါးသာမက ငါးပါးပြထားပါသည်။ ဤအမေးတော်အဖြေကျမ်းတွင် ဆရာတော်ဘုရားကြီးက အောက်ပါအတိုင်း ရေးသားထားပါသည်။

"တို့ဘုရားလောင်း ယုန်မင်း၊ မျောက်၊ မြေခွေး၊ ဖျံသတ္တဝါသုံးဦးနှင့်တကွ အလှူပေးမည်နေစဉ် ပုဏ္ဏားအသွင်

ဖြင့် သိကြားမင်း အလှူခံလှာသော် ယုန်မင်း မီးပုံသို့ဆင်း၍ ကိုယ်ကိုစွန့်လှူသည်။ သိကြားမင်း အာနုဘော်ကြောင့် မီးမပူ၊ သိကြားမင်းလည်း ကမ္ဘာပတ်လုံး ကျေးဇူးထင်ရှားစေဟု တောင်တစ်ခုကို အဆီညှစ်၍ တောင်ဆီဖြင့် လတွင် ယုန်ရုပ်ရေးပြလေသည်ကို စတုက္ကနိပါတ် သသပဏ္ဍိတ ဇာတ်တွင် ဆိုသည်။ မဂဓရာဇ်တိုင်း တောအုပ်တစ်ခုတွင် တို့ဘုရား လောင်း ငုံးငယ်ဖြစ်၍ တောမီးလာသည်ကာလ မိဘတို့ပုံ့သွားလေလျှင် သစ္စာပြု၍ တဆယ့်ခြောက်မင်းပယ်စာခန့် မီးမလောင် ကင်းလွတ်သည်ကို ဧကနိပါတ် ဝဋ္ဋဇာတ်တွင် ဆိုသည်။

"ကောသလတိုင်းတွင် မိဘမျက်မမြင်ကို ကျွေးမွေးသော ဃဋိကာရ အိုးထိန်း၏အိမ်၌ မိုးသော မြက်သက်ယ်ကို ကဿပဘုရားရှင်က ဆောင်ယူစေ၍ ဂန္ဓကုဋိကို မိုးစေတော်မူသည်။ ဘုရားရှင်လည်း ထိုအိမ်တွင် မပြတ်ဆွမ်းဘုဉ်းပေးတော်မူသည်။ ထိုအိမ်ရာအရပ်သည် ကမ္ဘာပတ်လုံး မိုးမစွတ်နိုင် တည်သည်ကို ဃဋိကာရသုတ် အဋ္ဌကထာတွင်ဆိုသည်။

"ကောသလတိုင်း တောအုပ်တစ်ခုတွင် ဘုရားအလောင်း မျောက်မင်းဖြစ်၍ ဘီလူးစောင့်သောရေအိုင်၌ သက်၍ ရေမသောက်ရသည်တွင် ကျူကိုယူပြီးသော် ပါရမီကိုဆင်ခြင်၍ သစ္စာမူလျက် အဆစ်မပိတ်အောင် မှုတ်ပြီးမှ မျောက်အရံ ရှစ်သောင်းနှင့်တကွ အိုင်သို့မသက်ဘဲ ရေသောက်သည်။ ထို အိုင်ပတ်လည် ရောက်သော ကျူတောသည် ကမ္ဘာပတ်လုံး အဆစ်အပိတ်မရှိတည်သည်ကို ဧကနိပါတ် (နဠကပါန) ဇာတ်တွင်ဆိုသည်။"" ဟူ၍ ရှင်းပြတော်မူပါသည်။

ရာဇောဝါဒကျမ်းတွင် ဤလေးပါးအပြင် အရှင်အင်္ဂုလိမာလထေရ် သစ္စာပြုရာ အင်းပျဉ်ကိုထည့်၍ ငါးပါးပြလေသည်။" သို့သော် ကမ္ဘ

ဋ္ဌီကိသည် လေးပါးဟုသာ ထင်ရှားပြောဆိုကြသည်။ စလေဦးပုည၏ သစ္စာတိုင်တေးတစ်ပုဒ်တွင် ....

"ထုံးမတိမ်၊ ငုံးအိမ်ကျူလနှင့်
တူမျှစံနိုင်း။
ထပ်တညီ ကပ္ပဋ္ဌီတင်ထိုက်တဲ့ ယဉ်သိုက်ဝင်
သည်မေနှင့်ရယ်၊ ငါးဆင့်သမိုင်း"

ဟူ၍ လေးပါးသာပြပါသည်။ မိမိရည်ညွှန်းသူ "သည်မေ" နှင့် ပေါင်းမှ ငါးဆင့်သမိုင်းထိုးလောက်ပေသည်ဟု ရေးဖွဲ့ထားသည်ကို တွေ့ရပါသည်။

မုန့်တိုင်ပင်ဆရာတော်ကသုံးပုံလှေခါးကျမ်းတွင် ကပ္ပဋ္ဌီတိလေးပါးကို အလွယ်မှတ်စေရန်အတွက် အောက်ပါအတိုင်း ကဗျာရေးဖွဲ့ခဲ့ပါသည်။

"မျောက်မင်းဖြစ်ရာ၊ ရေကန်သာ၌၊ ကျူမှာအဆစ်၊ မရှိ
ဖြစ်ခဲ့။
စင်စစ်မယွင်း ငုံးမင်းဖြစ်ရာ၊
မီးမလာတည့်။
တဖြာယုန်လ၊ တူကွမယိမ်း၊
အိုးထိန်းဖြစ်ရာ မိုးမရွာပဲ၊
ကမ္ဘာအမျှ၊ တည်လေရသည်၊
အံ့ထလေးပါး ဤစကား။ ။"

ဤကပ္ပဋ္ဌီတိလေးပါးတွင် သုံးပါးသည် ငါးရာ့ငါးဆယ် ဇာတ်တော်များမှ ဖြစ်ကြောင်း တွေ့ရပါသည်။ ထိုသုံးပါးတွင်လည်း လတွင် ယုန်ရုပ်ရေးခြင်းသည် ထင်ရှားပါသည်။ တင်ပြခဲ့ပြီးသော ချစ်သမျှကို ပတ်ပျိုးလာ "ယွင်းစေဝသုန်၊ ငွေစန်းသော်တာယုန်သို့"ဟူသော အဖွဲ့အနွဲ့များ ဖြစ်ပါသည်။

မုံရွာခရိုင် ဘုတလင်နယ် ယုန်လှေ့ကုန်းရွာ၊ မောင်ရွှေခဲဆိုသူ မင်းဖြစ်လိမ့်မည်ဟု ကြော်ကြားသဖြင့် ကုန်းဘောင်ရွှေဘိုမင်းက ခေါ်

ယူသည့်အကြောင်း မောင်းထောင်ဦးကျော်လှက ရေးဖွဲ့ရာတွင်လည်း ယုန်လှေ့ကုန်းရွာကို ဤဇာတ်တော်နှင့်ပင် အောက်ပါအတိုင်း ချီးကျူးထားပါသည်။

"နိပါတ်ဖော် ဇာတ်တော်ဟောင်းငယ်က၊ မြတ်လောင်းလျှာ ရွှေယုန်ဖြစ်တော့၊ ထုံရှစ်လီ အဌင်္ဂကြောင့်၊ ကသစ်စံ ရဂုံများတွင်မှ၊ ပုဏ္ဏား ဖြဟ္မာအိုကဲ့သို့၊ ယုန်သားကို စားလိုခဲ့သည်ဟု၊ ဆိုတဲ့ကာ အလှူခံတော့၊ ပူအလျှံမီးပုံအတွင်းသို့၊ ခုန်ဆင်းမည့်ယုန်ကလေးက၊ ယုန်လှေးကို ပစ်ခွာချတဲ့၊ တည်အခြေ သည်ဒေသပေထင့်၊ ရွှေလမှာ ဆေးမှုန်စုတ်ကယ်နှင့်၊ ရေးယုန်ရုပ်ကပ္ပဋ္ဌာ"[၁၀]

ဤသည်တို့မှာ မြန်မာများစွဲနေကြသည် ကပ္ပဋ္ဌိတိများ ဖြစ်ပါသည်။

## (၃) ဒေါင်းရုပ်နှင့်နေ

ဖော်ပြပါ ကပ္ပဋ္ဌိတိလာ စကားများအရ လပေါ်တွင် ယုန်ရုပ်အရေးအသားရှိသလို၊ နေတွင်လည်း ဒေါင်းရုပ်ရှိကြောင်း မြန်မာများ ယုံကြည်ကြပါသည်။

မြဝတီမင်းကြီး ဦးစရေးသည့် "ရဝိန်ဒေါင်းယာဉ်ပျံ" ပတ်ပျိုးတွင် "ရဝိန်ဒေါင်းယာဉ်ပျံ၊ လယ်နန်းကွန့်စံ"[၁၁] ဟူ၍လည်းကောင်း

ဦးမင်းစပ်ဆိုသည့် "ဥဒေါင်းရုပ်ဒုံးချင်း" တွင် –

"မန္တလေးတောင် ရွှေဗျာဒိတ်မှာ၊ နေတံဆိပ်ရထွန်း – လေလေ။ ရွှေဥဒေါင်းရုပ် ကွင်းကွင်းပါတယ်၊ ဘာဏုရာဇာ ဖလ်နေနတ်နှင့်၊ ရွှေမလည်စံမဟာနတ်ဝယ် ထူးမြတ်ဝိသေ"[၁၂] ဟူ၍လည်းကောင်း ....

ဆရာကြီး သခင်ကိုယ်တော်မှိုင်းကလည်း ....

"သောင်းခွင် မောင်းနှင် ကောင်းအင်ဆန်း၊ ဒေါင်းယာဉ် နေနန်း သူရိယာ၊ ကောင်းကင်ဘော့လမ်း သူလှည့်ရာဝယ်၊

တူရှိမကွာ ယှဉ်ပြိုင်မိုး" ၁၃ "ဩော်– အထက်နဂိုရ်က ပျက်ပြို လို့ကျခဲ့တဲ့" ချီ လေးချိုးကြီးတွင် –

"ကမ္ဘာ့အသရေ ထွန်းစေဘို့၊ သော်တာသူရကန် (လ) (နေ) ဝန်းတို့မှာဖြင့်၊ လေးကျွန်းအကုန်ဝင့်ပေမည့်၊ ယုန်နှင့် ဒေါင်းပုံ၊ အလံဇော်နှစ်မျိုးဆိုတဲ့ ၁၄ စသည်ဖြင့် နေတွင် ဥဒေါင်းရုပ်ရှိကြောင်း ရေးဖွဲ့ကြပါသည်။

လတွင်ယုန်ရုပ်ရှိသကဲ့သို့ နေတွင်ဒေါင်းရုပ်ရှိကြောင်းကို ကျမ်းဂန် အထောက်အထားသိလိုကြောင်း မန်လည်ဆရာတော်က မေးသဖြင့် မင်းကွန်းဆရာတော်က ဖြေဆိုတော်မူခဲ့ပါသည်။ ဆရာတော်နှစ်ပါး၏ အမေးအဖြေကို အောက်ပါအတိုင်း တွေ့ရပါသည်။

"စန္ဒာမှာ ငွေယုန်ရေးကိုလ၊ ဟိုရှေးကဇာတ်တော်မှာ ကျမ်းနိပါတ်လာ။ ။သို့အစဉ် အမြင်သားဟာမို့ ထင်ရှားပ သည်အရာ၊ ကမ္ဘာလုံးမော်ကွန်း။

ရွှေဗိမာန်၊ နေဝန်းငယ် သူရကန်၌၊ ဘယ်ပူရာမ် ဘယ်စာ ဟောင်းငယ်ကမှ၊ ဒေါင်းရုပ်ရှိညွှန်း။ ။

လဗိမာန် ရွှေယုန်ရုပ်ကိုလ၊ ကျမ်းထုတ်လို့ ထင်ရှားစွာ၊ ကမ္ဘာလုံးမော်ကွန်း။ ။

ရွှေဗိမာန်၊ နေဝန်းသူရကန်၌၊ ဘယ်ပူရာမ် ဘယ်စာဟောင်း မှ၊ ဒေါင်းရှိမည်ညွှန်း။"

မင်းကွန်းဆရာတော်ဘုရားသည် ကဗျာဖြင့် ဤသို့ ဖြေဆိုတော်မူ ပြီးနောက် ဆက်လက်၍ ရှင်းပြထားသည်မှာ –

"နေဗိမာန်၌ဝယ် ဒေါင်းရုပ်ရှိသည်ဆိုသော စကားကို မတွေ့ဘူးချေ။ ။

× × × ×

သူအချို့ကား အလောင်းတော်ဥဒေါင်းမင်းသည် နေထွက် သောအခါ နေကိုကြည့်၍ "ဥဒေတယံစက္ခုမာ" စသောပရိတ် ကို နေဝင်သောအခါ "အပေတယံစက္ခုမာ" စသောပရိတ်ကို

ရွတ်အံသရဇ္ဈာယ်၍ ဘေး ရန်ကင်းသည်။ ဤအကြောင်းအရာ ကို၊ များးစွာသောသူတို့ သိစေခြင်းငှာ နေဗိမာန်၌ ဒေါင်းရုပ် ပုံကို ထုလုပ်ရေးသားထားကြကုန်သည်။ ဤသို့ထားသည်ကို စွဲ၍ နေဗိမာန်၌ ဒေါင်းရုပ်ရှိသလို ပြောဆိုရေးသား လက်ာ သီကုံးကြသည်ဟု ဆိုကြကုန်၏။"၁၅ ဟူ၍ဖြစ်ပါသည်။

မြန်မာများအနေဖြင့် နေမင်းတွင် ဒေါင်းရုပ်ရှိကြောင်းကို ခေတ် အဆက်ဆက် ယုံကြည်နေကြသည်မှာ ယနေ့တိုင်ဖြစ်ပါသည်။ ဤယုံ ကြည်ချက်များမှာလည်း ငါးရာ့ငါးဆယ်ဇာတ်တော်များနှင့် ဆက် နွယ်၍ဖြစ်ပေါ်လာသော ယုံကြည်ချက်များဖြစ်ပါသည်။

## (၄) တော်လေးဝ

မြန်မာများတွင်"တော်လေးဝ"ဟူသော အသုံးတစ်ရပ်ရှိလေသည်။ တစ်နည်းအားဖြင့် "တော်ဝင်သူ" ဟူ၍လည်း သုံးတတ်ကြသည်။ တော်တည့်မွန်မြတ်သည်ဟု ချီးကျူးထောမနာ ပြုခြင်းခံရသော မိန်းမ မြတ်လေးပါးပင် ဖြစ်သည်။ မိမိ၏လင်ယောကျ်ားအပေါ်၌ သစ္စာရှိ သည့် မိန်းမမြတ်လေးပါးလည်း ဖြစ်ကြသည်။

ဗုဒ္ဓဖွတ်တိပျို့ပိုဒ်ရေ ၁၈ တွင်

"တကာမယသော်၊ တော်လေးဝရင်၊ ပြစ်မျိုးစင်ကို" ဟူ၍ တွေ့ရပါသည်။ မွန်မြတ်သည့်မယား၊ လင်အပေါ်သစ္စာရှိသည့်မယား များကို တော်လေးဝနှင့် နှိုင်းလေ့နှိုင်းထရှိပါသည်။ မြန်မာသီချင်း များတွင် တော်လေးဝကို ထည့်သွင်းစပ်ဆိုထားကြပါသည်။

> "ဘုရားသွားကျောင်းတက် ရှေး ရေ စက် ကြောင့် သာ၊ မယားထူးမယားမြတ် မယားအလိမ္မာ၊ ကြားဖူးနားဝ ပြော ပြချင်တာ၊ အမရာ၊ ကိန္နရီ၊ မဒ္ဒီ၊ သမ္ဘူတော်ဝင်များ ငါးပါး လင်ဝတ်မှာ ကျေပွန်ကြပေတာ။ ဒါကြောင့် မြပျိုနှမကို တော်လေးဝဝင် ဧကန်ထင်မိတာ။"(ခင်မောင်ရင်နှင့် မမေ ဝင်းဆို "နေနှင့်လ" သီချင်း)

"အဖိုးလဲတန်သည်၊ ဆင်မြန်းဖို့ လှမ်းဆွတ်ချင်၊ လှူမြင်တိုင်းချူရန်လည်းခက်ခဲမည်။ တော်ဝင်သည်၊ အမရာ၊ ကိန္နရီ မဒ္ဒီ၊ သမ္ဘူ၊ ထူးထူးခြားခြား ကောင်းခြင်းငါးပါး စုံလင်ပေသည်" (ဘိလပ်ပြန်သန်း ဆို "မိန်းမမြတ်"သီချင်း)

"သဘောပါပဲ သည်းညည်းခံမယ်ရှင်၊ မိန်းမမြတ် ဂုဏ်ယူချင်၊ အမရာ ကိန္နရီ မဒ္ဒီသမ္ဘူလပုံသွင်" (မအေးမိဆို "မေတ္တာအရင်းခံ" သီချင်း)[၁၉]

ဤသည်တို့မှာ မြန်မာများနားဝယ် စွဲနေသော တော်လေးဝဖြစ်ပါသည်။ တော်လေးဝဝင်သော အမရာ၊ ကိန္နရီ၊ မဒ္ဒီနှင့် သမ္ဘူလတို့အားလုံးမှာ ငါးရာ့ငါးဆယ်ဇာတ်တော်များမှ မိန်းမမြတ်များဖြစ်ကြပါသည်။

အမရာသည် မဟာနိပါတ်တော်လာ မဟာဥမင်္ဂဇာတ် (မဟောသဓ) တော်မှ အလောင်းတော်ပညာရှိ မဟောသဓ၏ဇနီး ဖြစ်ပါသည်။ ပညာအရာ၌အမြင်ကျယ်ပုံ၊ လင်ယောကျ်ားအပေါ်၌ သစ္စာရှိပုံ၊ ပေါ်ပေါက်လာသော ပြဿနာတို့ကို ဉာဏ်ပညာဖြင့် ဖြေရှင်းနိုင်ပုံများ တွေ့ရပါသည်။

ကိန္နရီသည် ပကိဏ္ဏက နိပါတ်တော်လာ "စန္ဒ ကိန္နရီ" ဇာတ်မှ အလောင်းတော် စန္ဒ ကိန္နရာ၏ ဇနီး စန္ဒကိန္နရီ ဖြစ်လေသည်။ အလောင်းတော်သည် ဗာရာဏသီပြည့်ရှင် ဗြဟ္မဒတ်မင်း၏ မြားဒဏ်ကြောင့် မိန်းမောနေစဉ် မင်းက မိမိ၏မိဖုရားအဖြစ် လက်ခံရန်ဆွယ်သော်လည်း သစ္စာတရားမပျက်သော စန္ဒကိန္နရီဖြစ်သည်။ စန္ဒကိန္နရီ၏ ခင်ပွန်းအပေါ် မှန်မြတ်သောမေတ္တာကြောင့် သိကြားမင်းက စန္ဒကိန္နရာကို ရေစင်တော် သွန်းပေးသဖြင့် အသက်ချမ်းသာရာရသော ဇာတ်တော်ဖြစ်ပါသည်။

မဒ္ဒီမှာ မဟာနိပါတ်တော်လာ ဝေဿန္တရာဇာတ်မှ ဝေဿန္တရာမင်းကြီး၏ ဇနီး ဖြစ်လေသည်။ ဝေဿန္တရာမင်းကြီးအား ဝင်္ကပါတောင်သို့ ပြည်နှင်သော်လည်း တရားရှာဖွေနေသောခင်ပွန်းထံ လိုက်

ပါ၍ ပြုစုလုပ်ကျွေးသောသူ ဖြစ်လေသည်။ ဆင်းရဲအတူ ချမ်းသာအမျှ ဒုက္ခကို ဝေမျှခံစားနိုင်သောဇနီး ဖြစ်လေသည်။

သမ္ဗုလာမှာ သမ္ဗုလအမျိုးသမီး ဖြစ်ပါသည်။ တိ ံသနိပါတ်တော်လာ သမ္ဗုလဇာတ်မှ ဗြဟ္မဒတ်မင်း၏သား သောတ္ထိသေန၏ ဇနီးဖြစ်သည်။ ခင်ပွန်းဖြစ်သူ ကုဋ္ဌနူနာစွဲသဖြင့် တိုင်းပြည်မှ တောသို့နှင်ထုတ်သည့်တိုင် တောသို့ဝင်၍ လင်ဖြစ်သူဝေဒနာသည်ကို ပြုစုလုပ်ကျွေးသူ ဖြစ်သည်။ သမ္ဗုလ၏ သစ္စာစကားကြောင့် သောတ္ထိသေန ကုဋ္ဌနူနာ ပျောက်ကင်းရလေသည်။ ခင်ပွန်းဖြစ်သူဝယ် ရွံရှာဖွယ်ဝေဒနာ စွဲကပ်နေသော်လည်း မစွန့်ပစ်ဘဲ လုပ်ကျွေးသူ ဖြစ်လေသည်။

မြန်မာများတွင် ဇနီးမယားနှင့်ပတ်သက်၍ အမွန်အမြတ်နိုင်းစရာများကိုလည်း ငါးရာ့ငါးဆယ်ဇာတ်တော်များမှ ရှာဖွေ၍ရလေသည်။

## (၅) မယားအပြား ခုနစ်ပါး

ငါးရာ့ငါးဆယ်ဇာတ်တော်များတွင် တော်လေးဝကဲ့သို့မြတ်သော ဇနီးမယားများကို တွေ့သောအခါ၊ အဘယ့်ကြောင့်မြတ်ရကြောင်းကို ဖတ်နာသူများက တွေးတောယူကြရသည်။ တိကနိပါတ်၊ ပဒုမဝဂ်လာ သုဇာတာဇာတ်တွင် မယားအပြား ခုနစ်ပါးအကြောင်းကို အဓိပ္ပာယ်ဖွင့်ဆိုထားပါသည်။ အနာထပိဏ်သူဌေး၏ ချွေးမ။ ဓနဥ္စယသူဌေးသမီး၊ ဝိသာခါ၏ညီမ သုဇာတာကိုအကြောင်းပြု၍ ဟောခဲ့လေသည်။

> "သုဇာတာ၊ ယောကျ်ား၏ မယားတို့သည် ခုနစ်ယောက်ရှိကုန်၏။ ထိုခုနစ်ယောက်တို့တွင် သင်သည် အဘယ်မယားနည်း"

> "ဘုန်းတော်ကြီးသော အရှင်ဘုရား၊ အကျဉ်းအားဖြင့် ဟောအပ်သောတရား၏အနက်ကို အကျယ်အားဖြင့် အကျွန်ုပ်မသိနိုင်ပါ။ ဟောတော်မူပါကုန်လော့"

"အကြင်မယားသည် တစ်ပါးသောယောကျ်ားတို့၌ တပ်စွန်းသောစိတ်ရှိသည်ဖြစ်၍ မိမိလင်အား ပြစ်မှားသောစိတ်ရှိ၏။ အကျိုးစီးပွားမဲ့ကို အလိုရှိ၏။ ဥစ္စာဖြင့်ဝယ်အပ်သော ကျွန်ကဲ့သို့ မထေမဲ့မြင်ပြု၏။ သတ်အံ့သောငှာ လုံ့လပြု၏။ ဤသို့သဘောရှိသောထိုမယားကို သူသတ်နှင့်တူသောမယား ဟူ၍ ဆိုအပ်၏။

"အကြင်မယားသည် လယ်လုပ်ခြင်း၊ ကုန်သွယ်ခြင်းကိုပြု၍ရ၏။ ထိုဥစ္စာကို အနည်းငယ်မျှ သော်လည်း ခိုးယူခြင်းငှာ မယားသည် အလိုရှိ၏။ ထိုမယားကိုခိုးသူနှင့်တူသောမယား ဟူ၍ ဆိုအပ်၏။

"အကြင်မယားသည် အမှုလုပ်လေ့မရှိ၊ ပျင်း၏၊ အစားကြူး၏၊ ကြမ်းကြုတ်၏၊ အမျက်ထွက်တတ်၏၊မကောင်းသဖြင့် ဆိုတတ်၏။ လုပ်ဆောင်ကုန်သောသူတို့ကို နှိပ်စက်၍ဆိုတတ်၏။ ထိုသို့ သဘောရှိသောမယားကို အရှင်နှင့်တူသောမယား ဟူ၍ ဆိုအပ်၏။

"အကြင်မိန်းမသည် ခပ်သိမ်းသော အခြင်းအရာအားဖြင့် လင်၏ အကျိုးစီးပွားကိုအလိုရှိ၏။ အမိသည် သားကိုစောင့်သကဲ့သို့ လင်ကို စောင့်၏။ လင်သည် ဆည်းပူးသော ဥစ္စာကို စောင့်၏။ ထိုသို့ သဘောရှိသောမယားကို အမိနှင့်တူသော မယားဟူ၍ ဆိုအပ်၏။

"အကြင်မယားသည် နှမကြီးနှမငယ်သည် မောင်၌ ရိုသေခြင်းရှိသကဲ့သို့ မိမိလင်၌ ရိုသေခြင်းရှိ၏။ လင်၏ အလိုသို့ လိုက်၏။ ထိုသို့ သဘောရှိသော မယားကို နှမနှင့်တူသော မယားဟူ၍ ဆိုအပ်၏။

"အကြင်မယားသည် လင်ကိုမြင်၍ ကြာမြင့်စွာသော ကာလမှလာသော အဆွေခင်ပွန်းကိုမြင်၍ ဝမ်းမြောက်ဝမ်းသာရှိ၏။ သီလနှင့်ပြည့်စုံ၏။ လင်ကိုလုပ်ကျွေးတတ်၏။ ထိုသို့

သဘောရှိသောမယားကို အဆွေခင်ပွန်းနှင့်တူသော မယား ဟူ၍ ဆိုအပ်၏။

"အကြင်မယားသည် မိမိလင်သည်က သတ်ခြင်းဒဏ်ဖြင့် ခြိမ်းခြောက် အပ်သည် ရှိသော် လင်အား အမျက်မထွက် သည်းခံ၏။ လင်၏အလိုသို့ လိုက်၏။ ထိုသို့ သဘောရှိသော မယားကို ကျွန်နှင့်တူသောမယားဟူ၍ ဆိုအပ်၏။"၁၇

ဤသို့ ခုနစ်ပါးကို ပြဆိုထားပါသည်။ ဤခုနစ်ပါးအနက်တွင်မှ –

"သူသတ်နှင့်တူသော မယား၊ ခိုးသူနှင့်တူသော မယား၊ အရှင်နှင့်တူသောမယားတို့သည် ငရဲ၌ဖြစ်ကုန်၏။ ဤမှတစ်ပါး လေးယောက်ကုန်သော မယားတို့သည် နိမ္မာ နရတိ နတ်ပြည်၌ ဖြစ်ကုန်၏။"၁၈

ဟူ၍ အဘယ်မယားကဲ့သို့ ကျင့်ကြံအပ်ကြောင်း ဟောကြားထား လေသည်။ ဤဇာတ်တော်ကို တွေ့ရသောအခါ တော်လေးဝဝင်သူ မယားလေးဦးသည် အဘယ်ကြောင့်တော်လေးဝဝင်ရကြောင်း မြင်သာ သိသာရပါတော့သည်။

## ( ၆ ) မိန်းမ မာယာ ၄၀

ဇာတ်တော်ဝတ္ထုများတွင် ချီးကျူးဖွယ်အမျိုးသမီးတို့အကြောင်း ကိုလည်း တွေ့ရသည်။ ခင်ပွန်းကိုပြုစုလုပ်ကျွေးရာတွင် အဘယ်သို့သော အနေအထားနှင့် လုပ်ကျွေးသင့်ကြောင်းကိုလည်း မယား အပြား ခုနစ်ပါးဖြင့် လမ်းညွှန်ပြသည်ကို တွေ့ရပါသည်။

အမျိုးသမီးများ၏ ဖောက်ပြန်မှုကို ဟောကြားသော ဇာတ်တော်များ အတော်အတန်တွေ့ရပါသည်။ အချို့က ရှေးဟောင်း စာပေများ၊ နီတိကျမ်းများ၏အလိုအရ အမျိုးသမီးများသည် ခွေးထီး လောက်ပင် မမြတ်ကြောင်း တွေ့ရသဖြင့် ထိုစာများသည် မျှတမှုမရှိ ဟုဆိုတတ်၊ ပြောတတ်၊ ရေးတတ်ကြသည်။ ယောကျ်ားများရော ကောက်ကျစ်မှု၊ ဖောက်ပြန်မှု မရှိသလောဟုလည်း စောဒကတက်

တတ်ကြပါသည်။ ဇာတ်တော်များ အရ ဘုန်းချင်း မတူမျှသော ယောကျ်ားသည် မိဘပေးစားသော ဇနီးပင်ဖြစ်သော်လည်း ဇနီးဖြစ်သူက မြတ်နေလျှင် ပေါင်းဖက်ရန်မဆိုထားဘိ အတူယှဉ်၍ပင် မနေနိုင်ကြောင်း တွေ့ရပါသည်။ မဟာသမဇာတ်တော်မှ သီရိကာလကဏ္ဏိပြဿနာခန်းလာ ပိင်္ဂုတ္တရလုလင်နှင့် ဥဒုမ္ဗရဒေဝီတို့သည် ထင်ရှားသော သာဓက ဖြစ်ပါသည်။

သို့ရာတွင် ယောကျ်ားနှင့်မိန်းမတို့၏ ခန္ဓာကိုယ်ဖွဲ့စည်းမှုချင်း မတူညီကြသဖြင့် အမျိုးသမီးများသည် အမျိုးသားထက် ဣန္ဒြေထိန်းသိမ်းရမည်မှာ ဓမ္မတာဖြစ်သည်။

အင်္ဂုတ္တိုရ်ပါဠိတော်လာ "မဟာကုဏာလဇာတ်"တော်တွင် မိန်းမများအတွက် ဆုံးမထားသည်များကို အတော်စုံစုံတွေ့ရပါသည်။ "မိန်းမတို့ လင်ကိုမထေမဲ့မြင်ပြုရာသည့်အကြောင်းရှစ်ပါး" "လင်၌ အပြစ်ကိုဆောင်ရာသည့်အကြောင်းကိုးပါး" "မိန်းမတို့ ပျက်ရာသည့်အကြောင်း ၂၅ ပါး" စသည်တို့အပြင် ယနေ့ပြောဆိုနေကြသော "မိန်းမတို့၏ မာယာ ၄၀"ကိုလည်း တွေ့ရလေသည်။ မာယာ ၄၀ စာရင်းအကျယ်ကို ဇာတ်တော်တွင်လည်းကောင်း၊ မှတ်စုမှတ်တမ်းများတွင်လည်းကောင်း၊ အဘိဓာန်များတွင် လည်းကောင်း ရှိပြီးဖြစ်၍ အကျယ်မတင်ပြတော့ပါ။

မြတ်စွာဘုရားသည် တရားတော်များကို တပည့်ရဟန်းတော်များအား အဓိကထား၍ ဟောကြားခြင်းဖြစ်သည်။ လောကီကာမဂုဏ်ကို ပယ်စွန့်နိုင်စေရန် ရဟန်းတော်များအတွက် အဓိကအန္တရာယ် ဖြစ်သော မိန်းမများကို ရှောင်တတ်ရန်လိုသည်။ သတိနှင့်ဆက်ဆံနိုင်ရန်လိုသည်။ ထို့ကြောင့် မိန်းမများ၏ မာယာသဘောများကို နားလည်စေရန်ရည်ရွယ်၍ ဤသို့ဟောကြားခြင်း ဖြစ်လေသည်။

မဟာပရိနိဗ္ဗာနသုတ်နှင့် ဝိနည်းအဋ္ဌကထာကျမ်းများတွင် ညီတော်အာနန္ဒာက မိန်းမများနှင့်တွေ့လျှင် မည်သို့ကျင့်ကြံဆက်ဆံရမည်ကို မေးလျှောက်ရာ မြတ်စွာဘုရားက အကျယ်ဟောခဲ့လေသည်။ ရဟန်းတော်များသည် မိန်းမများကို မမြင်ရသော နေရာ၌သာ နေရမည်။

မြင်ရသော် စကားမပြောဘဲ ကျင့်ရမည်။ မလွဲသာ၍ စကားပြောရသော် အမိအရွယ်ကို အမိကဲ့သို့ နှမညီမအရွယ်ကို နှမညီမကဲ့သို့ သမီးအရွယ်ကို သမီးကဲ့သို့ ကျင့်ရမည်ဟု ဟောကြားခဲ့ပါသည်။

မည်သို့ဆိုစေ ဇာတ်တော်လာ မာယာ ၄၀ သည် မြန်မာများ၏ စာပေ တေးကဗျာများနှင့် လူမှုရေးနယ်ပယ်တွင်ကား ထင်ရှားစွာ ပြောစမှတ် ပြုနေကြပါသည်။

## (၇) အသံကြီး လေးပါး

ကုန်းဘောင်မင်းတစ်ပါး ဖြစ်သော စဉ့်ကူးမင်းသည် ရွှေတိဂုံစေတီတော်တွင် ခေါင်းလောင်းတစ်လုံး သွန်းလုပ်လှူဒါန်းခဲ့ပါသည်။ အမှန်မှာ စဉ့်ကူးမင်းလှူဒါန်းသော်လည်း ဆင်ဖြူရှင် မင်းတရားကြီး၏ ခေါင်းလောင်း ဖြစ်ပါသည်။ ခမည်းတော်လက်ထက်က အပြီးမသတ်သေးသည်ကို သားတော် စဉ့်ကူးမင်းက အဆုံးသတ်လှူဒါန်းခြင်း ဖြစ်ပါသည်။ သက္ကရာဇ် ၁၁၄၀ ပြည့် တပို့တွဲလဆန်း ၁ ရက်နေ့တွင် ခေါင်းလောင်းကြီးကို ရေစက်သွန်းချပြီး ရွှေတိဂုံရင်ပြင် ရာဟုထောင့်တွင် တင်လှူခဲ့ပါသည်။ ဤခေါင်းလောင်း ကမ္ပည်းစာတွင် စဉ့်ကူးမင်းက ဤသို့ ဆုတောင်းခဲ့ပါသည်။

"သတ္တဝါ အပေါင်းတို့သည် ချစ်ကြည်အပ်သော အရာန္နိုက် သာယာသဖြင့် ကျူးရင့်သော ကရဝိက်ငှက်မင်းအသံကို နှစ်သိမ့်သကဲ့သို့ ကြောက်စေအပ်သော အရာန္နိုက် ကုသမင်း၊ ပုဏ္ဏက၊ အာဠဝကတို့ အသံကဲ့သို့ အလိုရှိရာအရပ်တိုင် ကြားနှံ့သော အာဏာပါရသော အသံနှင့် ပြည့်စုံသည်ဖြစ်လိုသော်....."[၁၉]

အဆိုပါ ဆုတောင်းတွင် ကုသမင်း၊ ပုဏ္ဏက၊ အာဠဝကတို့ အသံသည် ကြောက်စေအပ်၏။ အလိုရှိရာအရပ်တိုင် ကြားနှံ့သော၊ အာဏာရသောအသံဖြစ်ကြောင်း တွေ့ရပါသည်။

မြန်မာတို့သည် ဇမ္ဗူဒိပ်ကျွန်းအလုံး အနှံ့သိကြားရသောအသံကြီးလေးပါးရှိသည်ဟု ဆိုတတ်ကြပါသည်။ ဤအသံကြီးလေးပါးမှာ–

(၁) ပုဏ္ဏကဘီလူးသည် ကောရဗျမင်းကြီးနှင့် ကြွေအန် ကစားရာ၌ အောင်နိုင်၍ လက်ခမောင်းခတ်လျက် "အဟံဇေယျော" ငါအောင်ပြီဟု ဟစ်သောအသံ။

(၂) ကဿပဘုရားရှင် သာသနာနောက်ပိုင်း၌ ရတနာသုံးပါးကို ကိုးကွယ်ဆည်းကပ်သူတို့ နည်းပါးလွန်းသောအခါ မာတလိနတ်သားသည် ခွေးနက်ကြီးယောင်ဆောင်၍ ဟောင်သော အသံ။

(၃) ကေလာသဘတောင်ထိပ်၌ရပ်၍ "အဟံအာဠာဝကော" ဟု ဟစ်အော်ကြိမ်းဝါးသော အာဠာဝက ဘီလူး၏အသံ။

(၄) ပပဝတီကိုနောက်ပိုးရာဝယ် ခုနစ်ပြည်ထောင်သောမင်းတို့၏ အလယ်က "အဟံကုသရာဇာ"ဟု ဟစ်အော်ကြိမ်းဝါးသော ကုသမင်း၏အသံ[၂၀] ဟူ၍ လေးပါးရှိလေသည်။

စဥ့်ကူးမင်း တောင့်တသော အသံသုံးမျိုးမှာ ဤအသံကြီးလေးပါး မှဖြစ်ကြောင်း တွေ့ရပါသည်။ ဤအသံကြီး လေးပါးအနက် သုံးပါး မှာ ငါးရာ့ငါးဆယ် ဇာတ်တော်များမှ ဖြစ်လေသည်။ ပုဏ္ဏကသည် မဟာနိပါတ်တော်လာ ဝိဓူရဇာတ်မှဖြစ်ပြီး၊ ကုသမင်းသည် သတ္တတိနိပါတ်တော်လာ ကုသဇာတ်မှ ဖြစ်ပါသည်။ "ခွေးနက်ကြီး၏အသံ" မှာ ဒွါဒသနိပါတ် "မဟာကဏှဇာတ်မှ" ဖြစ်ပါသည်။

## (၈) ကောသလမင်း အိပ်မက်များ

မြန်မာတို့သည် ခေတ်ကာလ အခြေအနေအရပ်ရပ်တို့တွင် မသင့်လျော်မှုများ၊ အဆင်မပြေမှုများ တွေ့ရလျှင် ကောသလမင်း၏ အိပ်မက်နှင့် နှိုင်းယှဉ်ပြောလေ့ရှိပါသည်။ ကောသလမင်း၏ အိပ်မက် အတိုင်းဖြစ်နေတာ ဟူ၍လည်း ဝေဖန်တတ်ကြသည်။ ကောသလ မင်း၏ အိပ်မက်မှာ ဧကနိပါတ်တော်လာ မဟာသုပိနဇာတ်မှ ဖြစ်ပါသည်။ ဇာတ်တော်တွင် ကောသလမင်းကြီး၏ အိပ်မက် ၁၆ ချက်

နှင့် မြတ်စွာဘုရားက အိပ်မက်များ၏ အဓိပ္ပာယ် ဖွင့်ဆိုချက်တို့ကို တွေ့ရပါသည်။

ကုန်းဘောင်ခေတ်တွင် ကောသလအိပ်မက်သည် အတော်ခေတ်စားဟန်တူသည်။ မုန်တိုင်ပင် ဆရာတော်၏ သုံးပုံလှေကားကျမ်းတွင်လည်းကောင်း၊ မုံရွေးဆရာတော်၏ သမန္တစက္ခုဒီပနီကျမ်းတွင်လည်းကောင်း၊ ကျီးသဲလေးထပ်ဆရာတော်၏ စွယ်စုံကျော်ထင် ကျမ်းတွင်လည်းကောင်း တွေ့ရပါသည်။

စဥ့်ပါဆရာတော်ကလည်း အချီးကဗျာများဖွဲ့၍ ရေးသားခဲ့လေသည်။ နှောင်းခေတ်တွင်လည်း ကဗျာများဖွဲ့ထားသည်ကို တွေ့ရပါသည်။ အလျဥ်းသင့်သဖြင့် ကောသလအိပ်မက်များကို အမေးအဖြေသဘော၊ အိပ်မက်နှင့် အဓိပ္ပာယ်ဖွင့်ချက်များကို တိုတိုနှင့် လွယ်လွယ်မှတ်နိုင်အောင် လယ်တီပဏ္ဍိတ ဆရာဦးမောင်ကြီးက ရေးသားထားပါသည်။ အောက်ပါကဗျာသည် မြန်မာများ၏ နှုတ်ဝယ် စွဲနေသောကဗျာဖြစ်ပါသည်။

၁။ နွားနက်လေးခု၊ ဝှေ့မူဟန်ပြင်၊ မဝှေ့ကြပဲ၊ ရှောင်လွှဲသည်မြင်။
အရှေ့အနောက်၊ တောင်မြောက်မိုးဆင်၊ ခြိမ်းသံပေး၊ မိုးဝေးလွင့်ပျောက်စင်။

၂။ မြေကမကွာ၊ ငယ်လှသစ်ပင်၊ ဖူးငုံရင့်ကြီး၊ ပွင့်သီးတွေ့မြင်။ အရွယ်မမျှ၊ ပျိုမလုံခင်၊ သမီးသား၊ လင်ထားအိမ်ထောင်ဆင်။

၃။ ယနေ့ဖွားစ၊ နွားမနို့သာ၊ မိခင်နွားကြီး၊ စို့ပြီးနေရှာ။
သမီးနှင့် သား၊ စီးပွားပိုင်ရာ၊ မိနှင့် ဖ၊ ကျွေးမှ စားရမှာ။

၄။ နွားကြီးမကိုက်၊ ဝန်တိုက်နွားငယ်၊ မရုန်းနိုင်ဘဲ ဝပ်လဲနေတယ်။
ကြီးသူပယ်ရှား၊ မြှောက်စားလူငယ်၊ တိုင်းပြည်ရေးရှုပ်ထွေးပွေတော့မယ်။

၅။ ခံတွင်းနှစ်ခု၊ မြင်းလှရာဇာ၊ ကျွေးမွေးသမျှ၊ မဝနိုင်ပါ။
မှူးမတ်မင်းစိုး၊ လာဘ်ထိုးသူရှာ၊ နှစ်ဖက်စား၊ တရားစီရင်မှာ။

၆။ ခွေးအိုထံဆက်၊ ရွှေခွက်သိန်းတန်၊ ကျင်ငယ်အမြဲ ခွက်ထဲစွန့်ပြန်။

မျိုးမြတ်သမီး၊ ပစ္စည်းမက်ဟန်၊ အမျိုးယုတ်၊ လင်လုပ်ပေါင်းဆက်ဆံ။

၇။ ရွှေကကျစ်ချ၊ လွန်စကြိုးကို၊ ခွေးမခိုးစား၊ ကိုက်ဝါးခါမျို။
လင်ကြီးပစ္စည်း၊ သိမ်းဆည်းမသို၊ လင်ငယ်အား မယားလောကွတ်ပို။

၈။ အိုးငယ်ချည်းနှီး၊အိုးကြီးရေလျှံ၊အိုးကြီးကိုပဲ၊ရေဆွဲလောင်းပြန်။

ဆင်းရဲသူများ၊ ဝတ်စားမကျန်၊ အခွန်တွက် နှိပ်စက်ငွေကောက်ခံ။

၉။ ကြာမျိုးငါးဝ၊ ပွင့်ကြရေကန်၊ ရေလယ် နောက်လျက်ကမ်းဘက်ကြည်ပြန်။

မြို့တွင်းပွေရှုပ်၊ ခွန်တုတ်ကောက်ခံ၊ မြို့ပြင်ထွက် ပြည့်နှက်စည်ကားရန်။

၁၀။ တစ်အိုးတည်းချက်၊ အကျက်မညီ၊ ထမင်းမာဆတ် ပျော့နပ် သုံးလီ။

မင်းနှင့် လူများ၊ တရားမညီ၊ မိုးသုံးစား၊ ကွက်ကြားရွာချမည်။

၁၁။ မွေးထုံနံ့ကြူ၊ စန္ဒကူးသိန်းတန်၊ ပုန်းရည်နှင့်လဲ သုံးစွဲစားပြန်။
အလဇ္ဇီများ တရားဖိုးတန်၊ ငွေနှင့်လဲ အမြဲဟောမည်မှန်။

၁၂။ သံကြေးမပေါင်း၊ ဗူးတောင်းဗူးအို၊ ရေတွင် စုပ်စုပ်၊ နစ်မြုပ်လုံးစုံ။ ပညာရှိများ စကားဥဿုံ၊ ပြောသမျှ လောက မသုံးကုန်။

၁၃။ အိမ်လုံး၊ တောင်လုံး၊ ကျောက်တုံး၊ ကျောက်ဖျာ၊ ရေမှာဘွားဘွား၊ ထင်ရှားပေါ်လာ။

ရဟန်းရှင်ဆိုး၊ လူဆိုးများသာ၊ ဂုဏ်ရောင်တိုး တန်ခိုး ပေါ်ထွက်မှာ။

၁၄။ အဆိပ်ပြင်းတောက်၊ မြွေဟောက်ကြီးကို၊ ဘားငယ်မများ၊ ကိုက်ဝါးခါမျို။

ကညာယူထား၊ သက်ကြားဖိုးအို၊ မယားဆဲ၊ အမြဲအောင် ငေါက်ဆို။

၁၅။ အဆင်းမည်းနက်၊ ကျီးငှက်ထံမှာ၊ ရွှေဟင်္သာများ ခစား နေရှာ။

ပညာသီလ၊ ပြည့်ဝသူဟာ၊ သူယုတ်အား၊ ဝပ်တွားနေ ရမှာ။

၁၆။ ဆိတ်ကိုမြင်ခြား၊ ကြောက်အားပြင်းထန်၊ ခြသေ့ သစ် ကျား၊ ခုံလွှားပြေးပြန်။

သူယုတ်မာများ၊ ထောင်လွှားနိုင်ငံ၊ သူတော်ကောင်း ပုန်းအောင်းတောမှိုင်ယံ။[၂၁]

ဖော်ပြပြီးဖြစ်ခဲ့သောကောသလအိပ်မက် ၁၆ ချက် ရှစ်လုံးဘွဲ့ကဗျာ သည် မြန်မာများ အထူးနှစ်ခြိုက် ရွတ်ဆိုနေကြဆဲ ဖြစ်ပါသည်။ ဤ အကြောင်းအရာများသည် ငါးရာ့ငါးဆယ် ဇာတ်တော်များမှပင် ပေါက်ဖွားလာခဲ့ခြင်း ဖြစ်လေသည်။

## (၉) တိမ်တေလေစေ်

ရှေးအခါက မြန်မာနိုင်ငံ၏ ခရီးသွားလာရေးတွင် လှေ၊ လှည်း တို့ကို အားဂ ုးရသည်။ လှေနှင့်ခရီးသွားသူများသည် လေ မိုးကို ဂရုစိုက်ရသည်။ လှည်းနှင့်သွားသူတို့ထက် မိုးလေဝသ အခြေအနေကို

ကျွမ်းကျင်ကြရသည်။ ထိုခေတ် ထိုအချိန်အခါက မိုးလေဝသအခြေအနေကို မည်သူကမျှ ကြေညာပေးခြင်းမရှိချေ။ မိုးလေဝသပညာကို မိမိတို့၏ အတွေ့အကြုံများအရသာ တတ်သိနားလည်ကြရသည်။ မိုးလေဝသ အခြေအနေကို နားလည်သော လှေသူကြီးများသည် အန္တရာယ် ကင်းစွာ သွားလာနိုင်သည်။ လမ်းခရီးတွင်သည်။ ဆုံးရှုံးမှု နည်းသည်။

မြန်မာ့ရိုးရာ မိုးလေဝသပညာတွင် "တိမ်တေ၊ လေစေ်" ချီသော လင်္ကာရှိသည်။ တိမ်တေလေစေ်ကို နားလည်သူသည် ရှေးမြန်မာမင်းများခေတ်က ဘုရင်၏ချီးကျူးခြင်းကို ခံရကြောင်း ရွှေဘုံနိဒါန်းတွင် တွေ့ရပါသည်။ ၃၂

အင်းဝဘုရင် စည်သူကျော်ထင်မင်းသည် ရှင်ဖြူရှင်လှသို့ ဘုရားဖူးထွက်သည်တွင် ညနေသုံးချက်တီးကျော်၍ အင်းဝသို့ကူးမည်ဟု ဖောင်ပန်းလှေတက် ခင်းကျင်းလေ၏။ ထိုစဉ် အနောက်တောင်ထောင့်က မိုးသက်လေဆင်သည်ကို မြင်သောကြောင့် မကူးဖြစ်။ မှူးမတ်တို့နှင့် တိုင်ပင်နေကြစဉ်တွင် ဖောင်တော်ပဲ့နားက သရပတ်သားတစ်ယောက် အကြိမ်ကြိမ်တက်ခေါ်သည်ကို စည်သူကျော်ထင်ကြား၍....

"တက်ခေါ်သသူသည် မည်သည့်သူနည်း။ မည်သည်ကို အကြောင်းပြု၍ တက်ခေါ်သနည်း" ဟု မေး၏။

"ဖောင်တော်ကူးမည် စီစဉ်ခင်းကျင်းရှိမှ မိုးသက်လေကို မြင်၍ မကူးဖြစ်ရှိတော်မူခဲ့လျှင်ရှင်ဖြူရှင်လှေဆိပ်တွင် တစ်ညဉ့်စက်တော်ခေါ်ရမည် ဖြစ်သောကြောင့် တက်ခေါ်ပါသည်" ဟု လျှောက်လေလျှင်

"မောင်မင်း စီစဉ်၍ ကူးနိုင်မည်လော" ဟု မေး၏။

သရပတ်သားသည် ကူးနိုင်ကြောင်း လျှောက်တင်ပြီး လှေတော်ကို စီစဉ်၍ ကူးလေ၏။ လှေတော် တကောင်းဈေးဆိပ်သို့ ရောက်သောအခါမှ မိုးသက်လေလည်း ရောက်လာလေ၏။ မင်းကြီးက မေးသောအခါ....

"တိမ်တေ၊ လေစေ်၊ လျှပ်စစ်ပဇ္ဇော၊ သံတယော" ဆိုသည်ကို ထောက်၍ လျှောက်ခြင်းဖြစ်ပါသည်။ တိမ်တက်သည်ကို သုံးယူဇနာမြင်ပါသည်။ လေဆင်သည်ကို တစ်ယူဇနာက မြင်ပါသည်။ လျှပ်စစ်ပျက်သည်ကို ငါးယူဇနာက မြင်ပါသည်။ မိုးဆင်သည်ကို သုံးယူဇနာက မြင်ပါသည်။ ပညာရှိတို့စကားကိုထောက်၍ လျှောက်ပါသည်။ [၂၃] ဟု ဖြေဆိုလေသည်။

ဤတိမ်တေလေစေ်သည် မြန်မာတို့၏ ရှေးရိုး မိုးလေဝသပညာဖြစ်ပါသည်။ မန်လည်ဆရာတော်က မေးမြန်းပြီး မင်းကွန်းဆရာတော်ကဖြေကြားထားသည့် အမေးအဖြေသည်လည်း မှတ်သားဖွယ်၊ မှတ်သားလွယ်အဖြစ် ဤသို့တွေ့ရပါသည်။

မေး။ မိုးဝလာတိမ်ညွှန့်၊ ထိန်ကွန့်တဲ့ လျှပ်ခြည်။
ရာဟုလေဝရုဏ်တို့၊ ရွှေပဇ္ဇုန်ပဇ္ဇုန်မြူး
ကျူးတဲ့နတ်စည်။
ဘယ်ယူဇနာ ကွာအလှမ်းငယ်က တင်စမ်းဘိ
မဟာကြည်၊ တာရည်တော်မူစမ်း။
မျိုးလေးဖြာ၊ နောက်သားနောင်စဉ်လာတို့၊
တသညာ လက်ကသုံးငယ်၊ ထုံးပြုဘို့ကျမ်း။
ဖြေ။ မိုးဝလာတိမ်ညွှန့်၊ ကွာအစွန့်သုံးယူဇနာ၊
ဖြာကွန့်တဲ့လျှပ်ရောင်ဝါမှာ ငါးယူဇနာကွာဝေး။
လေရာဟု ရိမ့်ပြာ၊ ယူဇနာခြားရပ်ကအေး။
ရွှေပစ္စုန်ရင့်ကြွေး၊ သံလေးနှက်ကြွက်စီ၊
မာန်သွေးလျက်မြည်ဟီ၊ နတ်ဘေရီရိုက်ကျူး။
ဆယ်ရပ်မျှ ဒိသာကို နှစ်ယူဇနာခန့်လောက် ကွန့်မြူး
တာရှည် ရာသည် အထူးကိုလ၊ ယုံဘူးလား ဆွေမဟာ၊
ကျမ်းဆက်ဆက်လာ၊ ထုံးပြုလောက်ပါငဲ့ နောင်လာ
နောက် မျိုးလေးဖြာငယ်၊ တသညာ သုံးရန်ဘို့လေး။[၂၄]

ဤမြန်မာမိုးလေဝသပညာအတွက် မှတ်ရန်ကဗျာကို မုန့်တိုင်ပင်ဆရာတော်၏ သုံးပုံလှေကားကျမ်းတွင်လည်း ဤသို့ရေးခဲ့ပါသည်။

"တိမ်တောင်၊ မိုးသက်၊ တက်သည်အမူ၊ သုံးယူဇနာ ကြား
လေရာခဲ့၊ တဖြာလျှပ်စစ်၊ လေးငါးဖြစ်လိမ့်၊ တစ်နှစ်ယူဇနာ၊
မိုးသံမှာတည့်၊ ဒိသာရပ်ခွင်၊ ထက်ကောင်းကင်က၊ ကြား
မြင်ရသည်။ ။လောကမလှဲဖြစ်စမြဲ။ ။"၂၁

ဖော်ပြခဲ့ပြီးဖြစ်သော တိမ်တေ၊ လေစေ်မိုးလေဝသပညာမှာ ကေ
နီပါတ်တော်လာ အပဏ္ဏကဇာတ်မှ ဖြစ်ကြောင်းတွေ့ရပါသည်။

အပဏ္ဏကဇာတ်မှာ ကန္တာရသို့ခရီးသွားကြသော လှည်းသားများ
ကို ဘီလူးများကလှည့်စားပြီး ရေများကိုသွန်ရန် မြှူဆွယ်သောဇာတ်
ဖြစ်ပါသည်။ ဒေဝဒတ်အလောင်း ဦးဆောင်သော လှည်း ၅၀၀ တို့
သည် ရေများကိုသွန်မိသဖြင့် ဘီလူးအစာဖြစ်သွားလေသည်။ ဘုရား
အလောင်း ဦးဆောင်သော လှည်း ၅၀၀ ကိုလည်း ဘီလူးများက ကိုယ်
များကို ရေဆွတ်စေလျက် ဆံပင်ဖားလျားမှ ရေစက်လက်ကျစေပြီး
ကြာစွယ်ကြာရင်းကိုင်လျက် ရှေ့အနီးတွင် ရေကန်ရှိကြောင်း လှည်း
ပေါ်မှရေများကို အလေးခံပြီး ယူသွားရန်မလိုကြောင်း မြှူဆွယ်လေ
၏။လှည်းသားများက ဘုရားအလောင်းအား ရေများသွန်ပစ်ရန် ပြော
လေ၏။ လှည်းသားများနှင့် ဘုရားအလောင်းတို့ အောက်ပါအတိုင်း
မေးဖြေကြလေသည်။

"မိုးသက်လေသည် အဘယ်မျှသောအရပ်သို့ လာသနည်း"

"အရှင် တစ်ယူဇနာမျှသောအရပ်သို့ လာ၏"

"သင်တို့တွင် အမှတ်မဲ့ဖြစ်သော တစ်ယောက်သောသူ၏
လှည်းကိုယ်ကို မိုးသက်လေသည် ခတ်သလော"

"အရှင် မခတ်ပေ"

"မိုးတိမ်ညွန့်မည်သည်ကား အဘယ်မျှလောက်သော အရပ်၌
ထင်သနည်း"

"အရှင် သုံးယူဇနာမျှလောက်သောအရပ်၌ ထင်သည်"

"သင်တို့တွင် တစ်စုံတစ်ယောက်သောသူသည် တစ်ခုသော
မိုးတိမ်ကို မြင်သလော"

"အရှင်မမြင်"

"လျှပ်မည်သည်ကား အဘယ်မျှလောက်သော အရပ်၌ထင်သနည်း"

"အရှင် လေးယူဇနာအရပ်၌ ထင်၏"

"သင်တို့တွင် တစ်စုံတစ်ယောက်သောသူသည် လျှပ်ရောင်ကို မြင်သလော"

"အရှင်မမြင်"

"မိုးသံမြည်သည်ကို အဘယ်မျှလောက်သောအရပ်က ကြားသနည်း"

"အရှင် တစ်ယူဇနာမျှလောက်သော အရပ်ကကြား၏"

"သင်တို့တွင် တစ်စုံတစ်ယောက်သောသူသည် မိုးသံကို ကြားသလော"

"အရှင်မကြား"

ဤငါးရာ့ငါးဆယ် အပဏ္ဏကဇာတ်လာ စကားများသည် မြန်မာ့ရိုးရာ မိုးလေဝသပညာ အဖြစ် "တိမ်တော၊ လေစော်" ဟူ၍ ထင်ရှားလာရလေသည်။

## (၁၀) နတ်ပြည်ရောက် အလောင်းတော်လေးပါး

ဇာတ်တော်များကို လေ့လာသောအခါ စိတ်ဝင်စားဖွယ် ကောင်းသော အကြောင်းအရာများကို တွေ့ရတတ်လေသည်။ ထိုအကြောင်းအရာများအနက် စိတ်ဝင်စားဖွယ်တစ်ခုမှာ မြတ်စွာဘုရား အလောင်းတော်ဘဝများအနက် အချို့သောဘဝတွင် လူအဖြစ် လူဘဝနှင့်ပင် နတ်ပြည်သို့ရောက်သွားခဲ့သော အကြောင်းဖြစ်လေသည်။ ဤသို့လူအဖြစ် လူဘဝနှင့် နတ်ပြည်သို့ရောက်ခဲ့သောအလောင်းတော်ဘဝလေးဘဝ ရှိလေသည်။[၂၆] ထို အလောင်းတော်တို့မှာ အောက်ပါအတိုင်းဖြစ်လေသည်။

ဂုတ္တိလ စောင်းသမားဘဝတွင် လူအဖြစ်နှင့် နတ်ပြည်သို့ ရောက်ခဲ့လေသည်။ ဂုတ္တိလ စောင်းဆရာကို တပည့်ဖြစ်သူ မုသိလက စောင်းတီး ယှဉ်ပြိုင်လေ၏။ စောင်းပြိုင်ပွဲတွင် ဘုရားအလောင်းဂုတ္တိလသည် သိကြားပေးသော စောင်းကိုတီးပြီး ပြိုင်သဖြင့် နိုင်လေသောအခါ

ပြည်သူများက ဆရာကို ယှဉ်ပြိုင်ရအံ့လောဟု ဒေါသထွက်ပြီး ရှုံးသူ မှသိကကို သတ်လိုက်လေသည်။ စောင်းပြိုင်ပွဲပြီးသောအခါ သိကြားမင်းက ဂုတ္တိလစောင်းဆရာ၏ သီလ၊ သမာဓိဂုဏ်ကို ကြည်ညိုသဖြင့် နတ်ပြည်သို့ ဆောင်သွား၍ ဂုတ္တိလစောင်းသမားဘဝတွင် နတ်ပြည်သို့ ရောက်ခဲ့ဖူးကြောင်း ဒုကနိပါတ် ဂုတ္တိလဇာတ်၌ တွေ့ရပါသည်။

မန္ဓာတုစကြာမင်းဘဝတွင်လည်း လူအဖြစ်နှင့် နတ်ပြည်သို့ ရောက်ခဲ့ဖူးလေသည်။ မန္ဓာတုစကြာမင်းသည် လောကီ လူ့စည်းစိမ်နှင့် အားမရ၊ ကာမတဏှာကိုပြည့်စေခြင်းငှာ မတတ်နိုင်သဖြင့် စက်ရတနာဖြင့် နတ်ပြည်တက်ပြီး စတုမဟာရာဇ်ပြည်တစ်ဝက်၊ တာဝတိံသာ တစ်ဝက်ကိုရ၍ ကာမဂုဏ်ကို ခံစားခဲ့၏။ တာဝတိံသာနတ်ပြည်တွင် သိကြားမင်း ၃၆ ယောက်တို့၏ အသက်ပမာဏတိုင် ခံစားခဲ့ကြောင်းကို တိကနိပါတ် မန္ဓာတုဇာတ်တွင် တွေ့ရလေသည်။

သာဓိနမင်း ဘဝတွင်လည်း နတ်ပြည်သို့ လူအဖြစ်နှင့်ပင် ရောက်ခဲ့လေသည်။ မိဓိလာပြည် သာဓိနမင်းသည် အလှူတင်းကုပ် ခြောက်ခုကို ဆောက်ပြီး နေ့စဉ် ဥစ္စာခြောက်သိန်းကိုလှူ၍ ဥပုသ်သီလ ဆောက်တည်၏။ မိဓိလာပြည်သားများနှင့် တိုင်းတစ်ပါးသားတို့သည် သာဓိနမင်း၏ အဆုံးအမခံ၍တည်၍ ကုသိုလ်ကောင်းမှု ပြုကြသဖြင့် သေလွန်သောအခါ နတ်ပြည်၌ ဖြစ်ကြကုန်၏။ ထိုနတ်တို့သည် သုဓမ္မာ သဘင်၌ သာဓိနမင်း၏ ကျေးဇူးကို ချီးမွမ်းကြ၏။ ကြွင်းသော နတ်များသည် သာဓိနမင်းအား ချီးမွမ်းသံကိုကြားသောအခါ သာဓိနမင်းအား ဖူးမြင်လိုကြကုန်၏။ ထိုနတ်များ၏စိတ်ကိုသိသဖြင့် သိကြားမင်းသည် မာတလိနတ်သားကို စေလွှတ်ပြီး သာဓိနမင်းကို နတ်ပြည်သို့ ပင့်စေသဖြင့် သာဓိနမင်းဘဝတွင်လည်း လူအဖြစ်ဖြင့် နတ်ပြည်သို့ ရောက်ခဲ့ကြောင်း ပကိဏ္ဏကနိပါတ် သာဓိနဇာတ်တွင် တွေ့ရပါသည်။

နေမိမင်းဘဝတွင်လည်း လူ့ဘဝဖြင့်ပင် နတ်ပြည်သို့ ရောက်ခဲ့ဖူးလေသည်။ နေမိမင်း၏ အဆုံးအမကို လိုက်နာ ကျင့်သုံးကြသော ပြည်သူများသည် သေလွန်သောအခါ နတ်ပြည်တွင်ဖြစ်ကြလေသည်။ ထိုနတ်များသည် သုဓမ္မာသဘင်တွင် နေမိမင်း၏ ကျေးဇူးတရားများ

ကို ချီးကျူးလေ၏။ ကျန်နတ်များ၏ တောင်းပန်ချက်ကြောင့် သိကြားမင်းသည် မာတလိနတ်သားကို စေလွှတ်ပြီး နေမိမင်းကို နတ်ပြည်သို့ ပင့်စေသဖြင့် နေမိမင်း ဘဝဖြင့် နတ်ပြည်ရောက်ခဲ့ဖူး ကြောင်း မဟာနိပါတ်တော်လာ နေမိဇာတ်တွင် တွေ့ရပါသည်။

ဖော်ပြပါ ဇာတ်တော်လေးဇာတ်မှ ဘုရားအလောင်းတော် လေး ဘဝတွင် လူအဖြစ် နတ်ပြည်ရောက်ခဲ့ကြောင်းဖြင့် တွေ့ရပါသည်။

## (၁၁) မွေးဖွားစက စကားဆိုသူလေးဦး

ဇာတ်တော်များရှိ စိတ်ဝင်စားဖွယ်တစ်ခုမှာ မွေးဖွားစသူငယ်က စကားပြောခြင်းပင် ဖြစ်လေသည်။ ဆရာတော် အရှင်ဩဘာသာ ဘိဝံသ၏ သုတေသန သရုပ်ပြ အဘိဓာန်တွင် မွေးဖွားစက စကား ဆိုသူ လေးဦးကို ပြထားပါသည်။ ၎င်းတို့လေးဦးမှာ –

(က) သိဒ္ဓတ္ထကုမာရ မင်းသား။
(ခ) မဟောသဓ သတို့သား။
(ဂ) ဝေဿန္တရာ သတို့သား။
(ဃ) အမ္ဗဋ္ဌဇာတ်လာ ဥက္ကာကမင်းကြီး၏ ဒိသာခေါ် ကျွန်မမှ မွေးဖွားသော၂၇ ကဏှ သတို့သားတို့ ဖြစ်လေသည်။

ဘုရားအလောင်းတော်၏ နောက်ဆုံးဘဝဖြစ်သည့် သိဒ္ဓတ္ထမင်းသား ဘဝတွင် ဖွားတော်မူသောအခါ မြောက်အရပ်သို့ တူရူ ခုနစ်ဖဝါး လှမ်းတော်မူပြီးလျှင်....

"ငါသည် လူသုံးပါးတွင် အမြတ်ဆုံး၊ အကြီးကဲဆုံး၊ အချီးမွမ်းအပ်ဆုံးသူ ဖြစ်၏" ဟူ၍ ရဲရဲတောက်စကား ကြုံးဝါးတော်မူခဲ့လေ၏။

မဟောသဓ သတို့သားဘဝတွင်လည်း မိခင်ဝမ်းမှ ဖွားမြင်လာသောအခါ လက်၌ ဆုပ်ကိုင်ထားသောအရာကိုမြင်၍ မိခင်က –

"ချစ်သား....အဘယ်ဝတ္ထုကို ယူ၍လာခဲ့သနည်း"ဟု မေးမြန်းလေ၏။ ထိုအခါ ဘုရားအလောင်း သတို့သားက....

"မိခင် ဤကား နတ်ဆေးတုံးတည်း။ မိခင်ယူလော့ တစ်စုံတစ်ခုသော အကြောင်းဖြင့် မကောင်းသော အနာရောက်၍ မပျောက်နိုင်ကုန်သော သူတို့အား ဤဆေးကို သွေး၍ လိမ်းစေလော့"ဟု စကားဆိုကြောင်းတွေ့ရလေသည်။

ဝေဿန္တရာ သတို့သားဘဝတွင်လည်း ဘုရားအလောင်းသည် ဖွားမြင်လာသောအခါ လက်တော်ကို ဆန့်တန်းလျက်....

"မယ်တော်....အကျွန်ုပ် အလှူပေးအံ့။ ဥစ္စာ တစိုးတစိမျှ ရှိပါ၏လော" ဆိုကြောင်း တွေ့ရလေသည်။

မွေးဖွားစက စကားပြောသူလေးဦးတွင် ဘုရားအလောင်းတော်ကို သုံးဘဝ တွေ့ရပါသည်။ ဤသုံးဘဝတွင် နှစ်ဘဝသည် ဇာတ်တော်များလာ အလောင်းတော်ဘဝဖြစ်ပြီး တစ်ဘဝသည် နောက်ဆုံးဘဝဖြစ်သည့် သိဒ္ဓတ္ထမင်းသားဘဝ ဖြစ်ကြောင်း တွေ့ရလေသည်။ ကျီးသဲလေးထပ် ဆရာတော်ဘုရားကြီးက စွယ်စုံကျော်ထင်ကျမ်း ပုစ္ဆာ ၆၉၀ "ရွှေခွန်းသာအိန့်၊ ဖွားလျှင်မိန့်၊ ထိန့်ထိန့်ကျော်စော ဘယ်မျှနည်း" တွင် အကျယ်ဖြေဆိုထားပါသည်။[၂၈]

## (၁၂) တိရစ္ဆာန်များ လူစကားပြောခြင်း

ဇာတ်တော်များတွင် စိတ်ဝင်စားဖွယ်ကောင်းသော အကြောင်းတစ်ခုမှာတိရစ္ဆာန်များက လူစကားပြောခြင်းဖြစ်ပါသည်။ဇာတ်တော်များတွင် ဘုရားအလောင်းဖြစ်ရာ ဘဝများပင်လျှင် တိရစ္ဆာန်ဘဝမျိုးစုံ တွေ့ရလေသည်။ အခြားပုဂ္ဂိုလ်များကိုလည်း တိရစ္ဆာန်ဘဝများနှင့် တွေ့ရလေသည်။ ထိုဇာတ်တော်များလာ တိရစ္ဆာန်များသည် စကားပြောကြကြောင်း၊ မေးမြန်း ဖြေဆိုကြကြောင်း တွေ့ရပါသည်။ စတ္တာလီသနိပါတ် တေသကုဏဇာတ်တော်လာ ဝေဿန္တရာ မည်သော

ခင်ပုတ်ငှက်၊ ကုဏ္ဍလိနီ မည်သော ဆက်ရက်မ၊ ဇမ္ဗုက မည်သော ကျေးငှက် ဤသုံးကောင်နှင့် မြဟ္မဒတ်မင်းကြီးတို့ စကားပြောခြင်း။ အသီတိ နိပါတ်တော်လာ စူဠဟံသဇာတ် နှင့် မဟာဟံသဇာတ်မှ ဘုရားအလောင်း ဓတရဋ္ဌ ဟင်္သာမင်း၊ စစ်သူကြီး သုမုခဟင်္သာတို့နှင့် မင်းတို့ စကားပြောခြင်း စသည်တို့ကို တွေ့ရပါသည်။ အခြားဇာတ်တော်များလည်း အများအပြား ရှိပါသေးသည်။

ဤသို့ တိရစ္ဆာန်များ လူစကားပြောနိုင် မပြောနိုင်ကို စိတ်ဝင်စားသူများ အနက်၊ မန်လည်ဆရာတော်က မေးမြန်းခဲ့သဖြင့် မင်းကွန်းတောရဆရာတော်က သက္ကရာဇ် ၁၂၄၄ ခု၊ ကဆုန်လဆန်း ၈ ရက်နေ့တွင် ဖြေဆိုခဲ့လေသည်။ ထိုအမေးအဖြေကို သတပဒိကပုစ္ဆာဝိသဇ္ဇနာ ကျမ်းတွင် တွေ့ရပါသည်။ ဆရာတော်များ၏ အမေးအဖြေတို့မှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

ဇာတ်တော်လာ မြွေ၊ ဆိတ်၊ သမင်တို့
လူ့စကားပြောရာ၌ ယုံသင့်မယုံသင့်။

ဒွေနဝုတိပုစ္ဆာ။ ။ အထူးတဲ့ထွေလာ။ ။ လောင်းတော်သာ မဟုတ်သေးပါဘူး၊ မြွေ၊ ဆိတ်ဖြူအိုတို့၊ လိပ် လူလို ဘာသာတတ်သည်ဟုကျမ်းနိပါတ်မှာ။ ။ မကြုံတောင်းကိုလှ၊ ယုံကောင်းမှ ယုံချင်ပါ၊ ကျမ်းဆရာညီထွေး။ ။ မဝေဘန်၊ အဋ္ဌကထာ သီကာချန်တဲ့ ဋီကာကျန် မိပ္ပာယ်ကြွင်းကိုလ၊ ထင်လင်းစွာ အာဂုံဆောင်လို့၊ ယုံသာအောင် တညာဏ်ဆန်းတယ်၊ ဂဏ္ဌိသစ်ရေး။ ။

ဒွေနဝုတိဝိသဇ္ဇနာ။ ။ အထူးတဲ့ထွေလာ။ ။ လောင်းတော်သာ မဟုတ်သေးပေဘူး၊ မြွေ၊ ဆိတ်၊ သမင်တို့၊ မျှားစွာပင် လူလိုပြောသည်ဟု၊ ကျမ်းဟောပေပါ။ ။ သိန်းကုဋေ နှစ်လွန်ကျူးခါမှ၊ မဖြစ်ဘူး ဖြစ်ပေါ်လာ၊ အမ္ဘုတာဓမ္မော။ ။ အစိန္တိယာ၊ လောကတံထွာမို့၊ ရံတခါဖြစ်သင့်ကြောင်းကိုလ၊ ကျမ်းဟောင်းဘော်မဘွင့်ပြီဘူး၊ မျက်မြင်ကို ရွေညာဏ်ချင့်ပါတော့၊ ယုံသင့်အောင် တညာဏ်ဆန်းလိုက်တယ်၊ ဂဏ္ဌိသဘော။ ။

ဤမြေခွေး၊ ဆိတ်၊ သမင်စသည်တို့ လူဘာသာ ပြောသည်ဟု ကျမ်းနိပါတ်လာသည်ကား နှစ်ပေါင်း ကုဋေသိန်းသန်းက လွန်မှ တရံတဆစ် မဖြစ်ဘူးမြဲဖြစ်သော အစ္ဆရိယအမ္ဘုတဓမ္မ၏ အစွမ်းအား ဖြင့် ဖြစ်သည်။ အစဉ်မပြတ် ဇာတ်နိပါတ်တိုင်း ပြောဆိုကြသည် မဟုတ်။ ထို့ကြောင့် သုဝဏ္ဏမိဂဇာတ်၌ –

နမေဒိဋ္ဌံ ဝါသုတံဝါ၊ ဘာသန္တိံ၊ မာနုသိံ မိဂိံ။
တဥ္စ ဘဒ္ဒေ သုခီဟောတိ၊ ဧသောစာပိ
မဟာမိဂေါ။ ။ ဟူ၍လည်းကောင်း။
မဟာဟံသဇာတ်၌လည်း
နမေ သုတံဝါ၊ ဒိဋ္ဌံဝါ၊ ဘာသန္တော မာနုသိံ ဒိဇော။
အရိယံ ဗြူဝါနော စက္ကင်္ဂေါ၊ ဧဇန္တော
မာနုသိံ ဂိရံ။ ။ ဟူ၍လည်းကောင်း။

အစ္ဆရိယဖြစ်ကြောင်းကို လာသည်။ ဤသို့ တစ်ရံတစ်ဆစ် ဖြစ် ခြင်းသည်လည်း အစိန္တေယျလောက သဘောအားဖြင့် ဖြစ်သင့်သည် ပင်။ ဤသို့ဖြစ်ခြင်းသည်လည်း ရှေးကသာမဟုတ်ပါ။ ယခုကာလ၌ လည်း အနောက်ပြည် စစ်တကောင်းမြို့နယ် မဒီချောင်းအနီး တည် နေ၍ မဒီချောင်းဟု ခေါ်တွင်သောရွာ၌ ကျီးကန်းက လူဘာသာ စကား ပြောသည်ကို ကိုယ်တိုင်ဆတ်ဆတ် ကြားခဲ့ မြင်ခဲ့ တွေ့ခဲ့ ကြောင်းကို ရခိုင်ပြည်သား လဇ္ဇီပေသလ၊ သိက္ခာကာမ ဖြစ်သော ဇာဂရ အမည်ရှိသော ရဟန်းတစ်ပါး ပြော၍ ကြားသိရသည်။ ဤသို့ မျက်မြင်ကို ဉာဏ်ဆင်ခြင် ထောက်ချင့်၍ ယုံသင့်လှပေတော့သည် အဆွေ။ ဟု ဖြေကြားတော်၊ ခဲ့လေသည်။

တင်ပြခဲ့ပြီးသော အကြောင်းအရာများသည် ငါးရာ့ငါးဆယ် ဇာတ်တော်ကို အကြောင်းပြု၍ တွေ့ရသော ဗဟုသုတ သိမှတ်ဖွယ်ရာ အဖြာဖြာတို့ ဖြစ်လေသည်။ အလုံးစုံ အကုန်ပြီးပြည့်စုံပြီဟု မဆိုလို ပါ။ လက်လှမ်းမီရာ၊ စိတ်ဝင်စားဖွယ်ရာများကိုသာ ရွေးနုတ် တင်ပြခြင်း ဖြစ်ပါသည်။

# နိဂုံး

ငါးရာ့ငါးဆယ် ဇာတ်တော်များကို သုတရေးရာရှုထောင့်မှ တင်ပြပြီး ဖြစ်ပါသည်။ ကျယ်ပြန့်နိုက်နှဲလှသော ငါးရာ့ငါးဆယ်ဇာတ်တော်များကို လေ့လာရသည်မှာ မလွယ်ကူလှပါ။ တင်ပြသူ၏ စေတနာမှာ ငါးရာ့ငါးဆယ်ဇာတ်တော်များနှင့် ပတ်သက်၍ သိသင့် သိထိုက်သမျှတို့ကို ရှာဖွေ တင်ပြရန်သာ ဖြစ်ပါသည်။ အချို့ကို မူရင်းအတိုင်း နောက်ဆက်တွဲများဖြင့် တင်ပြထားပါသည်။

ငါးရာ့ငါးဆယ်ဇာတ်တော်များသည် ဗုဒ္ဓ၏ ဖြစ်တော်ပေါင်း ဘဝများဟုဆိုသော်လည်း ထိုဘဝများတွင် ပါရမီ ၁၀ ပါး၊ အပြား ၃၀ ကို ဖြည့်ခဲ့သဖြင့် ကျင့်စဉ်ကျမ်းများဟုလည်း ပြောနိုင်လေသည်။ ပိဋကတ်တော်တွင် စရိယာပိဋကပါဠိတော်ဟူသော ကျမ်းတစ်ဆူ ရှိလေသည်။ ဤစရိယာပိဋကတော်ကျမ်းသည် မြတ်စွာဘုရား ပါရမီ ဖြည့်ကျင့်ပုံများကို ဟောကြားသောကျမ်း ဖြစ်လေသည်။

စရိယာပိဋက ပါဠိတော်ကို မြတ်စွာဘုရားသည် ဘုရားဖြစ်တော်မူစအချိန် ဝါတော်နှစ်ဝါအရတွင် ကပိလဝတ်ပြည်၌ အရှင်သာရိပုတ္တရာ၏ မေးမြန်း လျှောက်ထားချက်အရ ဟောတော်မူခဲ့လေသည်။ အရှင်သာရိပုတ္တရာက –

> "ရွှေဘုန်းတော်သခင် အရှင်တော်မြတ်ဘုရား၊ ဤ ဘုရားဖြစ်ကြောင်း ပါရမီတရားအပေါင်းကို ဘဝပေါင်း အဘယ်မျှကြာအောင် ဖြည့်ကျင့်ဆည်းပူးတော်မူခဲ့ရပါသနည်း။ အဘယ်ကဲ့သို့ ရင့်ကျက် ပြည့်စုံသည်အဖြစ်သို့ ရောက်တော်မူခဲ့ရပါသနည်း" ဟု မေးလျှောက်ခဲ့လေသည်။

ထိုအခါ မြတ်စွာဘုရားသည် ထိုရတနာစင်္ကြံတော်ကြီး၌ ထက်ဝယ်ဖွဲ့ခွေ ထိုင်နေတော်မူလျက် ယုဂန္ဓိုရ်တောင်ထိပ်မှ ထွက်သစ်စဖြစ်သော နေလုလင်ကဲ့သို့ တင့်တယ်စွာ သီတင်းသုံးတော်မူရာမှ –

"သားတော်ကြီး သာရိပုတ္တရာ၊ ငါ၏ ဘုရားအဖြစ်သို့ရောက်ကြောင်း ပါရမီတရားတို့သည် ဒီပင်္ကရာ မြတ်စွာဘုရား၏ ရှေ့တော်၌ မိမိကိုယ်ကို တံတားပမာပြုကာ ဆုတောင်းဆောက်တည်ခဲ့သည်မှ အစပြု၍ မပြတ် အလေးအမြတ်ပြုလျက် အားထုတ်ခဲ့ခြင်းကြောင့် အလုံးစုံသော ကပ်ကမ္ဘာတို့၌ တစ်ဘဝထက်တစ်ဘဝ၊ တစ်ဇာတ်ထက်တစ်ဇာတ် ရင့်ကျက်ပြည့်စုံ၍လာခဲ့လေသည်။ ဤဘဒ္ဒကမ္ဘာ၌ကား ဤမည်ဤမည်သော ဘဝဇာတ်တို့၌ ထိုပါရမီတရားတို့သည် အထူးသဖြင့် ရင့်ကျက်ပြည့်စုံခြင်းသို့ ရောက်ခဲ့လေကုန်ပြီ" ဟု နိဒါန်းသွယ်ကာ ဒုတိယဗုဒ္ဓါ ပဒါန်ဟု အမည်တပ်အပ်သည့် စရိယာ ပိဋက ပါဠိတော်ကို ဟောကြားတော်မူခဲ့လေသည်။

စရိယာပိဋက ပါဠိတော်တွင် ဇာတ်တော် ၃၅ ဇာတ် ပါဝင်လေသည်။ ဤ ၃၅ ဇာတ်လုံးပင် ငါးရာ့ငါးဆယ်ဇာတ်တော်တို့တွင် ပါဝင်လေသည်။

စရိယာပိဋကသည် ဇာတ်တော်များကိုအကျယ်မဟောပေ။ ပါရမီတော်ကို ထင်ရှားစိမ့်သောငှာ အကျဉ်းမျှသာဟောကြားတော်မူသည်။ ငါးရာ့ငါးဆယ် ဇာတ်တော်များကား ဘုရားဖြစ်တော်မူသည်မှ စ၍ ပရိနိဗ္ဗာန်စံဝင်တော်မမူမီအတွင်း ထိုထိုအရပ်၊ ထိုထိုအကြောင်း၊ နိဒါန်းတို့ကြောင့် ထိုက်သင့်သလို ချဲ့ထွင် ဟောကြားတော်မူခဲ့သော ဇာတ်တော်များ ဖြစ်လေသည်။ ထို့ကြောင့် ဇာတ်တော်များသည် အကြောင်း နိဒါန်းအားလျော်စွာ သိုင်းဝိုင်း ချဲ့ထွင် တန်ဆာဆင်၍ နာချင်စဖွယ် ဟောပြောတော်မူသဖြင့် ဖတ်ရသောအခါလည်း ဝေဝေဆာဆာရှိပြီး နာကြားရသောအခါ နာကြား၍မငြီး ရှိရလေသည်။

လောကီ လူမှုရေးတွင် မင်းများကို ဆုံးမသည့် ကန်တော်မင်းကျောင်း မေတ္တာစာ အမြေ၊ ရာဇောဝါဒကျမ်းများတွင်လည်း

ဇာတ်တော်များကို အဆုံးအမတရားများ၏ သာဓက ဝတ္ထုများအဖြစ် တွေ့ရလေသည်။ ပုထုဇဉ်များအတွက် ဗုဒ္ဓဟောကြားခဲ့သော မင်္ဂလာတရား ၃၈ ပါး ရှိပါသည်။ ယင်းမင်္ဂလာတရားနှင့် ပတ်သက်၍ ညောင်ကန်ဆရာတော်က "မင်္ဂလတ္ထဒီပနီ" ကျမ်း ပြုစုခဲ့ပါသည်။ ဤကျမ်းတွင်လည်း ဇာတ်တော်များကို အဆုံးအမတရားများ၏ သာဓကများအဖြစ် တွေ့ရပါသည်။

ဤသို့ မြန်မာများ လေးစားကြည်ညိုနေကြသော ဇာတ်တော်များကို သုတရေးရာ အဖြာဖြာ ရှုထောင့်မှ တင်ပြခဲ့ပြီး ဖြစ်ပါသည်။ တင်ပြခဲ့ပြီးဖြစ်သောအချို့အကြောင်းအရာများတွင် အယူအဆများ မတူပုံကိုသာ နှိုင်းယှဉ်ပြထားပါသည်။ စာရေးသူ၏ အယူအဆ၊ အဆုံးအဖြတ်ကို မတင်ပြခဲ့ပါ။ တင်ပြရန်လည်း မဝံ့ရဲပါ။ စာရေးသူ၏ အဆုံးအဖြတ်မပေးနိုင်သည့်၊ မပေးဝံ့သည့် အခြေအနေကို နားလည်ခွင့်လွှတ်နိုင်ကြမည်ဟု ယုံကြည်မျှော်လင့်မိပါသည်။ စာရေးသူ မမြင်မိ၊ မလေ့လာမိသော အကြောင်းအရာများ၊ ကွဲလွဲချက်များလည်း ရှိနိုင်ပါသေးသည်။ တွေ့ရှိပါက ဖော်ထုတ်ပေးကြရန်လည်း တိုက်တွန်းလိုပါသည်။

စာရေးသူ၏ စေတနာကား ငါးရာ့ငါးဆယ် ဇာတ်တော်များနှင့် ပတ်သက်၍ အထွေထွေ သုတများကို သိနိုင်ကြရန်သာ ဖြစ်ပါသည်။ ဤထက် ကျယ်ပြန့်သည့် အကြောင်းအရာများကို ဖော်ထုတ် တင်ပြနိုင်ပါက ပိုမိုကျယ်ပြန့်သော သုတလောကသို့ ပို့ပေးနိုင်မည်ဟု ယုံကြည်လျက် မျှော်လင့်မိပါသတည်း။ ။

နောက်ဆက်တွဲ (က)

## ငါးရာ့ငါးဆယ်ဇာတ်တော်များစာရင်း

| အမှတ်စဉ် | ဇာတ်တော်အမည် | အကြောင်းချုပ် |
|---|---|---|
| | **ဧကနိပါတ်ဇာတ် ၁၅၀** | |
| ၁ | အပဏ္ဏကဇာတ် | ကုန်သည်မိုက်အကြောင်း |
| ၂ | ဝဏ္ဏုပထဇာတ် | ဝီရိယရှိသော လုလင်အကြောင်း |
| ၃ | သေရိဝဝါဏိဇဇာတ် | ရွှဲကုန်သည်မိုက်အကြောင်း |
| ၄ | စူဠသေဋ္ဌိဇာတ် | ကြွက်သေတစ်ခုအရင်းပြု၍ ကြွယ်ဝသူ |
| ၅ | တဏ္ဍုလနာဠိဇာတ် | မင်းနှင့်ရာပြတ်မိုက်အကြောင်း |
| ၆ | ဒေဝဓမ္မဇာတ် | ဒေဝဓမ္မတရားနှစ်ပါးအကြောင်း |
| ၇ | ကဋ္ဌဝါဟနဇာတ် | မင်းနှင့် ထင်းခွေသည်မအကြောင်း |
| ၈ | ဂါမဏိဇာတ် | ဂါမဏိမင်းသားအကြောင်း |
| ၉ | မခါဒေဝဇာတ် | မခါဒေဝမင်းကြီးအကြောင်း |
| ၁၀ | သုခဝိဟာရီဇာတ် | ချမ်းသာစွာနေလေ့ရှိသော ရသေ့ |
| ၁၁ | လက္ခဏမိဂဇာတ် | လက္ခဏသမင်အကြောင်း |
| ၁၂ | နိဂြောဓမိဂဇာတ် | နိဂြောဓသမင်အကြောင်း |
| ၁၃ | ကဏ္ဍိနဇာတ် | တဏှာကြီးသော သမင်အကြောင်း |
| ၁၄ | ဝါတမိဂဇာတ် | အရသာမက်သည့်သမင်ပျို အကြောင်း |
| ၁၅ | ခရာဒိယဇာတ် | ဆုံးမခက်သော သမင်အကြောင်း |

| အမှတ်စဉ် | ဇာတ်တော်အမည် | အကြောင်းချုပ် |
| --- | --- | --- |
| ၁၆ | တိပလ္လတ္ထဇာတ် | ဆိုးမလှယ်သော သမင်အကြောင်း |
| ၁၇ | မာလုတဇာတ် | ကျားခြင်္သေ့နှစ်ဦး၏အချမ်းပြဿနာ |
| ၁၈ | မတကဘတ္တဇာတ် | မတကဘတ်အလှူအကြောင်း |
| ၁၉ | အာယာစိတဘတ္တဇာတ် | ယစ်နတ်ပူဇော်ခြင်းအကြောင်း |
| ၂၀ | နဠပါနဇာတ် | အဆစ်မရှိသောကျူပင်အကြောင်း |
| ၂၁ | ကုရုင်္ဂမိဂဇာတ် | ဆတ်နှင့်မုဆိုးအကြောင်း |
| ၂၂ | ကုက္ကုရဇာတ် | ခွေးပညာရှိအကြောင်း |
| ၂၃ | ဂေါဇာနိယဇာတ် | အာဇာနည်မြင်းအကြောင်း |
| ၂၄ | အာဇညဇာတ် | အာဇာနည်မြင်းညီနောင်အကြောင်း |
| ၂၅ | တိတ္ထဇာတ် | သိန္ဓောမြင်းအကြောင်း |
| ၂၆ | မဟိဠာမုခဇာတ် | အတုခိုးသည့် မင်္ဂလာဆင်အကြောင်း |
| ၂၇ | အဘိဏှဇာတ် | ခွေးနှင့် မင်္ဂလာဆင်အကြောင်း |
| ၂၈ | နန္ဒိဝိလာသဇာတ် | ပုဏ္ဏားနှင့် နွားလားအကြောင်း |
| ၂၉ | ကဏှဇာတ် | အမယ်အိုနှင့် နွားလားအကြောင်း |
| ၃၀ | မုနိကဇာတ် | မုနိကဝက်အကြောင်း |
| ၃၁ | ကုလာဝကဇာတ် | သိကြားမင်းနှင့် ဂဠုန်ငယ်များအကြောင်း |
| ၃၂ | နစ္စဇာတ် | အရှက်မရှိသည့်ဥဒေါင်းအကြောင်း |
| ၃၃ | သမ္မောဒမာနဇာတ် | မညီညွတ်သည့် ငုံးများအကြောင်း |
| ၃၄ | မစ္ဆဇာတ် | တဏှာကြီးသည့် ငါးအကြောင်း |
| ၃၅ | ဝဋ္ဋကဇာတ် | တောမီးကြီးနှင့် ငုံးငယ်အကြောင်း |
| ၃၆ | သကုဏဇာတ် | ပညာရှိငှက်အကြောင်း |

| အမှတ်စဉ် | ဇာတ်တော်အမည် | အကြောင်းချုပ် |
|---|---|---|
| ၃၇ | တိတ္တိရဇာတ် | ခါ၊ မျောက်၊ ဆင်သုံးဦးအကြောင်း |
| ၃၈ | ဗကဇာတ် | ဗျိုင်းယုတ်နှင့် ပုစွန်လုံးအကြောင်း |
| ၃၉ | နန္ဒဇာတ် | သူဌေးသားနှင့်နန္ဒကျွန်အကြောင်း |
| ၄၀ | ခဒိရင်္ဂါရဇာတ် | မီးကျီးတွင်းနှင့်သူဌေးမင်း အကြောင်း |
| ၄၁ | လောသကဇာတ် | ဝန်တိုသည့် ရဟန်းအကြောင်း |
| ၄၂ | ကပေါတဇာတ် | ခိုနှင့်ကျီးမိုက်အကြောင်း |
| ၄၃ | ဝေဠုကဇာတ် | မြွေဟောက်မွေးစားသည့် ရသေ့ အကြောင်း |
| ၄၄ | မကသဇာတ် | မှက်နှင့် လူမိုက်အကြောင်း |
| ၄၅ | ရောဟိဏီဇာတ် | ကျွန်မမိုက်နှင့် ယင်များအကြောင်း |
| ၄၆ | အာရာမဒူသကဇာတ် | ဥယျာဉ်ဖျက်သည့် မျောက်ကြီး အကြောင်း |
| ၄၇ | ဝါရုဏိဒူသကဇာတ် | သေရည်ကို ဖျက်ဆီးသူအကြောင်း |
| ၄၈ | ဝေဒဗ္ဗဇာတ် | မန္တရားနှင့် ပုဏ္ဏားမိုက်အကြောင်း |
| ၄၉ | နက္ခတ္တဇာတ် | နက္ခတ်နှင့်မင်္ဂလာအကြောင်း |
| ၅၀ | ဒုမ္မေဓဇာတ် | ယဇ်ပူဇော်ခြင်းအကြောင်း |
| ၅၁ | မဟာသီလဝဇာတ် | မဟာသီလဝမင်းအကြောင်း |
| ၅၂ | စူဠဇနကဇာတ် | (မဟာဇနက — ၅၃၉ နှင့်တူ) |
| ၅၃ | ပုဏ္ဏပါတိဇာတ် | သူဌေးနှင့် အရက်သမား အကြောင်း |
| ၅၄ | ကိံဖလဇာတ် | ကိံဖလ အဆိပ်ပင်အကြောင်း |
| ၅၅ | ပဉ္စာဝုဓဇာတ် | ပဉ္စာဝုဓ မင်းသားအကြောင်း |
| ၅၆ | ကဉ္စနက္ခန္ဓဇာတ် | ရွှေတုံးနှင့် လယ်သမားအကြောင်း |

| အမှတ်စဉ် | ဇာတ်တော် အမည် | အကြောင်းချုပ် |
|---|---|---|
| ၅၇ | ဝါနရိန္ဒဇာတ် | မိချောင်းနှင့် မျောက်မင်း အကြောင်း |
| ၅၈ | တယောဓမ္မဇာတ် | ရန်အောင်တရားသုံးပါး အကြောင်း |
| ၅၉ | ဘေရိဝါဒကဇာတ် | စည်တီးသမားအကြောင်း |
| ၆၀ | သင်္ခဓမ္မဇာတ် | ခရုသင်းမှုတ်သမားအကြောင်း |
| ၆၁ | အသာတမန္တဇာတ် | လုလင်ပျိုနှင့် အမယ်အို အကြောင်း |
| ၆၂ | အဏ္ဍဘူတဇာတ် | မိန်းမငယ်နှင့် ပုရောဟိတ် အကြောင်း |
| ၆၃ | တက္ကပဏ္ဍိတဇာတ် | သူဌေးသမီးနှင့် ရသေ့လူထွက် အကြောင်း |
| ၆၄ | ဒုရာဇာနဇာတ် | မိန်းမမာယာအကြောင်း |
| ၆၅ | အနဘိရတိဇာတ် | မိန်းမမာယာအကြောင်း |
| ၆၆ | မုဒုလက္ခဏဇာတ် | မိဖုရားနှင့် ရသေ့လူထွက် အကြောင်း |
| ၆၇ | ဥစ္ဆင်္ဂဇာတ် | ပညာရှိမိန်းမအကြောင်း |
| ၆၈ | သာကေတဇာတ် | ဘုရားနှင့် သာကေတပုဏ္ဏား အကြောင်း |
| ၆၉ | ဝိသဝန္တဇာတ် | မြွေနှင့် ဆေးဆရာအကြောင်း |
| ၇၀ | ကုဒ္ဒါရဇာတ် | ခေါက်ကြိမ် လူပြန်ထွက်သူ အကြောင်း |
| ၇၁ | ဝရုဏဇာတ် | ခတက်ပင်နှင့် လူပျင်းအကြောင်း |
| ၇၂ | သီလဝနာဂရာဇဇာတ် | သီလဝဆင်မင်းနှင့် မုဆိုး အကြောင်း |

| အမှတ်စဉ် | ဇာတ်တော်အမည် | အကြောင်းချုပ် |
|---|---|---|
| ၇၃ | သစ္စံကိရဇာတ် | မင်းသားယုတ်နှင့် ရသေ့အကြောင်း |
| ၇၄ | ရုက္ခဓမ္မဇာတ် | ညီညွတ်ခြင်းအကြောင်း |
| ၇၅ | မစ္ဆဇာတ် | မိုးရွာစေသောငါးမင်းအကြောင်း |
| ၇၆ | အသင်္ကိယဇာတ် | ရသေ့နှင့် ကုန်သည်များအကြောင်း |
| ၇၇ | မဟာသုပိနဇာတ် | အိပ်မက်ကြီး ၁၆ ချက်အကြောင်း |
| ၇၈ | ဣလ္လိသဇာတ် | နှမြောလွန်းသည့် ဣလ္လိသသူဌေး |
| ၇၉ | ခရဿရဇာတ် | စည်ကြီးသံနှင့် ရွာစားပျက်အကြောင်း |
| ၈၀ | ဘီမသေနဇာတ် | ဟန်သာရှိသော ဘီမသေနအကြောင်း |
| ၈၁ | သုရာပါနဇာတ် | အရက်နှင့် ရသေ့များအကြောင်း |
| ၈၂ | မိတ္တဝိန္ဒကဇာတ် | (မဟာမိတ္တဝိန္ဒက – ၄၃၉) နှင့်တူ |
| ၈၃ | ကာဠကဏ္ဏိဇာတ် | ပညာရှိမိတ်ဆွေအကြောင်း |
| ၈၄ | အတ္ထဿဒွါရဇာတ် | ကြီးပွားခြင်းတရား ခြောက်ပါးအကြောင်း |
| ၈၅ | ကိံပက္ကဇာတ် | ကိံပက္ကအဆိပ်ပင်အကြောင်း |
| ၈၆ | သီလဝီမံသကဇာတ် | သီလကိုစုံစမ်းသူအကြောင်း |
| ၈၇ | မင်္ဂလဇာတ် | မင်္ဂလာယူသည့်ပုဏ္ဏားအကြောင်း |
| ၈၈ | သာရမ္ဘဇာတ် | (နန္ဒိဝိသာလ–၂၈) နှင့်တူ |
| ၈၉ | ကုဟကဇာတ် | သူတော်စင်ဟန်ဆောင်သောရသေ့ |

| အမှတ်စဉ် | ဇာတ်တော်အမည် | အကြောင်းချုပ် |
|---|---|---|
| ၉၀ | အကတညုဇာတ် | ကျေးဇူးကန်းသည့်သူဌေးအကြောင်း |
| ၉၁ | လိတ္တဇာတ် | ကောက်ကျစ်သောကြွေအန်သမား |
| ၉၂ | မဟာသာရဇာတ် | ပုလဲကုံးနှင့်မျောက်မအကြောင်း |
| ၉၃ | ဝိဿာသဘောဇနဇာတ် | ခြင်္သေ့နှင့်ပြောင်မအကြောင်း |
| ၉၄ | လောမဟံသဇာတ် | မိစ္ဆာအကျင့်ကိုစုံစမ်းခြင်း |
| ၉၅ | မဟာသုဒဿနဇာတ် | မဟာသုဒဿနစကြာမင်းအကြောင်း |
| ၉၆ | တေလပတ္တဇာတ် | ဘီလူးမနှင့်မင်းသားအကြောင်း |
| ၉၇ | နာမသိဒ္ဓိဇာတ် | နာမည်ကောင်းရှာသူအကြောင်း |
| ၉၈ | ကူဋဝါဏိဇဇာတ် | ကောက်ကျစ်သောကုန်သည်အကြောင်း |
| ၉၉ | ပရောသဟဿဇာတ် | ပညာရှိတပည့်ကြီးအကြောင်း |
| ၁၀၀ | အသာတရူပဇာတ် | အနုနည်းဖြင့်အနိုင်ယူသည့်မင်းသား |
| ၁၀၁ | ပရောသတဇာတ် | (ပရောသဟဿ–၉၉) နှင့်တူ |
| ၁၀၂ | ပဏ္ဏိကဇာတ် | ဟင်းရွက်သည်နှင့်သမီးအကြောင်း |
| ၁၀၃ | ဝေရီဇာတ် | ခိုးသူနှင့်သူဌေးအကြောင်း |
| ၁၀၄ | မိတ္တဝိန္ဒကဇာတ် | (မဟာမိတ္တဝိန္ဒက–၄၃၉) နှင့်တူ |
| ၁၀၅ | ဒုဗ္ဗလကဋ္ဌဇာတ် | အမြဲကြောက်လန့်နေသည့်ဆင် |
| ၁၀၆ | ဥဒဥ္စနီဇာတ် | မိန်းမပျိုနှင့်ရသေ့ငယ်အကြောင်း |

| အမှတ်စဉ် | ဇာတ်တော်အမည် | အကြောင်းချုပ် |
|---|---|---|
| ၁၀၇ | သာလိတ္တကဇာတ် | ကျောက်စရစ်ပစ်သမား အကြောင်း |
| ၁၀၈ | ဗာဟိယဇာတ် | အရုပ်ဆိုးသည့်တောသူ အကြောင်း |
| ၁၀၉ | ကုဏ္ဍကပူဝဇာတ် | ဆင်းရဲသားနှင့် ရုက္ခစိုးအကြောင်း |
| ၁၁၀ | သဗ္ဗသံဟာရကပဉှဇာတ် | (မဟာဥမင်္ဂ—၅၄၂) |
| ၁၁၁ | ဂဒြဘပဉှဇာတ် | ( ။ ) |
| ၁၁၂ | အမရာဒေဝီပဉှဇာတ် | ( ။ ) |
| ၁၁၃ | သိင်္ဂါလဇာတ် | ပုဏ္ဏားနှင့်မြေခွေးအကြောင်း |
| ၁၁၄ | မိတစိန္တိဇာတ် | ငါးပျင်းနှစ်ကောင်အကြောင်း |
| ၁၁၅ | အနုသာသိကဇာတ် | ဆုံးမလေ့ရှိသော ငှက်မအကြောင်း |
| ၁၁၆ | ဒုဗ္ဗစဇာတ် | ဆိုနိုင်ခက်လှသောလှံခုန်သမား အကြောင်း |
| ၁၁၇ | တိတ္တိရဇာတ် | တွန်လွန်းသောခါအကြောင်း |
| ၁၁၈ | ဝဋ္ဋကဇာတ် | ပညာရှိငုံးအကြောင်း |
| ၁၁၉ | အကာလရာဝီဇာတ် | အချိန်မဟုတ်တွန်သည့်ကြက် အကြောင်း |
| ၁၂၀ | ဗန္ဓနမောက္ခဇာတ် | တဏှာကြီးသောမိဖုရားအကြောင်း |
| ၁၂၁ | ကုသနာဠိဇာတ် | ကျူရုံစောင့်နတ်ကလေး အကြောင်း |
| ၁၂၂ | ဒုမ္မေဓဇာတ် | မင်းမိုက်နှင့်မင်္ဂလာဆင်အကြောင်း |
| ၁၂၃ | နင်္ဂလီသဇာတ် | ထူအလွန်းသည့် တပည့်အကြောင်း |
| ၁၂၄ | အမ္ဗဇာတ် | ရသေ့နှင့်ငှက်များအကြောင်း |
| ၁၂၅ | ကဋာဟကဇာတ် | ကျွန်လည်နှင့်သူဌေးသမီး အကြောင်း |

| အမှတ်စဉ် | ဇာတ်တော်အမည် | အကြောင်းချုပ် |
|---|---|---|
| ၁၂၆ | အသိလက္ခဏဇာတ် | သန်လျက်လက္ခဏာဖတ်ပုဏ္ဏား |
| ၁၂၇ | ကလဏ္ဍုကဇာတ် | ကျွန်လည်နှင့်သူဌေးသမီးအကြောင်း |
| ၁၂၈ | ဗိဠာရဝတဇာတ် | ကြွက်များနှင့်မြေခွေးယုတ်အကြောင်း |
| ၁၂၉ | အဂ္ဂိကဘာရဒွါဇဇာတ် | ကြွက်များနှင့်မြေခွေးယုတ်အကြောင်း |
| ၁၃၀ | ကောသိယဇာတ် | လင်ကိုလှည့်စားသည့်ပုဏ္ဏေးမ |
| ၁၃၁ | အသမ္ပဒါနဇာတ် | ကျေးဇူးကန်းသည့်သူဌေးအကြောင်း |
| ၁၃၂ | ဘီရုကဇာတ် | ဘီလူးမနှင့်မင်းသားအကြောင်း |
| ၁၃၃ | ဃတာသနဇာတ် | နဂါးနှင့်ငှက်များအကြောင်း |
| ၁၃၄ | ဈာနသောဓနဇာတ် | ပညာရှိတပည့်ကြီးအကြောင်း |
| ၁၃၅ | စန္ဒာဘဇာတ် | ပညာရှိတပည့်ကြီးအကြောင်း |
| ၁၃၆ | သုဝဏ္ဏဟံသဇာတ် | ရွှေဟင်္သာနှင့်မယ်လောဘအကြောင်း |
| ၁၃၇ | ဗဗ္ဗုဇာတ် | ကြောင်လေးကောင်နှင့် ကြွက်မအကြောင်း။ |
| ၁၃၈ | ဂောဓဇာတ် | ဖွတ်နှင့်ရသေ့ပျက်အကြောင်း |
| ၁၃၉ | ဥဘတောဘဋ္ဌဇာတ် | အရှုံးကြီးရှုံးသည့်တံငါသည် |
| ၁၄၀ | ကာကဇာတ် | ပုရောဟိတ်နှင့် ကျီးမင်းအကြောင်း |
| ၁၄၁ | ဂေါဓဇာတ် | ပုတ်သင်နှင့် ဖွတ်အကြောင်း |
| ၁၄၂ | သိင်္ဂါလဇာတ် | အရက်မူးနှင့်မြေခွေးအကြောင်း |
| ၁၄၃ | ဝိရောစဇာတ် | ခြင်္သေ့ကိုတုပသောမြေခွေးအကြောင်း |

| အမှတ်စဉ် | ဇာတ်တော်အမည် | အကြောင်းချုပ် |
|---|---|---|
| ၁၄၄ | နင်္ဂုဋ္ဌဇာတ် | မီးကိုလုပ်ကျွေးသည့်ရသေ့အကြောင်း |
| ၁၄၅ | ရာဓဇာတ် | ပုဏ္ဏားမနှင့်ကျေးညီနောင်အကြောင်း |
| ၁၄၆ | ကာကဇာတ် | သမုဒ္ဒရာနှင့်ကျီးမိုက်များအကြောင်း |
| ၁၄၇ | ပုပ္ဖရတ္တဇာတ် | မယားကိုအလိုလိုက်သည့်လူမိုက်အကြောင်း |
| ၁၄၈ | သိင်္ဂါလဇာတ် | ဆင်သေနှင့်မြေခွေးအကြောင်း |
| ၁၄၉ | ကေပဏ္ဏဇာတ် | တမာပင်နှင့်မင်းသားကြမ်းအကြောင်း |
| ၁၅၀ | သဉ္ဇိဝဇာတ် | လုလင်နှင့်ကျားအကြောင်း |
| | | **ဒုကနိပါတ် ဇာတ် ၁၀၀** |
| ၁၅၁ | ရာဇောဝါဒဇာတ် | ဝါဒပြိုင်သည့်မင်းနှစ်ပါးအကြောင်း |
| ၁၅၂ | သိင်္ဂါလဇာတ် | မြေခွေးဖိုနှင့်ခြင်္သေ့မအကြောင်း |
| ၁၅၃ | သူကရဇာတ် | ခြင်္သေ့နှင့်စစ်ထိုးသည့်ဝက်အူအကြောင်း |
| ၁၅၄ | ဥရဂဇာတ် | နဂါးနှင့်ဂဠုန်အကြောင်း |
| ၁၅၅ | ဘဂ္ဂဇာတ် | ချေအောင်လုပ်သည့်ဘီလူးအကြောင်း |
| ၁၅၆ | အလီနစိတ္တဇာတ် | မင်္ဂလာဆင့်နှင့်မင်းသားငယ်အကြောင်း |
| ၁၅၇ | ဂုဏဇာတ် | မြေခွေးနှင့်ခြင်္သေ့အကြောင်း |
| ၁၅၈ | သုဟနုဇာတ် | မြင်းကြမ်းနှစ်ကောင်အကြောင်း |
| ၁၅၉ | မောရဇာတ် | ရွှေဥဒေါင်းနှင့်ဒေါင်းမအကြောင်း |

| အမှတ်စဉ် | ဇာတ်တော်အမည် | အကြောင်းချုပ် |
| --- | --- | --- |
| ၁၆၀ | ဝိနီလကဇာတ် | ကျီးဟသ်ာအကြောင်း |
| ၁၆၁ | ဣန္ဒသမာနဂေါတ္တဇာတ် | ရသေ့နှင့်ဆင်ငယ်အကြောင်း |
| ၁၆၂ | သန္ထဝဇာတ် | မီးကိုပူဇော်သော ရသေ့အကြောင်း |
| ၁၆၃ | သုသီမဇာတ် | လုလင်နှင့် ဆင်မင်္ဂလာပွဲအကြောင်း |
| ၁၆၄ | ဂိဇ္ဈဇာတ် | သူဌေးနှင့်လင်းတများအကြောင်း |
| ၁၆၅ | နကုလဇာတ် | မြွေနှင့်မြွေပါအကြောင်း |
| ၁၆၆ | ဥပသာဠှကဇာတ် | ပုဏ္ဏားနှင့်သင်းချိုင်းအကြောင်း |
| ၁၆၇ | သမိဒ္ဓိဇာတ် | ရသေ့နှင့်နတ်သမီးအကြောင်း |
| ၁၆၈ | သကုဏဂ္ဃိဇာတ် | သိန်းနှင့်ဘီလုံးငှက်အကြောင်း |
| ၁၆၉ | အရကဇာတ် | မေတ္တာတန်ခိုးကြီးမားပုံအကြောင်း |
| ၁၇၀ | ကကဏ္ဋကဇာတ် | (မဟာဥမင်္ဂ–၅၄၂) |
| ၁၇၁ | ကလျာဏဇာတ် | သမက်နှင့်နားပင်းယောက္ခမ အကြောင်း |
| ၁၇၂ | ဒဒ္ဒရဇာတ် | ခြင်္သေ့နှင့်မြေခွေးအကြောင်း |
| ၁၇၃ | မက္ကဋဇာတ် | ရသေ့ဟန်ဆောင်သောမျောက် |
| ၁၇၄ | ဒုဗ္ဘိယမက္ကဋဇာတ် | ပုဏ္ဏားနှင့် မျောက်ပျက်အကြောင်း |
| ၁၇၅ | အာဒိစ္စုပဋ္ဌာနဇာတ် | သူတော်ယောင်ဆောင်သည့် မျောက် |
| ၁၇၆ | ကဠာယမုဋ္ဌိဇာတ် | အများမကြည့် အနည်းကြည့်သည့် မျောက် |
| ၁၇၇ | တိန္ဒုကဇာတ် | တည်ပင်နှင့်မျောက်များ အကြောင်း |
| ၁၇၈ | ကစ္ဆပဇာတ် | အိုးထိန်းသည်နှင့်လိပ်အကြောင်း |

| အမှတ်စဉ် | ဇာတ်တော်အမည် | အကြောင်းချုပ် |
|---|---|---|
| ၁၇၉ | သတဓမ္မဇာတ် | ဒွန်းစဏ္ဍားနှင့်ပုဏ္ဏားလုလင်အကြောင်း |
| ၁၈၀ | ဒုဒ္ဒဒဇာတ် | ရသေ့နှင့် ဒါယကာများအကြောင်း၊ |
| ၁၈၁ | အသဒိသဇာတ် | လေးဝိဇ္ဇာနှင့် အသဒိသ မင်းသား၊ အကြောင်း |
| ၁၈၂ | သင်္ဂါမာဝစရဇာတ် | စစ်ပွဲနှင့်ဆင်ပြောင်အကြောင်း |
| ၁၈၃ | ဝါလောဒကဇာတ် | မြင်းနှင့်မြည်းများအကြောင်း |
| ၁၈၄ | ဂိရိဒတ္တဇာတ် | မြင်းနှင့်ခြေခွင်မြင်းထိန်းအကြောင်း |
| ၁၈၅ | အနဘိရတိဇာတ် | စိတ်နောက်သောပုဏ္ဏားအကြောင်း၊ |
| ၁၈၆ | ဒဓိဝါဟနဇာတ် | လက်နက်ဆန်းသုံးသည့်မင်းအကြောင်း |
| ၁၈၇ | စတုမဋ္ဌဇာတ် | ရုက္ခစိုးနှင့်မြေခွေးအကြောင်း |
| ၁၈၈ | သီဟကောတ္ထုဇာတ် | ခြင်္သေ့နှင့်ခွေးခြင်္သေ့အကြောင်း |
| ၁၈၉ | သီဟစမ္မဇာတ် | ခြင်္သေ့ရေဖုံးသည့်မြည်းအကြောင်း၊ |
| ၁၉၀ | သီလာနိသံသဇာတ် | သူတော်ကောင်းနှင့်နဂါးမင်းအကြောင်း |
| ၁၉၁ | ရုဟကဇာတ် | ပုဏ္ဏားနှင့်မယားပျက်အကြောင်း၊ |
| ၁၉၂ | သိရိကာလကဏ္ဏိဇာတ် | (မဟာဥမင်—၅၄၂) |
| ၁၉၃ | စူဠပဒုမဇာတ် | မင်းသားနှင့်မယားယုတ်အကြောင်း၊ |
| ၁၉၄ | မဏိစောရ | လင်သတ်မယားယူသည့်မင်းအကြောင်း |
| ၁၉၅ | ပဗ္ဗတုပတ္ထရဇာတ် | မင်းနှင့်ကြာခိုအမတ်အကြောင်း၊ |
| ၁၉၆ | ဝလာဟကဇာတ် | ကုန်သည်များနှင့်ဘီလူးမများအကြောင်း |
| ၁၉၇ | မိတ္တာမိတ္တဇာတ် | မိတ်ဆွေနှင့်ရန်သူအကြောင်း |
| ၁၉၈ | ရာဓဇာတ် | ပုဏ္ဏားမပျက်နှင့် ကျေးညီနောင် |

| အမှတ်စဉ် | ဇာတ်တော်အမည် | အကြောင်းချုပ် |
|---|---|---|
| ၁၉၉ | ဂဟပတိဇာတ် | ရွာသူကြီးနှင့် လင်ငယ်နေသောမိန်းမ |
| ၂၀၀ | သာဓုသီလဇာတ် | ကိုယ်ကျင့်တရား အရေးကြီးပုံအကြောင်း |
| ၂၀၁ | ဗန္ဓနာဂါရဇာတ် | ကိလေသာနှောင်အိမ်အကြောင်း |
| ၂၀၂ | ကေဠိသီလဇာတ် | လူအိုများကိုရွံ့သည့်မင်းအကြောင်း |
| ၂၀၃ | ခန္ဓဇာတ် | မြွေဘေးကင်းကြစေသည့် ခန္ဓပရိတ် |
| ၂၀၄ | ဝီရကဇာတ် | တင်ကျီးနှင့်ကျီးကန်းအကြောင်း |
| ၂၀၅ | ဂင်္ဂေယျဇာတ် | အလှပြိုင်သည့် ငါးနှစ်ကောင်အကြောင်း |
| ၂၀၆ | ကုရုင်္ဂမိဂဇာတ် | သမင်၊ လိပ်၊ ငှက် သုံးဦးအကြောင်း |
| ၂၀၇ | အဿကဇာတ် | မယား ကို ချစ် လွန်း သည့် မင်းအကြောင်း |
| ၂၀၈ | သုံသုမာရဇာတ် | မိကျောင်းနှင့်မျောက်အကြောင်း |
| ၂၀၉ | ကုက္ကုဋဇာတ် | မုဆိုးနှင့်တောကြက်အကြောင်း |
| ၂၁၀ | ကန္ဒဂလကဇာတ် | ခေါက်ရှာငှက်နှစ်ကောင်အကြောင်း |
| ၂၁၁ | သောမဒတ္တဇာတ် | ရှက် ကြောက် လွန်း သည့် ပုဏ္ဏားအကြောင်း |
| ၂၁၂ | ဥစ္စိဋ္ဌဘတ္တဇာတ် | ပုဏ္ဏားနှင့် မယားပျက်အကြောင်း |
| ၂၁၃ | ဘရုဇာတ် | ရသေ့များနှင့် လာဘ်စားသည့်မင်းအကြောင်း |
| ၂၁၄ | ပုဏ္ဏနဒီဇာတ် | မင်းနှင့် ပညာရှိအမတ်အကြောင်း |
| ၂၁၅ | ကစ္ဆပဇာတ် | ဟင်္သာနှစ်ကောင်နှင့်လိပ်အကြောင်း |
| ၂၁၆ | မစ္ဆဇာတ် | တဏှာကြီးသောငါးအကြောင်း |

| အမှတ်စဉ် | ဇာတ်တော်အမည် | အကြောင်းချုပ် |
|---|---|---|
| ၂၁၇ | သေဂ္ဂုဇာတ် | ဟင်းရွက်သည်နှင့် သမီးအကြောင်း |
| ၂၁၈ | ကူဋဝါဏိဇဇာတ် | ကောက် ကျစ် သည့် ကုန် သည် အကြောင်း |
| ၂၁၉ | ဂရဟိတဇာတ် | လူသားနှင့်မျောက်မင်းအကြောင်း |
| ၂၂၀ | ဓမ္မဓဇဇာတ် | စပ် သူ ကြီး နှင့် ပ ညာ ရှိအ မတ် အကြောင်း |
| ၂၂၁ | ကာသာဝဇာတ် | ဆင် မင်း နှင့် အ ရေ ခြုံ မု ဆိုး အကြောင်း |
| ၂၂၂ | စူဠနန္ဒိယဇာတ် | မျောက်သိုးကောင်နှင့် မုဆိုးယုတ် အကြောင်း |
| ၂၂၃ | ပုဋဘတ္တဇာတ် | မင်းနှင့်မိဖုရားအကြောင်း |
| ၂၂၄ | ကုမ္ဘိလဇာတ် | (သံသုမာရ—၂၀၈) |
| ၂၂၅ | ခန္တိဝဏ္ဏဇာတ် | မင်းနှင့်ကြာခိုအမတ်အကြောင်း |
| ၂၂၆ | ကောသိယဇာတ် | ကျီးနှင့်ဇီးကွက်အကြောင်း |
| ၂၂၇ | ဂူထပါဏဇာတ် | ဆင်နှင့်မစင်ပိုးအကြောင်း |
| ၂၂၈ | ကာမနီတဇာတ် | လော ဘ ကြီး လွန်း သည့် မင်း အကြောင်း |
| ၂၂၉ | ပလာယိတဇာတ် | ကြောက် လွန်း သည့် မင်း အကြောင်း |
| ၂၃၀ | ဒုတိယပလာယိတဇာတ် | ॥ |
| ၂၃၁ | ဥပါဟနဇာတ် | ဆ ရာ ကို အန် တု သည့် တပည့် အကြောင်း |
| ၂၃၂ | ဝီဏာထူဏဇာတ် | ကုန်းနှင့် သူဌေးသမီးအကြောင်း |
| ၂၃၃ | ဝိကဏ္ဏကဇာတ် | မိကျောင်းနှင့်မြားအကြောင်း |
| ၂၃၄ | အသိတာဘူဇာတ် | မင်းသားနှင့်ကိန္နရီမအကြောင်း |

| အမှတ်စဉ် | ဇာတ်တော်အမည် | အကြောင်းချုပ် |
|---|---|---|
| ၂၃၅ | ဝစ္ဆနခဇာတ် | သူဌေးနှင့်ရသေ့အကြောင်း |
| ၂၃၆ | ဗကဇာတ် | ဗျိုင်းယုတ်နှင့်ငါးများအကြောင်း |
| ၂၃၇ | သာကေတဇာတ် | (သာကေတ–၆၈) |
| ၂၃၈ | ကေပဒဇာတ် | ကြီးပွားချင်သော သားလိမ္မာအကြောင်း |
| ၂၃၉ | ဟရိတမဏ္ဍူကဇာတ် | မြွေနှင့်ဖားညိုအကြောင်း |
| ၂၄၀ | မဟာပိင်္ဂလဇာတ် | ပိင်္ဂလမင်းနှင့် တံခါးစောင့်အကြောင်း |
| ၂၄၁ | သဗ္ဗဒါဌိဇာတ် | ပထဝီဇယမန္တန်နှင့် မြေခွေးအကြောင်း |
| ၂၄၂ | သုနခဇာတ် | သားရေကြိုးနှင့်ခွေးအကြောင်း |
| ၂၄၃ | ဂုတ္တိလဇာတ် | စောင်းတီးပြိုင်သည့်ဆရာတပည့် |
| ၂၄၄ | ဝိဂတိစ္ဆဇာတ် | ဝါဒပြိုင်သည့်ပရိဗိုဇ်အကြောင်း |
| ၂၄၅ | မူလပရိယာယဇာတ် | ဆရာကိုအထင်သေးသည့် တပည့်များအကြောင်း |
| ၂၄၆ | ဗာလောဝါဒဇာတ် | ရသေ့နှင့် ဒါယကာယုတ်အကြောင်း |
| ၂၄၇ | ပါဒဉ္ဇလိဇာတ် | နှုတ်ခမ်းကိုက်မင်းသားအကြောင်း |
| ၂၄၈ | ကိံသုကောပမဇာတ် | မင်းသားလေးဦးနှင့် ပေါက်ပင်အကြောင်း |
| ၂၄၉ | သာလကဇာတ် | မျောက်နှင့်အလမ္ပာယ်အကြောင်း |
| ၂၅၀ | ကပိဇာတ် | ရသေ့ဟန်ဆောင်သည့် မျောက်အကြောင်း |

| အမှတ်စဉ် | ဇာတ်တော်အမည် | အကြောင်းချုပ် |
|---|---|---|
| | **တိကနိပါတ်ဇာတ် ၅၀** | |
| ၂၅၁ | သင်္ကပ္ပဇာတ် | ရသေ့နှင့်မိဖုရားအကြောင်း |
| ၂၅၂ | တိလမုဋ္ဌိဇာတ် | ဆရာကိုရန်ငြိုးဖွဲ့သည့်မင်းသား |
| ၂၅၃ | မဏိကဏ္ဌ (ကုဏ္ဍလ) ဇာတ် | မဏိကဏ္ဌနဂါးနှင့်ရသေ့အကြောင်း |
| ၂၅၄ | ကုဏ္ဍကသိန္ဓဝဇာတ် | မင်းနှင့်သိန္ဓောမြင်းအကြောင်း |
| ၂၅၅ | သုကဇာတ် | အစားလွန်သည့်ကျေးသားအကြောင်း |
| ၂၅၆ | ဇရုဒပါနဇာတ် | ကုန်သည်များနှင့်နဂါးမင်းအကြောင်း |
| ၂၅၇ | ဂါမဏိစန္ဒဇာတ် | ပညာရှိမင်းနှင့်အမတ်ကြီးအကြောင်း |
| ၂၅၈ | မန္ဓာတုဇာတ် | တဏှာကြီးသည့်စကြာမင်းအကြောင်း |
| ၂၅၉ | တိရီတဝစ္ဆဇာတ် | မင်းနှင့် ကျေးဇူးရှင်ရသေ့အကြောင်း |
| ၂၆၀ | ဒူတဇာတ် | မင်းနှင့် ဝမ်း၏တမန်အကြောင်း |
| ၂၆၁ | ပဒုမဇာတ် | သူဌေးသားသုံးဦးနှင့် နှာခေါင်းပြတ် |
| ၂၆၂ | မုဒုပါဏိဇာတ် | မင်းသားနှင့် မင်းသမီးအလည်၂ အကြောင်း |
| ၂၆၃ | စူဠပလောဘနဇာတ် | မိန်းမနံ့မခံနိုင်သည့် မင်းသားအကြောင်း |
| ၂၆၄ | မဟာပနာဒဇာတ် | (သုရုစိ – ၄၈၉) |

| အမှတ်စဉ် | ဇာတ်တော်အမည် | အကြောင်းချုပ် |
|---|---|---|
| ၂၆၅ | ခုရပ္ပဇာတ် | ကုန်သည်နှင့် တောအုပ်မှူး အကြောင်း |
| ၂၆၆ | ဝါတဂ္ဂသိန္ဓဝဇာတ် | သိန္ဓောမြင်းနှင့် မြည်းမ အကြောင်း |
| ၂၆၇ | ကက္ကဋဇာတ် | ဆင်ပြောင်နှင့် ပုစွန်လုံး အကြောင်း |
| ၂၆၈ | အာရာမဒူသကဇာတ် | ဥယျာဉ်ဖျက်သည့် မျောက်ကြီး အကြောင်း |
| ၂၆၉ | သုဇာတဇာတ် | နှုတ်ကြမ်းသည့်မိဖုရားအကြောင်း |
| ၂၇၀ | ဥလူကဇာတ် | ကမ္ဘာရန်ကျီးနှင့် ဇီးကွက် အကြောင်း |
| ၂၇၁ | ဥဒပါနဒူသကဇာတ် | ရေတွင်းဖျက်သည့် မြေခွေး အကြောင်း |
| ၂၇၂ | ဗျဂ္ဃဇာတ် | ကျားခြသေ့်နှင့် နတ်မိုက် အကြောင်း |
| ၂၇၃ | ကစ္ဆပဇာတ် | လိပ်နှင့် လျှပ်ပေါ်သည့်မျောက် အကြောင်း |
| ၂၇၄ | လောလဇာတ် | ခိုနှင့် ကျီးမိုက်အကြောင်း |
| ၂၇၅ | ရုစိရဇာတ် | (လောလ – ၂၇၄) |
| ၂၇၆ | ကုရုဓမ္မဇာတ် | ပဉ္စသီလခေါ် ကုရုဓမ္မအကြောင်း |
| ၂၇၇ | ရောမကဇာတ် | ခိုနှင့်ရသေ့ပျက်အကြောင်း |
| ၂၇၈ | မဟိံသရာဇဇာတ် | ကျွဲမင်းနှင့် မျောက်ပျက် အကြောင်း |
| ၂၇၉ | သတပတ္တဇာတ် | ရန်သူနှင့်မိတ်ဆွေအကြောင်း |

| အမှတ်စဉ် | ဇာတ်တော်အမည် | အကြောင်းချုပ် |
|---|---|---|
| ၂၈၀ | ပုဋ္ဋဒူသကဇာတ် | အထုပ်ဖျက်စီးသည့် မျောက်အကြောင်း |
| ၂၈၁ | အဗ္ဘန္တရဇာတ် | ရသေ့များနှင့် သိကြားယုတ်အကြောင်း |
| ၂၈၂ | သေယျဇာတ် | ရန်အောင်သည့် မေတ္တာတရားအကြောင်း |
| ၂၈၃ | ဝဍ္ဎကီသူကရဇာတ် | ကျားနှင့် ဝက်စစ်ဗိုလ်ကြီးအကြောင်း |
| ၂၈၄ | သိရီဇာတ် | ကြက်သားနှင့် ဆင်ဆရာအကြောင်း |
| ၂၈၅ | မဏိသူကရဇာတ် | ပတ္တမြားဂူနှင့် ဝက်များအကြောင်း |
| ၂၈၆ | သာလူကဇာတ် | သေစာစားသည့် ဝက်အကြောင်း |
| ၂၈၇ | လာဘဂရဟဇာတ် | လာဘ်ပေါများခြင်းအကြောင်း |
| ၂၈၈ | မစ္ဆုဒ္ဒါနဇာတ် | ငွေထုတ်နှင့် ညီယုတ်အကြောင်း |
| ၂၈၉ | နာနာဆန္ဒဇာတ် | မင်းနှင့် ပုရောဟိတ်အကြောင်း |
| ၂၉၀ | သီလဝီမံသကဇာတ် | သီလကိုစုံစမ်းသူအကြောင်း |
| ၂၉၁ | သုရာဃဋဇာတ် | သိကြားမင်းနှင့် အရက်သမားအကြောင်း |
| ၂၉၂ | သုပတ္တဇာတ် | မင်းနှင့်ကျီးစစ်ဗိုလ်ကြီးအကြောင်း |
| ၂၉၃ | ကာယနိဗ္ဗိန္ဒဇာတ် | ခန္ဓာကိုယ်စက်ဆုတ်သည့် ရသေ့အကြောင်း |
| ၂၉၄ | ဇမ္ဗုခါဒကဇာတ် | ကျီးနှင့်မြေခွေးအကြောင်း |
| ၂၉၅ | အန္တဇာတ် | ကျီး၊ မြေခွေးနှင့် ကြက်ဆူပင်အကြောင်း |

| အမှတ်စဉ် | ဇာတ်တော်အမည် | အကြောင်းချုပ် |
| --- | --- | --- |
| ၂၉၆ | သမုဒ္ဒဇာတ် | ကျီးနှင့် သမုဒ္ဒရာအကြောင်း |
| ၂၉၇ | ကာမဝိလာပဇာတ် | ကာမမီးနှင့် လူမိုက်အကြောင်း |
| ၂၉၈ | ဥဒုမ္ဗရဇာတ် | မျောက်ငယ်နှင့် မျောက်ကြီးအကြောင်း |
| ၂၉၉ | ကောမာရပုတ္တဇာတ် | ရသေ့နှင့်မျောက်အကြောင်း |
| ၃၀၀ | ဝကဇာတ် | သူတော်ယောင်သစ်ကြုတ်အကြောင်း |

## စတုက္ကနိပါတ် ဇာတ် ၅၀

| | | |
| --- | --- | --- |
| ၃၀၁ | စူဠကာလိင်္ဂဇာတ် | စစ်ပြိုင်သည့်မင်းနှစ်ပါးအကြောင်း |
| ၃၀၂ | မဟာအဿာရောဟဇာတ် | မင်းနှင့်တောသားကြီးအကြောင်း |
| ၃၀၃ | ကေရာဇဇာတ် | မင်းကောင်းနှင့် မင်းမိုက်အကြောင်း |
| ၃၀၄ | ဒဒ္ဒရဇာတ် | အပြစ်ရသည့် နဂါးဆိုးအကြောင်း |
| ၃၀၅ | သီလဝီမံသနဇာတ် | သီလကိုစုံစမ်းသည့် ဆရာအကြောင်း |
| ၃၀၆ | သုဇာတဇာတ် | ဆီးသီးနှင့် မိဖုရားအကြောင်း |
| ၃၀၇ | ပလာသဇာတ် | ရုက္ခစိုးနတ်နှင့်သူဆင်းရဲအကြောင်း |
| ၃၀၈ | သကုဏဇာတ် | သစ်တောက်ငှက်နှင့်ခြင်္သေ့အကြောင်း |
| ၃၀၉ | ဆဝဇာတ် | မင်းနှင့် စဏ္ဍာလအကြောင်း |
| ၃၁၀ | သေယျဇာတ် | မင်းနှင့် ပုရောဟိတ်အကြောင်း |
| ၃၁၁ | ပုစိမန္ဒဇာတ် | ခိုးသူနှင့် တမာပင်အကြောင်း |
| ၃၁၂ | ကဿပမန္ဒိယဇာတ် | လူကြီးနှင့် လူငယ်အကြောင်း |
| ၃၁၃ | ခန္တီဝါဒီဇာတ် | ခန္တီရသေ့နှင့် ကလာဗုမင်းအကြောင်း |

| အမှတ်စဉ် | ဇာတ်တော်အမည် | အကြောင်းချုပ် |
|---|---|---|
| ၃၁၄ | လောဟကုမ္ဘီဇာတ် | ဒု၊ သ၊ န၊ သော အကြောင်း |
| ၃၁၅ | သဗ္ဗမံသလာဘဇာတ် | သူဌေးသားလေးဦးနှင့် မုဆိုး အကြောင်း |
| ၃၁၆ | သသပဏ္ဍိတဇာတ် | ဖျံ၊ မြေခွေး၊ မျောက်နှင့် ယုန်ပညာရှိအကြောင်း |
| ၃၁၇ | မတရောဒနဇာတ် | သတ္တဝါနှင့် သေခြင်းတရား အကြောင်း |
| ၃၁၈ | ကဏဝေရဇာတ် | ပြည့်တန်ဆာမနှင့် ခိုးသူကြီး အကြောင်း |
| ၃၁၉ | တိတ္တိရဇာတ် | မုဆိုးနှင့် တယ်ခါအကြောင်း |
| ၃၂၀ | သုစ္စဇဇာတ် | ကျေးဇူးကန်းသည့် မင်းအကြောင်း |
| ၃၂၁ | ကုဋိဒူသကဇာတ် | စာဝတီးငှက်နှင့် မျောက်မိုက် အကြောင်း |
| ၃၂၂ | ဒုဒ္ဒုဘဇာတ် | ယုန်နှင့် မြေပြိုခြင်းအကြောင်း |
| ၃၂၃ | ဗြဟ္မဒတ္တဇာတ် | တောင်းရန်ဝန်လေးသည့် ရသေ့ |
| ၃၂၄ | စမ္မသာဋကဇာတ် | ပရိဗိုဇ်နှင့် သိုးအကြောင်း |
| ၃၂၅ | ဂေါဓရာဇဇာတ် | ဖွတ်နှင့် ရသေ့ကောက်အကြောင်း |
| ၃၂၆ | ကက္ကာရုဇာတ် | နတ်ပန်းကုံးနှင့် ပုရောဟိတ် အကြောင်း |
| ၃၂၇ | ကာကဝတီဇာတ် | မိဖုရားနှင့် ဂဠုန်မင်းအကြောင်း |
| ၃၂၈ | အနနုသောစိယဇာတ် | ရသေ့နှင့် ရသေ့မအကြောင်း |
| ၃၂၉ | ကာဠဗာဟုဇာတ် | ကျေးညီနောင်နှင့် မျောက်ညိုကြီး အကြောၚ်း |
| ၃၃၀ | သီလဝီမံသဇာတ် | သီလကို စုံစမ်းသူအကြောင်း |
| ၃၃၁ | ကောကိလဇာတ် | စကားများသည့် မင်းအကြောင်း |

| အမှတ်စဉ် | ဇာတ်တော်အမည် | အကြောင်းချုပ် |
|---|---|---|
| ၃၃၂ | ရထလဋ္ဌိဇာတ် | ပုရောဟိတ် နှင့် လှည်းသမား အကြောင်း |
| ၃၃၃ | ပက္ကဂေါဓဇာတ် | ကျေးဇူးကန်းသည့် မင်းအကြောင်း |
| ၃၃၄ | ရာဇောဝါဒဇာတ် | မင်းနှင့် တိုင်းပြည်အကြောင်း |
| ၃၃၅ | ဇမ္ဗုကဇာတ် | ခြင်္သေ့နှင့် မာန်ထောင်သောမြေခွေး အကြောင်း |
| ၃၃၆ | ဗြဟာဆတ္တဇာတ် | ပညာရှိ ဆတ္တမင်းသားအကြောင်း |
| ၃၃၇ | ပီဌဇာတ် | ရသေ့နှင့် သူဌေးအကြောင်း |
| ၃၃၈ | ထုသဇာတ် | မင်း နှင့် အသက်ကယ် မန္တန် အကြောင်း |
| ၃၃၉ | ဗာဝေရုဇာတ် | ကျီးကန်းနှင့် ဥဒေါင်းအကြောင်း |
| ၃၄၀ | ဝိသယှဇာတ် | မလှူဘဲမနေနိုင်သည့် သူဌေး အကြောင်း |
| ၃၄၁ | ကဏ္ဍရီဇာတ် | (ကုဏာလ—၅၃၆) |
| ၃၄၂ | ဝါနရဇာတ် | မျောက်နှင့် မိကျောင်းမိုက် အကြောင်း |
| ၃၄၃ | ကုန္တိနိ | ဂလဲ့စားချေသည့် ကြိုးကြာမ အကြောင်း |
| ၃၄၄ | အမ္ဗစောရဇာတ် | သရက်တောနှင့် ရသေ့စဉ်းလဲ အကြောင်း |
| ၃၄၅ | ဂဇကုမ္ဘဇာတ် | အလွန်ပျင်းသည့် မင်းအကြောင်း |
| ၃၄၆ | ကေသဝဇာတ် | ကေသဝနှင့် ကပ္ပရသေ့နှစ်ပါး အကြောင်း |
| ၃၄၇ | အယကူဋဇာတ် | မင်းနှင့် ဘီလူးကြမ်းအကြောင်း |
| ၃၄၈ | အရညဇာတ် | မိန်းမပျိုနှင့် ရသေ့ငယ်အကြောင်း |

| အမှတ်စဉ် | ဇာတ်တော်အမည် | အကြောင်းချုပ် |
|---|---|---|
| ၃၄၉ | သန္ဓိဘေဒဇာတ် | ခြင်္သေ့၊ နွားနှင့် မြေခွေးအကြောင်း |
| ၃၅၀ | ဒေဝတာပဥှဇာတ် | (မဟာဥမင်–၅၄၂) |

## ပဉ္စကနိပါတ် ၂၅ ဇာတ်

| အမှတ်စဉ် | ဇာတ်တော်အမည် | အကြောင်းချုပ် |
|---|---|---|
| ၃၅၁ | မဏိကုဏ္ဍလဇာတ် | မင်းကောင်းနှင့်မင်းမိုက်အကြောင်း |
| ၃၅၂ | သုဇာတဇာတ် | သေသူကိုတ၍ ငိုခြင်းအကြောင်း |
| ၃၅၃ | ဝေနသာခဇာတ် | မင်းမိုက်နှင့် ပုရောဟိတ်အကြောင်း |
| ၃၅၄ | ဥရဂဇာတ် | သိကြား မင်း နှင့် လယ်သမား အကြောင်း |
| ၃၅၅ | ဃတဇာတ် | မင်းကောင်းနှင့်မင်းမိုက်အကြောင်း |
| ၃၅၆ | ကာရဏ္ဍိယဇာတ် | လူတိုင်းအားသီလပေးသည့် ဆရာကြီး |
| ၃၅၇ | လဋုကိကဇာတ် | ဆင်မိုက်နှင့်နှံစုတ်ငှက်အကြောင်း |
| ၃၅၈ | စူဠဓမ္မပါလဇာတ် | သားကိုသတ်သည့်မင်းမိုက် အကြောင်း |
| ၃၅၉ | သုဝဏ္ဏမိဂဇာတ် | ရွှေသမင်နှင့်မယားလိမ္မာ အကြောင်း |
| ၃၆၀ | သုယောနန္ဒီဇာတ် | မိဖုရားနှင့် ဂဠုန်မင်းအကြောင်း |
| ၃၆၁ | ဝဏ္ဏာရောဟဇာတ် | ခြင်္သေ့ကျားနှင့် မြေခွေးအကြောင်း |
| ၃၆၂ | သီလဝီမံသဇာတ် | သီလကိုစုံစမ်းသူအကြောင်း |
| ၃၆၃ | ဟိရိဇာတ် | မိတ်ဆွေယုတ်အကြောင်း |
| ၃၆၄ | ခဇ္ဇောပနကဇာတ် | (မဟာဥမင် – ၅၄၂) |
| ၃၆၅ | အဟိတုဏ္ဍိကဇာတ် | အလမ္ပာယ်နှင့်မျောက်အကြောင်း |

| အမှတ်စဉ် | ဇာတ်တော်အမည် | အကြောင်းချုပ် |
|---|---|---|
| ၃၆၆ | ဂုမ္ဗိယဇာတ် | ကုန်သည်နှင့် ဘီလူးအကြောင်း |
| ၃၆၇ | သာဠိယဇာတ် | မြွေနှင့်ဆေးဆရာယုတ်အကြောင်း |
| ၃၆၈ | တစသာရဇာတ် | မြွေနှင့် ဆေးဆရာယုတ်အကြောင်း |
| ၃၆၉ | မိတ္တဝိန္ဒကဇာတ် | သားဆိုးမိတ္တဝိန္ဒကအကြောင်း |
| ၃၇၀ | ပလာသဇာတ် | ပေါက်ပင်နတ်နှင့် ရွှေဟင်္သာအကြောင်း |
| ၃၇၁ | ဒီဃိတိကောသလဇာတ် | ဒီဃာဝုမင်းသားအကြောင်း |
| ၃၇၂ | မိဂပေါတကဇာတ် | သမင်ငယ်နှင့် ရသေ့အကြောင်း |
| ၃၇၃ | မူသိကဇာတ် | မင်းနှင့် အသက်ကယ်မန္တန်အကြောင်း |
| ၃၇၄ | စူဠဓနုဂ္ဂဟဇာတ် | သူခိုးကိုခါးရိုးကမ်းသည့်မိန်းမ |
| ၃၇၅ | ကပေါတဇာတ် | ခိုနှင့် ကျီးပျက်အကြောင်း |

## ဆက္ကနိပါတ် ဇာတ် ၂၀

| အမှတ်စဉ် | ဇာတ်တော်အမည် | အကြောင်းချုပ် |
|---|---|---|
| ၃၇၆ | အဝါရိယဇာတ် | ရသေ့နှင့်လှေသူကြီးမိုက်အကြောင်း |
| ၃၇၇ | သေတကေတုဇာတ် | သေတကေတုရသေ့အကြောင်း |
| ၃၇၈ | ဒရီမုခဇာတ် | မင်းနှင့်ပစ္စေကဗုဒ္ဓါအကြောင်း |
| ၃၇၉ | နေရုဇာတ် | နေရုတောင်နှင့် ရွှေဟင်္သာအကြောင်း |
| ၃၈၀ | အာသင်္ကာဇာတ် | မင်းနှင့်မိန်းမလှအကြောင်း |
| ၃၈၁ | မိဂါလောပဇာတ် | အပျံလွန်သော လင်းတအကြောင်း |
| ၃၈၂ | သိရီကာဠကဏ္ဏိဇာတ် | နတ်သမီးနှစ်ဦးနှင့်သူဌေးအကြောင်း |

| အမှတ်စဉ် | ဇာတ်တော်အမည် | အကြောင်းချုပ် |
| --- | --- | --- |
| ၃၇၃ | ကုက္ကုဋ္ဌဇာတ် | ကြက်မင်းနှင့်ပုဏ္ဏားယုတ် အကြောင်း |
| ၃၇၄ | ဓမ္မဓဇဇာတ် | ကျီးယုတ်နှင့် ငှက်များအကြောင်း |
| ၃၇၅ | နန္ဒိယမိဂဇာတ် | မိဘကိုလုပ်ကျွေးသည့် သမင် အကြောင်း |
| ၃၇၆ | ခရပုတ္တဇာတ် | မ အလိုလိုက်သည့်မင်းမိုက် အကြောင်း |
| ၃၇၇ | သူစိဇာတ် | အပ်ဆန်းနှင့် ပန်းပဲသူကြီး အကြောင်း |
| ၃၇၈ | တုဏ္ဍိလဇာတ် | ဝက်ညီနောင်အကြောင်း |
| ၃၇၉ | သုဝဏ္ဏကက္ကဋ္ဌဇာတ် | ရွှေပုစွန်လုံးနှင့်လယ်သမား အကြောင်း |
| ၃၈၀ | မယှကဇာတ် | မလှူခြင်းနှင့် သူ့သက်သတ်ခြင်း အကြောင်း |
| ၃၈၁ | ဝိဇ္ဇာဓရဇာတ် | မိဖုရားနှင့်ဝိဇ္ဇာဓိုရ်အကြောင်း |
| ၃၈၂ | သိင်္ဃပုပ္ဖဇာတ် | နတ်သမီးနှင့် ရသေ့အကြောင်း |
| ၃၈၃ | ဝိဃာသာဒဇာတ် | ကစားမြူးတူးကြသည့် ရသေ့များ အကြောင်း |
| ၃၈၄ | ဝဋ္ဋကဇာတ် | ငုံးနှင့်ကျီးကန်းအကြောင်း |
| ၃၈၅ | ပါရဝတဇာတ် | ခိုနှင့်ကျီးပျက်အကြောင်း |

## သတ္တကနိပါတ် ၂၁ ဇာတ်

| အမှတ်စဉ် | ဇာတ်တော်အမည် | အကြောင်းချုပ် |
| --- | --- | --- |
| ၃၈၆ | ကုက္ကုဇာတ် | ပညာရှိအမတ်နှင့် မင်းဆိုး အကြောင်း |

| အမှတ်စဉ် | ဇာတ်တော်အမည် | အကြောင်းချုပ် |
|---|---|---|
| ၃၉၇ | မနောဇဇာတ် | မြေခွေးယုတ်နှင့် ခြင်္သေ့မိုက် |
| ၃၉၈ | သုတနုဇာတ် | ဘီလူးနှင့် သုတနုလုလင်အကြောင်း |
| ၃၉၉ | ဂိဇ္ဈဇာတ် | မိဘလုပ်ကျွေးသည့် လင်းတ အကြောင်း |
| ၄၀၀ | ဒဗ္ဗပုပ္ဖဇာတ် | ဖျံနှစ်ကောင်နှင့်မြေခွေးအကြောင်း |
| ၄၀၁ | ပဏ္ဏကဇာတ် | မိဖုရားကိုခေတ္တပေးသောမင်း အကြောင်း |
| ၄၀၂ | သတ္တုဘသတဇာတ် | မုန့်အိတ်နှင့်ပုဏ္ဏားကြီး အကြောင်း |
| ၄၀၃ | အဋ္ဌိသေနဇာတ် | မင်းနှင့်ရသေ့အကြောင်း |
| ၄၀၄ | ကပိဇာတ် | ပုရောဟိတ် နှင့် မျောက် ယုတ် အကြောင်း |
| ၄၀၅ | ဗကဇာတ် | ဘုရားနှင့် ဗကဗြဟ္မာအကြောင်း |
| ၄၀၆ | ဂန္ဓာရဇာတ် | မိတ်ဆွေရသေ့နှစ်ပါးအကြောင်း |
| ၄၀၇ | မဟာကပိဇာတ် | မျောက် မင်း နှင့် မျောက် ယုတ် အကြောင်း |
| ၄၀၈ | ကုမ္ဘကာရဇာတ် | ပစ္စေကဗုဒ္ဓါလေးပါးနှင့် အိုးထိန်းသည် |
| ၄၀၉ | ဒဠှဓမ္မဇာတ် | မင်္ဂလာ ဆင် နှင့် မင်း မိုက် အကြောင်း |
| ၄၁၀ | သောမဒတ္တဇာတ် | ဆင်ငယ်နှင့်ရသေ့အကြောင်း |
| ၄၁၁ | သုသီမဇာတ် | ပုရောဟိတ်နှင့် မိဖုရားအကြောင်း |
| ၄၁၂ | ကောဋသိမ္ဗလိဇာတ် | နဂါးမင်းနှင့်ဂဠုန်မင်းအကြောင်း |
| ၄၁၃ | ဓူမကာရိဇာတ် | အသစ်မြင်၍ အ ဟောင်း မေ့သော မင်း |
| ၄၁၄ | ဇာဂရဇာတ် | နတ်သမီးနှင့် စင်္ကြံသွားရသေ့ |

| အမှတ်စဉ် | ဇာတ်တော်အမည် | အကြောင်းချုပ် |
|---|---|---|
| ၄၁၅ | ကုမ္မာသပိဏ္ဍဇာတ် | မုယောမုန့်လှူ၍ မင်းဖြစ်သူအကြောင်း |
| ၄၁၆ | ပရန္တပဇာတ် | မင်းယုတ်နှင့် မင်းသားအကြောင်း |

## အဋ္ဌကနိပါတ် ၁၀ ဇာတ်

| | | |
|---|---|---|
| ၄၁၇ | ကစ္စာနီဇာတ် | ချွေးမနှင့်ယောက္ခမအကြောင်း |
| ၄၁၈ | အဋ္ဌသဒ္ဒဇာတ် | မင်းနှင့်အသံရှစ်မျိုးအကြောင်း |
| ၄၁၉ | သုလသာဇာတ် | ပြည့်တန်ဆာမနှင့် ခိုးသူကြီးအကြောင်း |
| ၄၂၀ | သုမင်္ဂလဇာတ် | မင်းနှင့်ဥယျာဉ်မှူးအကြောင်း |
| ၄၂၁ | ဂင်္ဂမာလဇာတ် | မင်းနှင့်ဆတ္တာသည်အကြောင်း |
| ၄၂၂ | စေတိယဇာတ် | မြေမျိုခံရသည့် စေတိယမင်းအကြောင်း |
| ၄၂၃ | ဣန္ဒြိယဇာတ် | ဘရဘင်္ဂနှင့် နာရဒရသေ့ နှစ်ပါးအကြောင်း |
| ၄၂၄ | အာဒိတ္တဇာတ် | မင်းနှင့်ပစ္စေကဗုဒ္ဓါများအကြောင်း |
| ၄၂၅ | အဋ္ဌာနဇာတ် | သူဌေးနှင့် ပြည့်တန်ဆာမအကြောင်း |
| ၄၂၆ | ဒီပိဇာတ် | သစ်နှင့်ဆိတ်မအကြောင်း |

## နဝကနိပါတ် ၁၂ ဇာတ်

| | | |
|---|---|---|
| ၄၂၇ | ဂိဇ္ဈဇာတ် | အပိုလွန်သည့် လင်းတအကြောင်း |
| ၄၂၈ | ကောသမ္ဗီဇာတ် | (ဒီဃိတိကောသလ ၃၇၁) |

| အမှတ်စဉ် | ဇာတ်တော်အမည် | အကြောင်းချုပ် |
|---|---|---|
| ၄၂၉ | မဟာသုဝရာဇဇာတ် | ကျေးမင်းနှင့်သစ်ငုတ်တိုအကြောင်း |
| ၄၃၀ | စူဠသုဝရာဇဇာတ် | (မဟာသုဝရာဇ ၄၂၉) |
| ၄၃၁ | ဟရိတစဇာတ် | မိဖုရားနှင့်ရသေ့အကြောင်း |
| ၄၃၂ | ပဒကုသလမာဏဝဇာတ် | ခိုး သူ ကို ခြေ ရာ ခံလိုက် နိုင်သူ အကြောင်း |
| ၄၃၃ | လောမကဿပဇာတ် | ရသေ့နှင့်မင်းသမီးအကြောင်း |
| ၄၃၄ | စက္ကဝါကဇာတ် | စက္ကဝါက်နှင့် ကျီးကန်းအကြောင်း |
| ၄၃၅ | ဟလိဒ္ဒိရာဂဇာတ် | မိန်းပျိုနှင့် ရသေ့အကြောင်း |
| ၄၃၆ | သမုဂ္ဂဇာတ် | မိန်းမပျိုနှင့် ရက္ခိုက်အကြောင်း |
| ၄၃၇ | ပူတိမံသဇာတ် | မြေခွေးနှင့်ဆိတ်အကြောင်း |
| ၄၃၈ | တိတ္တိရဇာတ် | ရသေ့ပျက်နှင့်ခါအကြောင်း |

## ဒသကနိပါတ် ၁၆ ဇာတ်

| | | |
|---|---|---|
| ၄၃၉ | စတုဒွါရဇာတ် | သားမိုက်မိတ္တဝိန္ဒကအကြောင်း |
| ၄၄၀ | ကဏှဇာတ် | သိကြားမင်းနှင့်ရသေ့အကြောင်း |
| ၄၄၁ | စတုပေါသထိကဇာတ် | (ဝိဓူရ ၅၄၅) |
| ၄၄၂ | သင်္ခဇာတ် | သူဌေးနှင့်မဏိမေခလာနတ်သမီး |
| ၄၄၃ | စူဠဗောဓိဇာတ် | မင်းနှင့်ရသေ့မအကြောင်း |
| ၄၄၄ | ကဏှဒီပါယနဇာတ် | မင်းနှင့်ရသေ့နှစ်ပါးအကြောင်း |
| ၄၄၅ | နိဂြောဓဇာတ် | မိတ်ဆွေလုလင်သုံးဦးအကြောင်း |
| ၄၄၆ | တက္ကလဇာတ် | ချွေးမနှင့်ယောက္ခမအကြောင်း |
| ၄၄၇ | မဟာဓမ္မပါလဇာတ် | အသက်ရှည်သော ဓမ္မပါလမျိုး |
| ၄၄၈ | ကုက္ကုဋဇာတ် | ကြက်မင်းနှင့်စွန်ယုတ်အကြောင်း |
| ၄၄၉ | မဋ္ဌကုဏ္ဍလီဇာတ် | သားသေ၍ငိုကြွေးသောပုဏ္ဏား |

| အမှတ်စဉ် | ဇာတ်တော်အမည် | အကြောင်းချုပ် |
|---|---|---|
| ၄၅၀ | ဗိဠာရကောသိယဇာတ် | သိကြားမင်းနှင့် ကပ်စေးနဲသူဌေး |
| ၄၅၁ | စက္ကဝါကဇာတ် | စက္ကဝါကျက်ငှက်နှင့် ကျီးကန်း အကြောင်း |
| ၄၅၂ | ဘူရိပဉ္ဇဇာတ် | (မဟာဥမင် – ၅၄၂) |
| ၄၅၃ | မဟာမင်္ဂလဇာတ် | မင်္ဂလာကြီးရှစ်ပါးအကြောင်း |
| ၄၅၄ | ဃဋပဏ္ဍိတဇာတ် | ဒွါရာဝတီပြည်နှင့် ဝါသုဒေဝ မင်းဆက် |

## ကောဒသကနိပါတ် ၉ ဇာတ်

| အမှတ်စဉ် | ဇာတ်တော်အမည် | အကြောင်းချုပ် |
|---|---|---|
| ၄၅၅ | မာတုပေါသထဇာတ် | အမိကိုလုပ်ကျွေးသော ဆင်ဖြူ အကြောင်း |
| ၄၅၆ | ဇုဏှဇာတ် | မင်းသားနှင့် သူတောင်းစား အကြောင်း |
| ၄၅၇ | ဓမ္မဒေဝပုတ္တဇာတ် | နတ်ကောင်းနှင့် နတ်ယုတ် အကြောင်း |
| ၄၅၈ | ဥဒယဘဒ္ဒဇာတ် | နတ်ဘဝနှင့် လူ့ဘဝအကြောင်း |
| ၄၅၉ | ပါနီယဇာတ် | မိမိအပြစ်မြင်သူငါးဦးအကြောင်း |
| ၄၆၀ | ယုဓဉ္စယဇာတ် | ဆီးနှင်းပေါက်နှင့် မင်းသား အကြောင်း |
| ၄၆၁ | ဒသရထဇာတ် | ရာမ၊ လက္ခဏာနှင့် သီတာ အကြောင်း |
| ၄၆၂ | သံဝရဇာတ် | သံဝရမင်းသားအကြောင်း |
| ၄၆၃ | သုပ္ပါဒကဇာတ် | မျက်မမြင်မာလိန်မှူးနှင့် ကုန်သည်များ |

